紅樓夢

# မြသန်းတင့်

# ခန်းဆောင်နီအိပ်မက်

# A DREAM OF RED MANSIONS

TSAO HSUEH CHIN
& KAO NGO

(ဒုတိယတွဲ)



အတွဲ ၂



မြသန်းတင့်

ခန်းဆောင်နီအိပ်မက်

(ဒုတိယတွဲ)



စာမူခွင့်ပြုချက် အမှတ်(၄၅၀)
မျက်နှာဖုံးခွင့်ပြုချက်အမှတ်(၄၉၁)
မျက်နှာဖုံးပန်းချီ တင်မောင်မျိုး
မျက်နှာဖုံးရိုက် သိန်းမြင့်ဝင်းအော့ဖ်ဆက်

၁၉၈၈-ဖေဖော်ဝါရီ
ပထမအကြိမ်
အုပ်ရေ-တစ်ထောင်
စာအုပ်ချုပ် - ပပစိုးနှင့်အဖွဲ့

ဒေါ်ခင်စီ(၀၂၅၀၇)၊ပြည်ဦးဘောပုံနှိပ်တိုက်၊
အမှတ်၁၅၈၊၃၇ လမ်း၊ ရန်ကုန်မြို့တွင် ရိုက်နှိပ်ပြီး၊
ဦးသန်းမြင့် (၀၁၀၄၀)၊ လင်းလင်းစာပေ၊
အမှတ် ၉၃၇၊ ၁၀ မိုင်၊ အင်းစိန်မှ ထုတ်ဝေသည်။



# မြသန်းတင့်

## ခန်းဆောင်နီအိပ်မက်

# A DREAM OF RED MANSIONS

TSAO HSUEH CHIN
& KAO NGO

တန်ဖိုး - လေးဆယ့်နှစ်ကျပ်။

## အခန်း ၁၇

### မဟာ့နန္ဒာဥယျာဉ်တော်တွင် လက်ာစပ်၍ အရည်အသွေး စပ်းသပ်ခြင်း။ နိမောင်းပျော်ဖွယ်ရင်ပြင်တွင် လမ်းပျောက်သူများ အေးရိပ်သာကို ရှာကြခြင်း။

ပေါက်ယုသည် ကျင့်ချွန်း၏အလောင်းဘေးတွင် ငိုနေသည်မှာ မရပ်နိုင်တော့ချေ။ လီကွေ့နှင့် အစေတော်များက ပြန်ရန်ခေါ်သည့် အခါကျမှ ပေါက်ယု အငိုရပ်တော့သည်။ ပြန်လာသည့် တိုင်အောင်လည်း ပေါက်ယုမှာ ငိုယိုပူဆွေးလျက်ရှိ၏။ မယ်မယ်သည် အသုဘအကူပစ္စည်းများအပြင် ငွေအများအပြားကိုလည်း ကျင်ချွန်း၏မိသားစုကိုပေး၏။ ပေါက်ယုသည် သတ်သတ်လည်း အသုဘမေးသွားသေး၏။ ခုနစ်ရက်အကြာ၌ ကျင်ချွန်း၏အသုဘကိစ္စ ပြီးစီးခဲ့လေ၏။ ထိုအကြောင်းကိုမူ အသေးစိတ်မဖော်ပြတော့ပြီ။ ပေါက်ယုသည် သူ့သူငယ်ချင်းကို နေ့စဉ်နှင့်အမျှ လွမ်းဆွတ်အောက်မေ့လျက်ရှိသော်လည်း ဘာမျှမတတ်နိုင်တော့ပြီ။

ရက်အနည်းငယ် ကြာသည့်အခါ၌ ကျိချန်က ဥယျာဉ်ထဲတွင် ယာယီတဲနန်း ဆောက်လုပ်သည့်ကိစ္စမှာ ပြီးစီးပြီဖြစ်ကြောင်း၊ ဦးကြီးကျိရှဲကလည်း စစ်ဆေးပြီးဖြစ်ကြောင်းနှင့် ဦးလေးကျိချိန်ကိုလာရောက်
F.1 ပြောကြား၏။

"အားလုံး အဆင်သင့်ဖြစ်ပါပြီ ဦးလေး။ ကြည့်ချင်ယင် ကြည့်လို့ရပါပြီ။ တကယ်လို့ ဦးလေး ပြင်ချင်တာ ရှိယင်လဲ နေရာတွေမှာ ကမ္ပည်းတွေမထိုးခင် ပြင်နိုင်ပါတယ်"

ကျီချိန်သည် အတန်ကြာမျှ စဉ်းစားလျက်ရှိကာ

"ကမ္ပည်းစာတန်းထိုးဖို့ကိစ္စကတော့ နည်းနည်း စဉ်းစားရမယ် ကွယ့်။ ထုံးတမ်းစဉ်လာအရ ပြောရမယ်ဆိုယင်တော့ ဒီနေရာကိုကမ္ပည်းစာတန်းထိုးဖို့အတွက် ထိပ်ထားလေးကိုယ်တိုင် စပ်ဆိုပေးဖို့ လျှောက်ရမှာ။ ဒါပေမယ့် ဥက်တာက ဒီနေရာတွေကို ထိပ်ထားလေးကိုယ်တိုင်မှ မမြင်ဖူးသေးတော့ ဘယ့်နှယ်လုပ်ပြီး စာစပ်နိုင်မှလဲ။ ဒီလိုမှမဟုတ်လို့ ထိပ်ထားလေးကိုယ်တိုင် ကြွလာတဲ့အချိန်မှာ အဓိက နေရာကြီးတွေမှာ ကမ္ပည်းစာတန်းတို့အာတို့ ထိုးပြီးသားမရှိပြန်ယင်လဲ မကောင်းပြန်ဘူး။ ဥယျာဉ်တော်ကြီးက ပန်းပင်တွေ၊ မိုးမခပင်တွေ၊ ကျောက်ပန်းပင်တွေ၊ စမ်းချောင်းတွေနဲ့ ဘယ့်ကလောက်ပဲ သာယာတင့်တယ် ရှုချင့်စဖွယ်ဖြစ်နေပေ့စေ ကမ္ပည်းစာတန်းမရှိဘူးဆိုယင် ကြည့်လို့ မတင့်တယ်ပေဘူး"

"ဟုတ်တာပေါ့ သခင်ကြီးရယ်"ဟု ကျီချိန်၏ နောက်လိုက်အခြွေအရံတို့က ထောက်ခံပြောဆိုကြလေ၏။

တစ်ယောက်က

"တစ်ခုတော့ ရှိတယ်ခင်ဗျ။ တချို့နေရာတွေမှာ ကမ္ပည်းစာတန်း ထိုးပြီးသားရှိရမယ်ဆိုတာလဲ ဟုတ်တာပဲ။ ပြီးတော့ အကုန်လုံးကို ကြိုတင်ပြီးကမ္ပည်းစာတန်းတွေ ထိုးထားတယ် ဆိုပြန်ယင်လဲ သိပ်မကောင်းလှဘူး။ ဒီတော့ နေရာတိုင်းအတွက် ကမ္ပည်း ထိုးနိုင်အောင် ယာယီ လင်္ကာတိုကလေးတွေ စပ်ထားနှင့်ယင် မကောင်းပေဘူးလား။ လောလောဆယ်မှာ အသေကပ်မထားချင်ယင် မီးအိမ်တွေဘေးမှာ စာတန်းလေးတွေ ချိတ်ဆွဲထားပေါ့။ ဒါမှမဟုတ်ယင်လဲ စာလိပ်ကလေးတွေ ချိတ်ထားတာပေါ့။ ထိပ်ထားလေးကြွလာတဲ့အခါကျတော့ ဘယ်ကမ္ပည်းကို အမြဲချိတ်လို့ကောင်းမလဲဆိုတာ ရွေးပေးဖို့ လျှောက်ထားကြည့်တာပေါ့။ သူကိုယ်တိုင်လဲစိတ်ကြိုက်ဖြစ်၊ စာတန်းလဲချိတ်ပြီးသားဖြစ်အောင်ဆိုယင်တော့ ဒီနည်းပဲ ရှိတော့တာပဲ"





ကျီချိန်က

"မှန်လိုက်လေဗျာ။ ဒီနေ့လျှောက်ကြည့်ပြီး ကမ္ပည်းစာတန်းတွေကို စဉ်းစားကြည့်ကြစို့ပ။ သင့်ယင်လဲရွေး၊ မသင့်ဘူးဆိုယင်လဲ ယုဆုန်ကို စာအစပ်ခိုင်းရပေတော့မှာပဲ"

"ကောင်းပါတယ်သခင်ကြီး၊ ယုဆုန်ကိုတောင် စာအစပ်ခိုင်းဖို့ လိုမယ် မထင်ပါဘူး၊ သခင်ကြီး"

"ရှင်းရှင်းပြောရယင်တော့ ကျုပ်က ဒီလိုစာစပ်တာမျိုးကို သိပ်မကျွမ်းကျင်ပေဘူးဗျ။ ပန်းပွင့်တွေ၊ ကျေးငှက်သာရကာတွေ၊ ရှုမျှော်ခင်းတွေစတဲ့ သဘာဝအလှအပတွေကို ကျုပ်ငယ်ငယ်ကတည်းက တယ်ပြီး စာမစပ်ဖူးခဲ့ဘူး။ ခုတော့အသက်ကလဲကြီး၊ တာဝန်တွေကလဲများလေတော့ ဒီလိုစာကဗျာမျိုးကို ဘယ်လိုစပ်ရမှန်းတောင် မသိလောက်အောင်ဖြစ်နေပြီ။ ကျုပ် စပ်ယင် တောင့်တောင့်တောင့်နဲ့။ ဥယျာဉ်အလှကို မိအောင် ဘယ်နည်းနဲ့မှ စပ်နိုင်မှာမဟုတ်ပေဘူး။ ကျုပ် စာစပ်လိုက်တာမှ ဥယျာဉ်ဟာ မလှတဲ့အပြင် ပိုတောင်ဆိုးသွားလိမ့်ဦးမယ် ထင်တယ်"

အနီးတွင်ရှိသည့် စာရေးတော်ကြီးများက

"ဒါအတွက်တော့ စိုးရိမ်ကြောင့်ကြ မဖြစ်ပါနဲ့ သခင်ကြီး။ ကျွန်တော်တို့လဲ ဒီလိုဉာဏ်ထုတ်ပြီး စပ်ကြရမှာပ။ ကျွန်တော်တို့အားလုံး စာတစ်ပုဒ်စီစပ်ပြီး အဲဒီအထဲက အကောင်းဆုံးကို ရွေးရမှာပေါ့။ မကောင်းတာတွေကို ဖယ်ပေါ့။ ဒီလိုလုပ်ယင် ဟန်ကျသွားမှာပါ"

"ဟုတ်ပြီဗျ။ ကဲ ရာသီဥတုသာယာတာနဲ့ အတော်ပဲ။ ဥယျာဉ်တော်ထဲ လျှောက်ကြည့်လိုက်ကြဦးစို့ရဲ့"

ကျီချိန်သည် ထိုင်ရာမှထကာ ရှေ့ဆုံးမှ ထွက်လာခဲ့၏။ ကျီချိန်၏ ရှေ့မှကြိုတင်သွားကာ သခင်ကြီးကျီချိန်နှင့် လူကြီးများ ကြည့်ရှုရန် လာနေကြပြီဖြစ်ကြောင်း သွား၍အကြောင်းကြားနှင့်လေ၏။

ထိုအချိန်မှာ ပေါက်ယုလည်း ဥယျာဉ်ထဲတွင် ရောက်နေချိန်တွင် တိုက်ဆိုင်လျက်ရှိ၏။ ပေါက်ယုမှာ ကျင်ချွန်း ကွယ်လွန်သည့်အတွက်

ပူဆွေးလျက်ရှိသောကြောင့် မယ်မယ်က ပေါက်ယုကို စိတ်ပြေလက်ပျောက် ဥယျာဉ်တော်ထဲသို့ ခေါ်သွားရန် အစေတော်များကို ခိုင်းထားခြင်း ဖြစ်၏။

ပေါက်ယုကို တွေ့သည့်အခါ၌ ကျီချန်က နောက်ပြောင်သည့်သဘောဖြင့်

"ပေါက်ယုရေ ဦးလေးကျီချန် လာနေတယ်နော်။ ကြည့်လဲ ရှောင်ဦး"ဟု ပြောလေ၏။

ပေါက်ယုသည် မီးခိုးတန်းတစ်ခုကဲ့သို့ အထိန်းတော်များ၊ အစေတော်များနှင့်အတူ ပျောက်သွား၏။ သို့ရာတွင် အကွေ့တစ်ခုသို့ အရောက်တွင် ဥယျာဉ်ထဲသို့လာနေသော ဖခင်ဖြစ်သူ ကျီချန်၏အဖွဲ့နှင့် ပက်ပင်းတိုးလျက် ရှိလေ၏။

ပေါက်ယုသည် စာလိုက်ရသည်ကို ပျင်းသည့်တိုင်အောင် စာဏျာစပ်ရာတွင် ထက်မြက်ထူးချွန်သူတစ်ယောက် ဖြစ်သည်ဟု ပေါက်ယု၏ ဆရာက ပြောသံကို မကြာသေးမီက ကျီချန် ကြားခဲ့ရ၏။ ယခု ပက်ပင်းတိုးနေသည့်အခါတွင် ကျီချန်သည် ထိုစကားကို အမှတ်ရကာ ပေါက်ယုကို မိမိတို့နှင့်အတူ ဥယျာဉ်တော်ထဲတွင်လိုက်ကြည့်ရန် ခေါ်ခဲ့၏။ ပေါက်ယုသည် သူ့ခမည်းတော်ကျီချန် မည်သည့်ရည်ရွယ်ချက်ဖြင့် ခေါ်သည်ကိုမသိဘဲ လိုက်လာခဲ့ရလေ၏။

ဥယျာဉ်တော်အဝသို့ရောက်လျှင် လက်သမားများ၊ ပစ္စည်းထိန်းများနှင့် တန်းစီစောင့်နေသော ကျီချန်ကို တွေ့ရလေ၏။

"ဟဲ့ ဥယျာဉ်တော်တံခါးကြီးကို ပိတ်လိုက်ကြစမ်း၊ မဝင်ခင် အဖြင့်ကနေကြည့်ယင် ဘယ်လိုနေသလဲဆိုတာ ကြည့်ရအောင်" ဟု ကျီချန်က အမိန့်ပေး၏။

ကျီချန်က တံခါးကိုအပိတ်ခိုင်းလိုက်သည့်အခါတွင် ကျီချန်သည် ဝင်းဝအဆောင်တော်ကို ကြည့်လေ၏။ ဝင်းဝအဆောင်တော်မှာ လခြမ်းပုံအုတ်ကြွပ်များ မိုးထားသည့် အမိုးကော့ကြီးနှင့်ဖြစ်ပြီး အကန့်ငါးကန့်ခွဲထား၏။ ကျောက်ရုပ်များ၊ ရာဇမတ်ကွက်များမှာ ကနုတ်ပန်းနွယ် အဆန်းဆန်းအကြွယ်ကြွယ်တို့ဖြင့် ထုလုပ်ထားပြီး ဆေးခြယ်





ခြင်း၊ ရွှေပိန်းချထားခြင်းတို့ မရှိချေ။ နံရံများမှာ ကြွေရည်သုတ်အုတ်များဖြင့် စီထားပြီး ဖြူဖွေးပြောင်လက်နေသည့် ကျောက်လှေကားထစ်ကြီးများပေါ်တွင် အာသာဝတီနတ်ပန်းပုံ ပန်းကြွကြီးများ ရေးခြယ်ထား၏။ ဥယျာဉ်လက်ယာဘက်မှ လက်ဝဲသို့တန်းလျက်ရှိသည့် အကွက်အစွန်းမရှိ၊ ပကတိဖြူဖွေးသော ဥယျာဉ်တော်တံတိုင်းကြီး၏ ခြေရင်း၌ ကျောက်တုံးကြီးများကို ကျားသစ်ကွက်ပေါ်အောင် ကျောက်စီပန်းချီနည်းဖြင့် စီခြယ်ထား၏။ဥယျာဉ်တော်မှာ ရိုးရိုးယဉ်ယဉ်နှင့် ကျက်သရေရှိလှသည့်အတွက် ကျီချန်သည် ကျေနပ်သွား၏။

ထို့နောက် တံခါးမကြီးကိုဖွင့်စေ၍ အထဲသို့ဝင်လိုက်သည်နှင့် တစ်ပြိုင်နက် စိမ်းလန်းသော တောင်ကုန်းကြီးတစ်ခုကို မြင်လိုက်ရ၏။ စာရေးတော်ကြီးများကား သဘောကျလျက် ရှိလေပြီ။

ကျီချိန်က

"တကယ်တို့များ ဒီတောင်ကုန်းကြီး ခံမနေယင် ဝင်ဝင်ချင်း ဥယျာဉ်တော်ကြီး တစ်ခုလုံးကို မြင်ရမှာပဲ။ အဲဒီလိုဆိုယင် ချက်ချင်း ရိုးသွားလိမ့်မယ်"ဟု ပြော၏။

"ဟုတ်တာပေါ့ သခင်ကြီး။ အင်မတန်စိတ်ကူးဉာဏ်ကောင်းတဲ့ ရှုခင်းဥယျာဉ်မှူးများသာလျှင် သည်လိုစိတ်ကူးမျိုးကို ရနိုင်ပေတယ် ခင်ဗျ"

အတုလုပ်ထားသည့် ထိုတောင်ကုန်းကလေးပေါ်၌ ဘီလူး၊ ယက္ခ၊ ကုမ္ဘဏ်စသည့် ပုံသဏ္ဌာန်ထုထားသည့် ကျောက်ဆစ်ရုပ်များကို တွေ့ရ၏။ အချို့မှာ လဲလျောင်းလျက်၊ အချို့ကား ကခုန်မြူးတူးလျက်၊ အချို့မှာ ရေညှိများထဲတွင် လူးလာပျော်ပါးလျက်။ အချို့ကား နွယ်တန်းကြီးများတွင် ချိတ်ဆွဲကစားလျက် ရှိ၏။ ထိုအထဲမှနေ၍ ကွေ့ကောက်နေသည့် လူသွားလမ်းဖုံ့ဖုံ့ကလေးကို ရေးရေးမြင်ရ၏။

"အဲဒီလမ်းကလေးအတိုင်း တက်သွားရအောင်ဗျာ။ မြန်မြန်ဆင်း လာတော့မှ တခြားဘက်တွေကို လျှောက်ကြည့်ကြတာပ။ ဒီအတိုင်း ကြည့်လိုက်ယင် နှံ့သွားမှာပေါ့"

ကျွန်အားရှမ်းမှသွားရန် လက်ပြပြီးနောက် ကျွန်ုပ်သည် ပေါက်ယု၏ ပခုံးကို ကိုင်ကာ ကျောက်ဆောင်ကြီးပေါ်မှ လှမ်းကလေး အတိုင်း လိုက်လာခဲ့၏။ ရုတ်တရက်မော်ကြည့်လိုက်သည့်အခါတွင် သူ့ အထက်၌ မှန်ကဲ့သို့ ပြောင်လက်ချောမွေ့နေသည့် ကျောက်ဆောင်နံရံ တစ်ခုကို မြင်လိုက်ရသည်တွင် ထိုနေရာမှာ စာတန်းထိုးရန် ချန်ပစ်ခဲ့ သည့် နေရာဟု သိလိုက်လေ၏။

"ကဲ စာရေးတော်ကြီးတို့ ကြည့်ကြဦးဗျ။ ဒီနေရာကို ဘယ်လို ကမ္ပည်းစာတန်း ထိုးမလဲဆိုတာ စဉ်းစားကြဦး"

"စိမ်းလန်းဝေဆာ မြိုင်ဟေမာဝင်ဗျာ"

"သားမင်းမျိုးစုံ တောရဂုံခင်ဗျ"

"မာလာသင်းကြိုင် မြဂနိုင်ခင်ဗျာ"

"ဂန္ဓမာဗေဒငူ ခင်ဗျာ"

ဤသို့ဖြင့် တစ်ယောက်တစ်မျိုး ပြောဆိုလျက်ရှိကြလေရာ ၎င်းတို့ အားလုံးမှာ ပေးရိုးပေးစဉ် အမည်များသာ ဖြစ်နေကြ၏။ ကျွန်ုပ်သည် သူ့သားအရည်အချင်းကို စမ်းသပ်နေကြောင်းကို စာရေးတော်ကြီး များ သိလိုက်ကြလေပြီ။ ပေါက်ယုလည်း ထိုအချက်ကို ရိပ်မိလိုက်၏။

ကျွန်ုပ်သည် ပေါက်ယုကို အမည်တစ်ခု ပေးရန် ပြောလိုက်၏။

"စာကိုးကောင်းလျှင် ဆိုရိုးထက် သာသည်၊ ရှေးစာဟောင်းကို မြန်၍ ပုံသွင်းလျှင် အသစ်ရေးထွင်းသည်ထက် သာသည်"လို့ ရှေးလူကြီး များ ပြောလေ့ရှိပါတယ် ဖေဖျား။ ခုနေရာဟာ တကယ့်အဓိကရ နေရာကြီးလဲ မဟုတ်သေးပါဘူး။ အထူး အသားပေးရမယ့် နေရာလဲ မဟုတ်သေးပါဘူး။ ခုနေရာဟာ နားခိုပန်းဖြေရာကို သွားမယ့် ပထမ အဆင့်ပဲ ရှိပါသေးတယ်။ စာကဗျာတွေ မရေးဘဲ သာမန်ကမ္ပည်းစာ တစ်ကြောင်းလောက် ဆိုယင် လုံလောက်တယ် လို့ ထင်ပါတယ်။ ဒါကြောင့် ရှေးကဗျာဟောင်းတစ်ပုဒ်ထဲမှာပါတဲ့ 'ကွေ့ကောက်တော လမ်း၊ ကွန်းခိုလှုံရာ၊ အေးရိပ်သာသို့'လို့ ကမ္ပည်းတပ်ယင် ကောင်းလိမ့် မယ်လို့ ထင်ပါတယ်"





"ကောင်းလိုက်လေဗျာ"ဟု စာရေးတော်ကြီးများက ပြောကြ ၏။

"ကျုပ်တို့သခင်လေးက ထုံပေပေ ပညာရှိတွေထက်တောင် သာ သေးတယ်"

ကျွန်ုပ်က ပြုံးလိုက်ရင်း

"ကလေးကို သိပ်လဲမြှောက်မနေကြနဲ့ဗျ။ သူ့ကဗျာဉာဏ် မဖြစ် စလောက်ကလေးကို အဟုတ်လုပ်ပြီး ကျုပ်တို့ကို ထုတ်ပြနေတာ။ နောက်မှ သည့်ထက်ကောင်းတဲ့အမည်ကို ရှာရဦးမယ်"

သူတို့သည် လိုဏ်ဂူတစ်ခုကို ဖြတ်ခဲ့ကြပြီးနောက် စိမ်းစိုညိုမှိုင်း သော သစ်ပင်များနှင့် ပန်းဖူးပန်းပွင့်များ ဝေဆာဖူးပွင့်နေကြသည့် လျှိုမြောင်တစ်ခုထဲသို့ ရောက်လာခဲ့ကြ၏။ စိမ့်စမ်းတို့သည် ကျောက်ကြို ကျောက်ကြားမှ စီးဆင်းကာ စမ်းချောင်းလေး တစ်သွယ် အဖြစ်သို့ ပေါင်းစည်းပြီး တသွင်သွင် စီးဆင်းလျက်ရှိ၏။ စမ်းချောင်းကလေး၏ မြောက်ဘက် တလင်းမြေညီတွင်မူ ကနုတ်ပန်းနွယ်တို့ ရေးခြယ်ထား သည့် အမိုးအကာနှင့် လေသာခန်းဆောင်များ ရှိပြီး ကျောက်ဖြူသား လက်ရန်းတို့သည် စိမ်းညိုသော သစ်ပင်များကြားမှ တစ်ပိုင်းတစ်စပေါ် လျက် ရှိကြ၏။ ထိုလေသာဆောင်များပေါ်မှ စီး၍ကြည့်လိုက်လျှင် စိမ်းလဲ့ကြည်လင်သော စမ်းချောင်းတစ်သွယ်သည် ကျောက်ဆောင်များ ပေါ်မှ ရေတံခွန်သဖွယ် စီးသွယ်ဖြာကျလျက် ရှိ၍ မှုန်ဝေလျက်ရှိသော နှင်းမှုန်များအောက်တွင် ကျောက်တုံးလှေကားထစ်များသည် ကန်တစ်ခု ဆီသို့ ဆင်းသွားသည်ကို မြင်ရ၏။ ထိုကန်ငယ်ကို ကျောက်ဖြူသား လက် ရန်းများဖြင့် ကာရံထားကာ ထိုကန်ငယ်ပေါ်တွင်လည်း ဘီလူးရုပ်၊ ကုမ္ဘဏ်ရုပ်တို့ ရေးခြယ်ထားသည့် ကျောက်တုံးတံတားကလေးတစ်ခု ကူးထား၏။ တံတားကလေးပေါ်မှ အဆောင်ငယ်ကလေး တစ်ခုသို့ ရောက်လျှင် ထိုင်၍နားကြ၏။

"ဒီလေသာဆောင်ကိုကော ဘယ်လိုခေါ်မလဲဗျ"ဟု ကျွန်ုပ်က မေးလေ၏။

"ကောင်းကင်ဗိမာန်၊ နတ်ငှက်ပျံသို့’လို့ဆွန်ခေတ် ပြဇာတ်ဆရာကြီး အိုယန်နီရှုစ ရေးခဲ့ဖူးတယ်ခင်ဗျ။ ဒါကြောင့် ‘ဗိမာန်ပျံ’လို့ အမည်ပေးရယင် မကောင်းပေဘူးလား"

ကျိချိန်က

"တယ်ကောင်းတဲ့ နာမည်ပေပဲဗျာ။ သို့သော်လဲ ဒီလေသာဆောင်က ကန်ပေါ်မှာ ဆောက်ထားလေတော့ သူ့အမည်မှာ ရေပါရလိမ့်မယ်။ ရေနဲ့ပတ်သက်ရလိမ့်မယ်။ အိုယန်ရှုရဲ့ စာထဲမှာပဲ ‘တောင်ထွတ်နှစ်တန်၊ စိမ့်စမ်းလျှံသို့’ ဆိုတဲ့ စကားလဲရှိတယ် မဟုတ်လား။ ဒီတော့ ကျုပ်တို့ လေသာဆောင်ရဲ့အမည်ထဲမှာ ဖိတ်လျှံတယ်ဆိုတဲ့သဘော ပါသင့်တယ် ထင်တာပဲ"

"ကောင်းလိုက်လေခင်ဗျာ။ ‘စိမ်းမြလျှံခြယ်’လို့ အမည်ပေးယင်ကော ဘယ့်နှယ်နေမလဲ"

ကျိချိန်သည် မုတ်ဆိတ်ကို ဆွဲသပ်၍ စဉ်းစားလျက်ရှိရာမှ ပေါက်ယုဘက်သို့ လှည့်၍မေး၏။

"ဖေဖျားပြောတာကို ကျွန်တော် သဘောကျပါတယ်။ ဒါပေမယ့် သေသေချာချာစဉ်းစားကြည့်လိုက်တော့ အိုယန်ရှုရဲ့စာထဲမှာ ဖိတ်လျှံတယ်ဆိုတဲ့ သဘောကို ပြောတာက သူ့စမ်းချောင်းမှာ ယစ်ရွှေရည်များ စီးဆင်းပြီး ဖိတ်လျှံကျနေတယ်လို့ ပြောတဲ့သဘောပါ။ ဒါ့ကြောင့် ဒီမှာ ဒီအမည်ပေးယင် သင့်မယ်မထင်ပါဘူး။ ပြီးတော့ ဒီနေရာဟာ အစ်မတော်ထိပ်ထား စံမြန်းမယ့်နေရာ ဖြစ်တဲ့အတွက် ဒီလိုအရပ်သားသုံး စကားဖျင်း၊ စကားညံ့တွေနဲ့ သုံးထားယင် မတင့်တယ်ပါဘူး။ ထီးသုံး နန်းသုံး၊ တော်ဝင်တဲ့ စကားလုံးတွေကိုသုံးမှသာ သင့်ပါလိမ့်မယ်"

ကျိချိန်က ရယ်လိုက်ရင်း

"ကြားကြရဲ့လား စာရေးတော်ကြီးတို့။ ကျုပ်သားက ခုလုပ်ရမှ ကျွန်ုပ်တဲ့ကောင်ဗျ။ ကျုပ်တို့က ကိုယ့်ဘာသာကိုယ် စိတ်ကြိုက်





အမည်ပေးမယ်လုပ်တော့ ရှေးကစာကို ကိုးတာကောင်းပါတယ်တဲ့။ ခု ရှေးကစာကို ကိုးပြီးပြောပြန်တော့လဲ ကြမ်းသတဲ့၊ ရိုင်းသတဲ့။ ကဲ ဘယ့်နှယ်ရှိစ"

"တတိုင်းမွှေးဆိုတဲ့ အမည်က ပိုလှပြီး ပိုပြီး လက်ရင်းမကျပေဘူးလား ဖေဖျား"

ကျိချိန်သည် မုတ်ဆိတ်ကိုဆွဲလျက်ရှိ၏။ ခေါင်းကို တညိတ်ညိတ်လုပ်ရင်း စဉ်းစားလျက်ရှိစဉ် အခြားသူများသည် ကျိချိန်ကို မျက်နှာလိုအားရ လုပ်ချင်ဇောဖြင့် ပေါက်ယု၏ တခ်ဏုပ္ပတ္တိဉာဏ်ကို ချီးမွမ်းပြောဆိုလျက်ရှိကြ၏။

"ဒီဟာကတော့ လွယ်ပါတယ်။ ခေါင်းစဉ်ကလက်ာမပါသဲကိုး။ ဒွေးချိုးကလေးဖြစ်ဖြစ် လင်္ကာတိုလေးတစ်ပုဒ်ကို ရွေးလက္ခယ်"

ပေါက်ယုသည် မတ်တတ်ရပ်လိုက်ပြီးနောက် စဉ်းစားဉာဏ်ကွန့်မြူးစေရန် ကြိုးစားသည့်နှယ် ဘေးပတ်ဝန်းကျင်ကို လှမ်းကြည့်လျက်ရှိရာမှ

တာရိုးက မိုးမခပင်
မြရိပ်ဆင် အမြင်လှလို့
စိမ်းလဲ့ကြည်လင်။ ။
တစ်ဖက်ကမ်းတွင်
ပန်းထုံနံ့ကြိုင်သင်း။
မြစ်မင်းရယ် ယမုံကြောမှာ
မျောတဲ့ လှေတစ်စင်း။ ။

ထိုအခါ၌ သူ့ဖခင် ကျိချိန်သည် ခပ်ယဲ့ယဲ့ပြုံး၍ ခေါင်းတညိတ်ညိတ်လုပ်ပြန်လေရာ နောက်လိုက်နောက်ပါတို့သည်လည်း ထုံးစံအတိုင်း ကောင်းလှပါပေသည်ဟု တညီတညွတ်တည်း ချီးကျူးကြပြန်လေ၏။

ထိုနေ့စက် ၎င်းတို့တစ်သိုက်သည် လေသာဆောင်မှ ထွက်လာခဲ့ကြ၍ တံတားလေးကို ဖြတ်လာခဲ့ကြပြီးလျှင် ကျောက်ဆောင်တိုင်း၊ ပန်းပွင့်တိုင်း၊ ဏမူတိုင်း၊ သစ်ပင်တိုင်းကို ချီးကျူး၍လာခဲ့ကြရာ နောက်

ဆုံးတွင် စိမ်းစိုသော ဝါးပင်အုပ်များကြားတွင်ရှိသည့် အဆောင်တစ်ခု၏ တံတိုင်းဖြူဖြူ တစ်ခုထဲသို့ ရောက်လာခဲ့ကြ၏။ သူတို့အားလုံးသည် တအံ့တသြဖြင့် ချီးမွမ်းပြောဆိုကာ တံတိုင်းအယာမ်တွင်းသို့ ဝင်လာခဲ့ကြလေ၏။

တံတိုင်းအတွင်းသို့ ဝင်ခဲ့မိကြ၍ ကွေ့ကောက်သော အမိုးနှင့် စင်္ကြံကလေးအတိုင်း လာခဲ့ကြသည်တွင် အဆောင်သုံးဆောင်ရှိ စံအိမ်ငယ်ကလေးတစ်ခုသို့ ရောက်ခဲ့ကြပြီး အဆောင်ထဲတွင်လည်း သူ့အရွယ်နှင့်လိုက်ဖက်သည့် ထိုင်ခုံများကို ပြင်ဆင်ခင်းကျင်းထားသည်ကို တွေ့ရ၏။ တံခါးပေါက်ကလေးတစ်ခုမှ ထွက်သွားလျှင် စံအိမ်ငယ်၏ နောက်ဖေး၌ ဥယျာဉ်ငယ်ကလေး တစ်ခုကို တွေ့ရလျက် သစ်တော်ပင်နှင့် ငှက်ပျောပင်များ စိုက်ပျိုးထား၏။ ထိုအနီးတွင် တလင်းပြင်နှစ်ခုကိုလည်း တွေ့ရလေ၏။ ထိုတလင်းအနီးရှိ စမ်းပေါက်ကလေးတစ်ခုမှ စမ်းချောင်းတစ်သွယ်သည် ရစ်ခွေစီးဆင်းလာကာ ဝါးတောထဲတွင် ပျောက်ကွယ်သွား၏။

"တယ်လိုလဲ သာယာပေတာကိုးဗျ။ လသာတဲ့ညမှာ ဒီပြတင်းနား လာထိုင်ရယင် လောကကြီးမှာ နေပျော်သွားပါပြီ"ဟု ကျီချိန်က ပြော၏။ ကျီချိန်သည် ခေါင်းငိုက်စိုက်ချကာ တွေးတောလျက်ရှိသည့် ပေါက်ယုကို လှမ်းကြည့်လိုက်ပြီးနောက် စကားများကို ပြောနေကြစဉ် တစ်ယောက်က

"ဒီနေရာမှာ ကျွန်တော်တို့ အက္ခရာ လေးလုံးပါတဲ့ ကမ္ပည်းတစ်ခုကို ထိုးယင် ကောင်းမယ် ထင်တယ်ခင်ဗျာ့"ဟု အကြံပေးလေ၏။

"ဘာ့ကြောင့် အက္ခရာလေးလုံးတည်း ပါရမှာလဲ"

"(ကျမ်းလေးကျမ်းထဲက ချီမြစ်အကြောင်းကို ဖွဲ့ထားတဲ့) မြစ်ဆိပ်ကမ်းသာ ဆိုတဲ့အဖွဲ့ကို သတိရလို့ပါ"

"ရိုးလွန်းလှသဗျာ"

"(ဟန်မင်းဆက်ခေတ်က စွေ့မင်းသားကြီးရဲ့ ဥယျာဉ်တော်အကြောင်းဖွဲ့ထားတဲ့စာလို) စွေ့ဥယျာဉ်တော် ဆိုယင်ကော"

"ဒါကလဲ မှဆန်းသေးဘူးဗျ"





"ကဲ ပေါက်ယု ဆိုစမ်းပါဦး"ဟု ကျီချိန်က ပြော၏။

ဤတွင် ကျီချိန်က

"သူက သူ့ဘာသာသူ စာစပ်တာမဟုတ်ဘူး။ တခြားလူကိုလဲ ဝေဖန်လိုက်သေးတယ်"

"ဒါပေမယ့် သူ ဝေဖန်တာကလဲ အမှန်တော့ အမှန်သားပဲ။ အပြစ်တင်လို့ မဖြစ်ပေဘူးပေါ့"

"သင်းကို ဒီလောက်လဲ မြှောက်ပင့် ပေးမနေကြနဲ့ဗျ။ ကဲ ဆိုစမ်းပါဦး။ မင်းစာကို မကြားရခင်၊ မင်း ဝေဖန်ချက်ကို ကြားကြရအောင်။ သူတို့ပေးတဲ့ အမည်တွေ ဘယ့်နှယ်လဲ။ သင့်လျော်ပါ့မလား"

"မသင့်ဘူးထင်တာပဲခင်ဗျ"

ဖခင်ကျီချိန်က လှောင်ပြုံးပြုံးလိုက်ကာ

"ဘာဖြစ်လို့"

"ဒီနေရာမှာ ထိပ်ထားပထမဆုံးရပ်နားမှာဖြစ်လေတော့ ထိပ်ထားကို ဂုဏ်ပြုတဲ့ အမည်မျိုးသာ ပေးသင့်တယ်လို့ ထင်ပါတယ်။ အက္ခရာလေးလုံးတည်းပါတဲ့ စာတန်းမျိုးကို လိုချင်တယ်ဆိုယင်တော့ ရှေးစာတွေထဲမှာ တစ်ပုံကြီးပါ။ ဘာဖြစ်လို့အသစ်ရှာနေတော့မှာလဲ"

"သူတို့ပြောတဲ့ မြစ်ဆိပ်ကမ်းသာနဲ့ စွေ့ ဥယျာဉ် တော် ဆိုတဲ့ အမည်တွေကကော"

"ရှေးစာတော့ဟုတ်ပါရဲ့။ ဒါပေမယ့် ထောင့်လှတယ်။ ကျွန်တော့်သဘောအရ ဆိုယင်တော့ 'မိုးနတ်ငှက်မယ်၊ ဆင်းသက်ရာ'လို့ အမည်ပေးချင်တာပဲ"

အားလုံးက ဝိုင်းဝန်းချီးကျူးကြသည်တွင် ကျီချိန်လည်း ခေါင်းကို ညိတ်လျက်ရှိလေ၏။

"တယ်လဲလာတဲ့ သူငယ်ပါလားကွ။ ကဲ ဒီလောက်တောင် ရှိလှတာ။ မင်းရဲ့ တစ်မိုက်တစ်ထွာညဏ်ကလေးနဲ့ စာစပ်ပြစမ်းကွာ"

ပေါက်ယုက စာတိုတစ်ပုဒ်ကို လက်တန်းစပ်ပြ၏။

လက်ဖက်ရည်အိုးမှ၊ မီးခိုးမြင်ရ
မြူလွှလွှတည့်၊ ပြတင်းဝတွင်
စစ်တုရင်ကွက်၊ ရွှေ့သောလက်မှု
အေးစက်ထုံကျင်၊ ကိုက်ခဲဝင်လျက်။

"အင်း မင်းဟာက ဒီလောက်လဲမကောင်းလှပါဘူးကွယ်"ဟု ခေါင်းယမ်း၍ ပြော၏။

သို့ဖြင့် ဆက်၍သာခဲ့ကြစဉ် ကျီချိန်သည် စိတ်ကူးတစ်ခုရလာသဖြင့် ကျီချန်ဘက်သို့လှည့်ကာ

"နေစမ်းပါဦး။ အဆောင်တွေမှာ ထိုင်ဖုံတွေ၊ စားပွဲတွေချထားတာတော့ ဟုတ်ပါပြီ။ ဒါပေမယ့် ခန်းဆီးတွေ၊ လိုက်ကာတွေ၊ ကန့်လန့်ကာတွေ၊ အလှအပ ပစ္စည်းတွေလဲ မရှိပါဘဲကလား။ သူ့အဆောင်နဲ့သူ သင့်လျော်မယ့် ပရိဘောဂပစ္စည်းများကိုကော ရွေးပြီးပလား"

"အချိန်ရှောက်ဘာနဲ့ ပြင်ဆင်ဖို့ပစ္စည်းများ အစုံအလင်ရောက်နေပါပြီ။ ခန်းဆီးတွေ၊ ကန့်လန့်ကာတွေကတော့ အားလုံးချုပ်မပြီးသေးဘူးလို့ ကျီလျှံက ပြောပါတယ်။ အချုပ်ခိုင်းတုန်းက ဆိုင်ရာလေသာဆောင်၊ ဆိုင်ရာခန်းဆောင်တို့နဲ့ ကိုက်အောင် အတိုင်းပေးပြီးပါပြီ။ ပြီးတော့ ပုံစံများလဲ ရေးဆွဲပေးပြီးပါပြီ။ မနေ့ကတော့ တစ်ဝက်လောက် ပြီးနေပါပြီ"

ကျီချန်မှာ ထိုကိစ္စကို အသေးစိတ် မသိသေးသည့် အလျောက် ကျီချိန်သည် ကျီလျှံကို အခေါ်ခိုင်းလိုက်၏။

"ကဲ ဆိုစမ်းပါဦး။ ဘာတွေကို မှာထားပြီး ဘာတွေကပြီးနေပြီလဲ"

ကျီလျှံသည် ဖိနပ်တွင်ထိုးထားသည့် စာရင်းစာရွက်ကိုဆွဲထုတ်လိုက်လျက်

"ပုံစံအမျိုးမျိုး၊ ပန်းဖော်ပုံစံအမျိုးမျိုး၊ အရောင်အမျိုးမျိုးနဲ့ မှာထားတဲ့ ဖဲကြိုးယပ်အကြီးအသေး အပါအဝင် နဂါးရုပ်ပန်းကြွနဲ့ ရွှေချည်ထိုးထားတဲ့ ဖဲကန့်လန့်ကာ တစ်ရာ့နှစ်ဆယ် မှာထားပါတယ်။





အဲဒီတစ်ရာ့နှစ်ဆယ်အနက် မနေ့က ရှစ်ဆယ်ပြီးပါပြီ။ လေးဆယ်ကချုပ်တုန်းပါ။ ဒါ့အပြင် ခရမ်းရောင် သက္ကလပ်ခါသာခန်းဆီးကနှစ်ရာ၊ အနီပိန်းရွှေပြောက်မှိမ်း ယွန်းလိုက်ကာက အချုပ်နှစ်ရာ၊ အနက်ပိန်း ယွန်းလိုက်ကာ အချုပ်နှစ်ရာ၊ ပိုးချည်ရောင်စုံရက်တဲ့ လိုက်ကာက အချုပ်နှစ်ရာ မှာထားပါတယ်။ ခုတစ်ဝက်လောက် ရပါပြီ။ ကျန်တဲ့တစ်ဝက်ကတော့ မီးထွန်းပွဲတော်မတိုင်မီ ရမှာပါ။ ပြီးတော့ ထိုင်ဖုံစွပ်၊ ပန်းပွားမြိတ်ချစားပွဲခင်း၊ ကတ္တီပါထိုင်ဖုံ၊ မှိအုံး စသည်တို့ကအစုံတစ်ထောင့်နှစ်ရာစီ မှာထားပါတယ်။ အဲဒါတွေကတော့ ရပါပြီ"

ထိုသို့ပြော၍ လျှောက်လာခဲ့ကြစဉ် ရှေ့တွင် စိမ်းစိုလျက်ရှိသောတောင်ကမူတစ်ခုကို တွေ့ရ၏။ ထိုတောင်ကုန်းကို ကွေ့ပတ်လာခဲ့စဉ် တံတိုင်းတစ်ခုထဲ၌ စပါးစိုက်ခင်းများ၊ သီးတော်ပင်များစိုက်ထားသည်ကိုလည်း တွေ့ရ၏။ သီးတော်ပင်များမှာ အပွင့်တွေဝေလျက်ရှိလေပြီ။ သီးတော်ပွင့်တို့၏ အရောင်သည် နေခြည်ကဲ့သို့လည်းကောင်း၊ မီးလျှံကဲ့သို့လည်းကောင်း ပြိုးပြက်တောက်ပလျက် ရှိကြ၏။ ထိုဝင်းကြီးထဲတွင် သက်ကယ်မိုးတဲငယ် အများအပြားကိုလည်း တွေ့ရလေ၏။ ထိုတဲငယ်များ၏အပြင်ဘက်တွင် ပိုးစာပင်၊ သလဲပင်၊ သီးပင်၊ ခေါင်ရမ်းပင် စသည်တို့ကိုတွေ့ရပြီး စိမ်းစိုသောအကိုင်းအခက်များသည် ခြံစည်းရိုးသဖွယ် ပိတ်ဆီးယှက်ကာလျက်ရှိကြ၏။ ထိုစည်းရိုးအတွင်း ကုန်းစောင်းခြေရင်း၌ မောင်းတက်နှင့် ရေရဟတ်တို့ တပ်ဆင်ထားသည့် တောသူတောင်သားတို့ သုံးလေ့ရှိသည့် ရေတွင်းတစ်တွင်းကိုလည်းတွေ့ရလေ၏။ ထိုကုန်းစောင်းအောက်ခြေတွင်မူ အကွက်ကျကျ စိုက်ပျိုးထားသည့် စိုက်ခင်းများနှင့် မုန်ညင်း၊ ဂေါ်ဖီ၊ မုန်လာ စသည့် စိုက်ခင်းများသည် မျှော်မဆုံးနိုင်အောင် ဖြစ်လျက်ရှိလေ၏။

ကျီချိန်က

"အင်း တောသူတောင်သားများရဲ့ စိုက်ပျိုးရေး သဘာဝကိုထိပ်ထားလေး သိရလေအောင် ဒီရှုခင်းကို ထည့်ထားတာပေကိုး၊ ဒီလို

ကျေးလက်ရှုခင်းကိုမြင်တော့ ကြည့်ရသူမှာ တောကျေးလက်ကို လွမ်းတဲ့စိတ်၊ ခင်တွယ်တဲ့စိတ် ပေါ်လာပေတာပေါ့။ ကဲ ကဲ ဖော်နားကြဦးစို့''ဟု ပြော၏။

မလွယ်ပေါက်ကလေး တစ်ခုထဲသို့ ဝင်ခါနီးတွင် လမ်းဘေး၌ ကျောက်တုံးကြီးတစ်တုံးကို တွေ့သည့်အတွက် ယင်းမှာ စာတန်းထိုးရန် ဖြစ်လိမ့်မည်ဟု သိလိုက်ရ၏။

''ဒါလေး လုပ်ထားပုံကတော့ တယ်ပြီးယဉ်သဗျာ။ ဒီတော ကျေးလက်ရှုခင်းရှေ့မှာ ကျောက်ဖြူပြားတွေနဲ့ဆိုယင် ကျေးလက်ရဲ့ အနံ့အရသာကလေးတွေ ပျောက်ကုန်တော့မှာပေါ့။ ခုတော့ ကျေးလက်နဲ့ကိုက်အောင် ကျောက်တုံးကြီးတစ်တုံးကို စိုက်ထားတယ်။ ပိုသဘာဝကျပြီး တောကျေးလက်ရှုခင်းက ပိုလှသွားပေတာပေါ့။ (ဆွန်မင်းဆက်ကဗျာစာဆိုကြီးရဲ့) လွမ်းချင်းကလေးတွေကိုများ ထည့်လိုက်ယင် ဘယ်လောက်ကောင်းလိုက်လေမလဲ'' ဟု အခြွေအရံများက ပြောကြ၏။

''ဒါဖြင့် ဒီနေရာကလေးကိုကော ဘယ်လိုများ အမည်ပေးကြမလဲ စာရေးတော်ကြီးများ''

''သခင်ကြီးသားပြောတဲ့အတိုင်း ရှေးကရှိခဲ့တာဟာ မိမိတို့တီထွင်ထားတဲ့စာထက် ကောင်းပါတယ်သခင်ကြီး။ ရှေးလူကြီးများက ဒီလိုတောရွာကလေးမျိုးကို ဆီးတော်ပင်ရွာလို့ ခေါ်တတ်ကြပါတယ်''

ကျိချိန်က ကျိချန်ဘက်သို့ လှည့်၍ပြုံးလိုက်ရင်း

''ဒီရွာကလေးကိုမြင်တော့ ဟုတ်သကွယ်။ တောကိုသတိရတယ်။ ဒါပေမယ့် ဒီရွာကလေးမှာ အစစအရာရာပြည့်စုံနေသလောက် တစ်ခုတော့ လိုနေသေးသကွယ့်။ ဘာလိုနေသလဲ၊ သိကြရဲ့လား၊ ဘုံဆိုင်ကလေးလိုနေသကွယ့်။ တောရွာမှာဆိုယင် ဘုံဆိုင်ကလေးတစ်ဆိုင်ရှိမှ သဘာဝကျမှာပေါ့။ မနက်ဖြန်ကျယင်တော့ ထပ်ဆောက်ပြီး ထည့်လိုက်ကြဦး။ သိပ်ခမ်းခမ်းနားနားကြီး မဟုတ်ဘူးနော်။ တောရွာတွေမှာ တွေ့ရတတ်တဲ့ဘုံဆိုင်မျိုး။ ဆိုင်းဘုတ်ကလေးနဲ့။ သစ်ပင်ထိပ်ဖျားမှာ ဝါးလုံးထောင်ပြီးချိတ်ထား''





ကျိချန်က ချက်ချင်း သဘောတူလိုက်လျက်

''ဒီရွာမှာ တခြားငှက်အလှတွေ မထားတော့ဘူးဦးလေး။ ကြက်တွေရယ်၊ ဘဲတွေရယ်၊ ငန်းတွေရယ်၊ ဒီလောက်ပဲထားမယ်လို့ စိတ်ကူးထားတယ်''

ထိုအချက်ကို အားလုံးက သဘောတူကြသည့်အခါတွင် ကျိချိန်က....

'''ဆီးတော်ပင်ရွာ' ဆိုတဲ့ အမည်ဟာ သင့်မြတ်ပါပေတယ်။ ဒါပေမယ့် ဒီရွာ့အမည်က ဘုန်းတော်ကြီးသောဘုရားရဲ့ နိုင်ငံတော်ထဲမှာ တကယ်အမှန်ရှိတဲ့ ရွာဖြစ်တဲ့အတွက် ဒီအမည်ကို သုံးခွင့်ပေးဖို့ဆိုင်ရာကို အမိန့်ကလေး ဘာလေးများ တောင်းခံထားကြဦးနော်။ တခြားအမည်များကော ရှိသေးသလား''

''ဟုတ်တယ်သခင်ကြီး။ အမိန့်မရယင် ခက်နေမယ်။ ဒီတော့ တခြားနာမည် ဘယ်လိုများပေးယင်ကောင်းမလဲ မဆိုနိုင်ဘူး''

သူ့ဖခင်က မည်သို့မျှ မပြောသေးမီ ပေါက်ယုက

'''ပန်းပွင့်စိပ်စိပ်၊ ဆီးပင်ရိပ်၌၊ ဆိုင်းဘုတ်ချိတ်ဆွဲ' လို့ စာဆိုရှိတယ်ခင်ဗျ။ ဒီတော့ 'ဆီးတော်ပင်ဘုံဆိုင်အဝင်' လို့ ဆိုယင် မကောင်းပေဘူးလား''

''ဟုတ်ပေ့ဗျာ။ ဆီးတော်ပင်ရွာရဲ့သဘောလဲ မပျောက်ဘူး''

ပေါက်ယုက ခပ်လျှောင်လျှောင်ပြုံးလိုက်လျက်

''ဆီးတော်ပင်ရွာဆိုတဲ့နာမည်က ဆင်းရဲသားအခေါ်အဝေါ်နိုင်လွန်းပါတယ် ဖေဖျား။ 'စပါးနံ့ချို၊ မြည်ိုရေရိပ်၊ တဖိတ်လက်လက်၊ ထိုမှတက်သော်' လို့ စာဆိုရှိပါတယ်။ ဒါကြောင့် ဒီနေရာကလေးကိုလဲ 'စပါးချိုရိပ်သာ' လို့ အမည်ပေးယင် ကောင်းလိမ့်မယ်ထင်ပါတယ်''

ဤတွင်လည်း စာရေးတော်ကြီးများသည် လက်ခုပ်လက်ဝါးတီးကာ ထောက်ခံကြပြန်လေ၏။ သို့ရာတွင် ဖခင်ဖြစ်သူ ကျိချိန်က မျက်နှာခပ်တင်းတင်းဖြင့်

"ဒီကောင် ဘာသိလို့လဲ။ ရှေး ကဗျာစာဆိုကြီးတွေကို သူ ဘယ်လောက်ဖတ်ဖူးလို့လဲ။ ရှေးလက်ရာကြီးတွေကိုကော သူဘယ်လောက် နားလည်လို့လဲ။ လူကြီးတွေရှေ့မှာ ကြီးကြီးကျယ်ကျယ်ရွတ်ပြရ အောင် သူက ဘယ်လောက်များ အာဂုံဆောင်နိုင်လို့လဲ။ မင်းပြော တာတွေကို အဟုတ်ထင်မနေနဲ့။ ငါက လူကြီးတွေ အပျင်းမှုပြေပါစေ တော့ဆိုပြီး အသာကြည့်နေတာ။ ကိုယ့်ကိုယ်ကို သိပ် အဟုတ်ကြီးထင် မနေနဲ့"

ကျိချိန်နှင့် နောက်လိုက် နောက်ပါတို့သည် တဲကလေးတစ်လုံး ထဲသို့ ဝင်လာခဲ့ကြ၏။ ထိုတဲကလေးမှာ အခြားတဲများကဲ့သို့ ခမ်းနား စွာ ပြင်ဆင်ထားခြင်းမရှိချေ။ စက္ကူကပ်သည့် ပြတင်းပေါက်များနှင့် သစ်သားခုံရှည်ကြီးတစ်လုံးသာ ရှိ၏။ ကျိချိန်သည် ထိုနေရာကို မြင်သည့် အခါတွင် သဘောကျသွားကာ သူ့သားဖြစ်သူ ပေါက်ယုကို လှမ်း၍

"ဒီနေရာကလေးကိုကော ဘယ်လိုထင်သလဲကွ"ဟု မေးလိုက်၏။

ကျိချိန်ကျေနပ်အောင်ဖြေရန် ပေါက်ယုကို စာရေးတော်ကြီးများက လက်တို့၍ ပြော၏။ သို့ရာတွင် ပေါက်ယုသည် သူတို့တစ်တွေ လက်တို့ သည်ကို ဂရုစိုက်ခြင်းမရှိဘဲ

"မိုးနတ်ငှက်မယ် ဆင်းသက်ရာ'နဲ့တော့ မနှိုင်းယှဉ်သာဘူးပေါ့ ဖေဖျား"

ကျိချိန်က သက်ပြင်းချလိုက်လျက်

"အလကားကောင်။ မင်းက ဟသ်ုပြဒါးသုတ် အဆောင်နဲ့ တွေ၊ ပန်းကြွဖော်ထားတဲ့ ထုပ်လျောက်တွေကိုမှ အဟုတ်ထင်တဲ့ကောင်။ လူကလဲ စည်းစိမ်ခံချင်လိုက်တာ လွန်ရော။ မင်းလို စည်းစိမ်ခံချင်တဲ့ ကောင်ဟာ ဘယ့်နှယ်လုပ်ပြီး ဒီနေရာမျိုးက သဘာဝအလှကို ခံစား တတ်ပါ့မလဲ။ စာပေကိုမှ မလိုက်စားတော့ သဘာဝအလှကို မခံစား တတ်ဘူးပေါ့"

"ဟုတ်ပါတယ် ဖေဖျား။ ရှေးလူကြီးတွေကလဲ 'သဘာဝ' ဆို တာကို ပြောခဲ့ကြတာပါပဲ။ ဒါပေမယ့် ကျွန်တော်ဖြင့် ဒီစကားလုံး အကြောင်းကို ကောင်းကောင်းသဘောမပေါက်ပါဘူး"





ပေါက်ယု လုပ်နေပုံမျိုးဖြင့်ဆိုလျှင် အခြားသူများကိုပါ ကျိချိန် စိတ်ဆိုးတော့မည်ကို ရိပ်မိလိုက်ကြသဖြင့် စာရေးတော်ကြီးများက လည်း စကားဖြသည့် အနေဖြင့်

"သခင်လေးက ကဗျာစာပေတို့ကို ကောင်းကောင်းကျွမ်းကျင် ပေတာပဲ။ ဘာဖြစ်လို့'သဘာဝ'ဆိုတဲ့ စကားလုံးကို နားမလည်ရမှာလဲ။ သဘာဝဆိုတာ ဩဇာသ သဘာဝလောကကြီးကလာတဲ့စကားပေါ့။ လူလုပ်တာမဟုတ်ဘဲ သူ့အလိုအလျောက် ပင်ကိုဖြစ်တာပေါ့"

"ခြော် ဒီလိုလားခင်ဗျာ။ ဒီလိုဆိုယင် ကျွန်တော်မေးမယ်။ ဟောဒီမှာလုပ်ထားတဲ့ လယ်ကွက်ဟာ လူကအတုဖန်တီးထားတာခင်ဗျ။ ဒီနားတစ်ဝိုက်မှာ ကျေးရွာတို့ဘာတို့လဲ မရှိဘူး။ တခြားလွယ်ကွင်း တွေလဲ မရှိဘူး။ နောက်မှာ တောင်တန်းတွေလဲမရှိဘူး။ စမ်းချောင်းသာ ရှိပေမယ့် ဒီနားတစ်ဝိုက် သူ့အလိုအလျောက်ဖြစ်နေတဲ့ စမ်းပေါက်ရယ် လို့လဲ မရှိဘူး။ တောင်ပေါ်မှာ ရွှေရောင်တဝင်းဝင်း တောက်နေတဲ့ ဘုရားတို့ စေတီတို့လဲမရှိဘူး။ တောင်ခြေမှာ ဈေးတို့ဆိုင်ကနားတို့ကို သွားတဲ့တံတားလဲ မရှိဘူး။ တကယ်ကတော့ ခု ကျွန်တော်တို့ ဥယျာဉ် ထဲမှာ ရှိနေတဲ့လယ်ကွက်ဟာ ဥယျာဉ်ထဲက တခြားအရာများလိုပဲ လူ့ရဲ့ လက်နဲ့ပြုပြင်ဖန်တီးထားတဲ့ အရာတွေခင်ဗျ။ အဲ ဝါးပင်တွေနဲ့ စမ်း ချောင်းကတော့ နည်းနည်းသဘာဝကျသလိုလိုရှိရဲ့။ ရှေးလူကြီးတွေပြော တဲ့'သဘာဝကျတဲ့ ရှုခင်း'ဆိုတာက တကယ့် သူ့အလိုအလျောက်ဖြစ်တဲ့ အရာကိုခေါ်တာ။ ခုဟာကတော့ တောင်တွေမရှိသင့်တဲ့ နေရာမှာ တောင်ကြီးတွေကို အတုလုပ်၊ စမ်းချောင်းတွေမရှိသင့်တဲ့နေရာမှာ စမ်း ချောင်းတွေကို အတုဖောက်ထားလေတော့ မည်မျှအနုပညာမြောက် သည့်တိုင် ဒါဟာ သဘာဝနဲ့ကင်းပြီး...."

ကျိချိန်က မိုးချုန်းသည့် အသံမျိုးဖြင့်

"ဟဲ့ကောင် တော်တော့။ နောက်ထပ်မပြောနဲ့တော့။ ကဗျာ တစ်ပုဒ်လောက် စပ်မှာ စပ်စမ်း။ ကောင်းယင်ကောင်း မကောင်းလို့ ကတော့ အသေပဲ"ဟု အော်လိုက်လေ၏။

ပေါက်ယုမှာ ခိုင်းသည့်အတိုင်း ကဗျာတစ်ပုဒ်ကို စပ်ရလေ၏။

အဝတ်လျှော်ချောင်းတွင်၊ ဒိုရေဝင်လျက်
ညွန့်ရှင်စိမ်းလန်း၊ ရေကန်စွန်းကို
ပျို့ဖျန်းတစ်သိုက်၊ ခူးစဉ်ကြိုက်ဝယ်
တိမ်တိုက်ပြို့လာ၊ ရန့်ဖြာ၏။ ။

"သောက်သုံးမကျ၊ ဘာဇာဗျာလဲ၊ အလကားဇာဗျာ" ဟုဆိုကာ ခေါင်းကိုယမ်း၍ ရှေ့မှထွက်သွားလေ၏။

လမ်းဆာလေးမှာ တောင်ဆင်ခြေလျှောကလေး တစ်ခုအတိုင်း ဖောက်ထားပြီး ပန်းပင်များ၊ မိုးမခပင်များ၊ ကျောက်ဆက်များ၊ စမ်းချောင်းများကို ဖြတ်သန်းသွားလေ၏။ နှင်းဆီချုံကြီးများ၊ နှင်းဆီဖြူ ပန်းပေါင်းကူးကြီးများ၊ မြတ်လေးပန်းရုံများ၊ စွယ်တော်ပင်များ၊ ထပ်တရာပန်းရုံကြီးများ၊ငှက်ပျောတောကြီးများနှင့် သာယာလှပေ၏။ ထိုစဉ်တွင် ဝါးပင်များအုပ်မိုးနေသည့် သူတို့အထက်နားရှိ ကျောက်ဂူ ထက်ဆီမှ စမ်းရေသွင်သွင်စီးနေသံကို ကြားလိုက်ရ၏။ ထိုနောက် စမ်းရေထဲတွင် ပန်းဝတ်လွှာကလေးများ မျောပါလာသည်ကိုမြင်ရလေ၏။ အားလုံး တအံ့တသြဖြစ်နေကြစဉ် ကျီချိန်က မည်သည့်ကမ္ဘည်းစာတန်းမျိုး ထိုးလျှင် ကောင်းမည်နည်းဟု မေးမြန်းလေ၏။

"'ဝူလင်စမ်းရေယာဉ်' လို့ အမည်ပေးသင့်တယ် ထင်ပါတယ် သခင်ကြီး" ဟု တစ်ယောက်က ပြော၏။

"ရိုးလွန်းတယ်ဗျာ။ ပြီးတော့ ဒီနာမည်ကလဲ တကယ်ရှိတဲ့ နာမည်ဖြစ်နေတယ်။ ကျုပ်လိုချင်တာက အပြင်မှာ တကယ်မရှိတဲ့ ကျုပ်တို့ဘာသာကျုပ်တို့ ပေးထားတဲ့ နာမည်မျိုး ဖြစ်ချင်တယ်" ဟု ကျီချိန်က ပြုံး၍ပြော၏။

"ဒီလိုဆိုယင် စင့်ခေတ်စာဆိုကြီး တန်ယုန်မင်းရဲ့ ကဗျာထဲက စာလုံးဖြစ်တဲ့ 'ကျင်မြို့သားရဲ့ ကွန်းခိုရာ' လို့ ပေးယင်ကော"

"ဒီနာမည်က သာပြီးတော့ မကောင်းသေးတယ် ခင်ဗျ။ လူတွေ ဒုက္ခသုက္ခရောက်နေတုန်းမှာ ဘယ်မှာ သွားကွန်းခိုရာရှာနိုင်ပါ့မလဲ ခင်ဗျာ။ ကျွန်တော်ကတော့ 'ပေဒါကမ်းဆိပ် ပွင့်ချမျာရိပ်' လို့ အမည်ပေးချင်တယ်ခင်ဗျ"





"မင်းပေးတဲ့နာမည်က သာပြီးတော့အဓိပ္ပာယ်မရှိသေးတယ်" ဟု ကျီချိန်က သူ့သားကိုလှောင်ပြောင်ကာ ကမ်းနားသို့ဆင်းသွားပြီးလျှင်

"ဒီနားမှာ လှေငယ်များကော မရှိကြဘူးလား" ဟု မေး၏။

"ကြာပန်းခူးဖို့ လှေငယ်လေးစင်းနဲ့ အပျော်စီးဖို့ တစ်စင်း ထားဖို့ စီစဉ်ပါတယ်။ ဒါပေမယ့် ခုထက်ထိ မပြီးသေးပါဘူး"

"ဒီလိုဆိုယင်လဲ ဒီစမ်းချောင်းကိုကွေ့ပြီး ဒီလမ်းကလေးအတိုင်း တောင်ပေါ် တက်ရမှာပေါ့ကွာ" ဟု ဆိုကာ ကျီချိန်သည် ရှေ့မှ တက်သွားလေ၏။

အခြားသူများလည်း နွယ်ပင်များ၊ သစ်ပင်များကိုလှမ်းကိုင်ကာ တောင်ကမ်းပါးအတိုင်း တက်လာခဲ့ကြ၏။ ယခုအချိန်၌ကား စမ်းချောင်းထဲတွင် ပန်းပွင့်ပန်းလွှာတို့ မျောလာကြသည်မှာ ပို၍များလာခဲ့လေပြီ။ ပန်းပွင့်ကလေးများသည် ကွေ့ကောက်နေသော စမ်းချောင်းကလေးအတိုင်း မျောပါသွားကြလေ၏။ ထိုစမ်းချောင်းကလေးဘေးတွင် မိုးမခပင်၊ ဆီးတော်ပင်၊ မက်မုံပင်တို့သည် ပင်ချင်းယှက်ကာ အုပ်ဆိုင်းလျက်ရှိ၍ လေမှာလည်း လတ်ဆတ်သင်းပျံ့လျက် ဖုန်နံ့ဆို၍ စိုးစဉ်းမျှမရှိချေ။ ထိုစဉ်မိုးမခပင်ရိပ်အောက်တွင် ဟသ်ာပြဒါးရောင်သုတ်ထား၍ တလက်လက်တောက်နေသည့် သစ်သားတံတားကလေးတစ်ခုကို မြင်လိုက်ရ၏။ ထိုတံတားကလေးကိုလွန်လျှင် လမ်းခွဲကလေး အများအပြားကို တွေ့ရ၏။ သို့ရာတွင် သူတို့၏ မျက်လုံးများသည် အလယ်ရှိ တောင်စောင်း တစ်ခုပေါ်တွင် ကျောက်ချော၊ အုတ်ကြွပ်ဖြူတို့ဖြင့် ဆောက်ထားသည့် အလှအပဆင်ထားသော တံတိုင်းတို့ကာရံထားသည့် အိမ်တစ်လုံးဆီသို့ ရောက်သွားကြ၏။

"ဒီစံအိမ်ကလေးကတော့ တခြားစံအိမ်တွေနဲ့ ဝေးပြီး တယ်လှဲ့အသွားအလာ ခက်ပါကလား" ဟု ကျီချိန်ကပြော၏။

သို့ရာတွင် တံတိုင်းထဲသို့ ဝင်လိုက်သည်နှင့် ကျောက်ဆောင်များသည် ပန်းခက်ပန်းခိုင်တို့ကဲ့သို့ လှပတင့်ဆန်းသော အသွင်ကို ဆောင်လျက်ရှိကြ၏။ ထိုအိမ်ဝင်းထဲ၌ ပန်းပင်သစ်ပင်များ အစား နွယ်ပင်

များ၊ ကပ်ပါးပင်များ၊ ဒန်းပင်များသည် လူလုပ်ထားသည့် တောင်များပေါ်တွင် တွယ်တက်လျက်ရှိကြလေ၏။ အချို့မှာလည်း ကျောက်ဆောင်ကြားတွင် ပေါက်လျက် ရှိကြ၏။ အချို့နွယ်တို့ကား အစွန်းများမှ တွဲလောင်းကျလျက်၊ အချို့က တံစက်မြိတ်များမှ တွဲလောင်းကျလျက်၊ အချို့က တိုင်လုံးကြီးများတွင် ရစ်ပတ်လျက်၊ အချို့က လှေကားထစ်များပေါ်တွင် ကော်ဇောခင်းသည့်နှယ် ဖြန့်ကျင်းလျက်ရှိကြလေ၏၊ အချို့သော နွယ်ပင်နွယ်တန်းတို့မှာကား ရေပေါ်တွင် မျောလျက်ရှိသည့် [illegible]ကြီးစိမ်း၊ ရွှေကြိုးနွယ်များနှင့်တူလှပေ၏။ အချို့နွယ်ပန်းတို့ကား ဟင်္သာပြဒါးရှိုင်းကဲ့သို့ နီရဲသော အသီးများနှင့် ရွှေကဲ့သို့ အပွင့်များပွင့်လျက်ရှိကြပြီး ရနံ့မှာလည်း မည်သည့် ပန်းရနံ့နှင့်မျှမတူ ထူးထူးခြားခြား မွှေးကြိုင်လျက်ရှိ၏။

"ဘယ်လို့လဲ ကျက်သရေရှိပါတလားဗျို့၊ နို့ နေစမ်းပါဦး။ အဲဒီအပင်တွေက ဘာအပင်တွေတဲ့လဲ" ဟု ကျီချိန်က မေး၏။

"မာလာနွယ်နဲ့ ရာဇဝင်နွယ်ပန်းတွေပါ သခင်ကြီး"

"မာလာနွယ်တို့ ရာဇဝင်နွယ်ပန်းတို့က သည်လိုပဲ ရနံ့ မွှေးသလားဗျ"

ပေါက်ယုက ကြားဖြတ်၍

"သူတို့က မွှေးတာမဟုတ်ပါဘူး ဖေဖျား။ ခု ကျွန်တော်တို့ ရနေတဲ့ပန်းနံ့က သူတို့ဆီကလာတာ မဟုတ်ပါဘူး။ တောင်ဇလပ်၊ သစ်ဇလပ်နဲ့ ဂမုန်းပင်တွေဆီကလာတဲ့ ရနံ့ပါ။ ဟောဟိုပန်းကတော့ သော်ကပါ။ အဲဒီပန်းမျိုးတွေဟာ (ချူမင်းဆက်ခေတ်မှာပေါ်ခဲ့တဲ့) စာဆိုဆရာကြီး ချူယွမ်ရဲ့ လီစောဆိုတဲ့ ကဗျာကြီးထဲမှာ ပါပါတယ်။ ဟွာန၊ ချိန်ထွန်၊ ချန်ဇု၊ ရှီဖန်၊ ရှူဆုန်၊ ခုချီ၊ လူ့ယီ၊ တင့်ချောင်၊ မီဟူ၊ ဖန်လျှန်း စတဲ့ ပန်းမျိုးတွေလဲ ရှိပါသေးတယ်။ ဒါပေမယ့် ခုခေတ်ဆရာတွေက ဒီပန်းတွေရဲ့အမည်ကို မသိကြတော့ဘူး။ နာမည်အသစ်တွေ ပေါ်နေတဲ့အတွက်...."

"မင်းထင်မြင်ချက်ကို မေးနေတာမဟုတ်ပါဘူးကွ" ဟု ခမည်းတော် ကျီချိန်က ကြောက်မက်ဖွယ်အော်လိုက်၏။





ပေါက်ယုသည် နောက်သို့ ခပ်ယို့ယို့ ဆုတ်သွားကာ ဘာမျှ မပြောတော့ချေ။

ထိုရင်ပြင်၏ တစ်ဖက်တစ်ချက်တွင် အမိုးမိုးထားသည့် စင်္ကြံများရှိသည့်အတွက် ကျီချိန်သည် စင်္ကြံအတိုင်း လျှောက်လာခဲ့ရာ အကန့် ငါးကန့်ပါ၍ လေးဖက်လေးတန့်တွင် အမိုးအဖီချ၊ ဝရန်တာ ထုတ်ထားလျက် နံရံ ဆေးနီခြယ် အစိမ်းသုတ် ပြတင်းပေါက်များရှိသည့် အဆောင်တစ်ခုသို့ ရောက်လာခဲ့ကြ၏။ ထိုအဆောင်ထဲ၌ကား အေးမြလျက်ရှိကာ အခြားသောအဆောင်များထက် ခမ်းနား တင့်တယ်ခြင်း ရှိသည်ကို တွေ့ရ၏။

"အင်း ပန်းပေါင်းစုံတို့ရဲ့ ရနံ့ကလဲမွှေးလေတော့ ဒီအဆောင်ထဲမှာနေယင် အမွှေးတိုင်တောင် ထွန်းစရာလိုပေမယ် မဟုတ်ဘူး။ ဒီနေရာထိုင်ပြီး စောင်းသံကလေးကို နားထောင်ရင်း ခြေဆင်းလို့ လူ အပန်းဖြေဖို့ကောင်းတဲ့ နေရာကလေးပေပဲ။ ဒီခန်းဆောင်ကို ဘယ်လိုများ ကမ္ပည်းထိုးယင် ကောင်းမလဲ။ ဆိုစမ်းပါဦး စာရေးတော်ကြီးတို့ရဲ့"

"'သစ်ခွပွင့်လေညင်းနဲ့ မိုးလုံးမှိုင်းနှင်းစက်' လို့ အမည်တပ်ယင် သင့်တော်မယ်လို့ထင်ပါတယ် သခင်ကြီး"

"ကျွန်တော် စဉ်းစားထားတာ တစ်ပုဒ်တော့ ရှိပါတယ်။ မကောင်းယင် ပြင်ကြပါ" ဟုဆိုကာ တစ်ယောက်က စပ်ထားသည့် ကဗျာတစ်ပုဒ်ကို ရွတ်ပြလေ၏။

ဆည်းရီချုပ်စ၊ မှုန်ပျပျတွင်
နှန်းရင်ပြင်၌၊ သဇင်ဂမုန်း
မိုးလုံးမှိုင်းမြ၊ ထိုသင်းခွသို့
ရှန်းမြလဝန်း၊ သာသည့်ကျွန်း၌
မွှန်းမွှန်းရနံ့၊ ထုံသင်းပျံ့၏။

"အင်း ကောင်းပါပေတယ်ဗျာ။ 'ဆည်းဆာ' ဆိုတဲ့ စကားကို ညွှန်းထားတာတစ်ခုပဲ အပြစ်ဆိုစရာရှိရဲ့"

ထိုအခါတွင် စာစပ်သူက 'ဆည်းဆာအိုတွင်၊ နန်းရင်ပြင်ထက်၊ ဂမုန်းခက်လှည်း၊ မျက်ရည်ကျယောင်၊ ငိုသော့ယောင်သို့' ဆိုသည့် ရှေးကဗျာတစ်ပုဒ်ကို ရွတ်ပြလေ၏။

"မကောင်းပါဘူးဗျာ။ ဒီကဗျာက နမိတ်မရှိ နမာမရှိ"

"ဒါဖြင့် နောက်တစ်ပုဒ် ကျွန်တော်စပ်ပြပါ့မယ်ခင်ဗျာ။ နားထောင်ကြပါ"ဟု တစ်ယောက်က ပြောပြန်လေ၏။

တောမြိုင်ခြေလမ်း၊ အနန်းသော်က
မွှေးထုံမြလျက်၊ နန်းမသော်မော်
ဥယျာဉ်တော်မှ၊ ရွှေသစ်ခွတို့
ရွှန်းမြရောင်ရည်၊ လရောင်ခြည်၌
ဝေရီသစ်သစ်၊ မွှေးထုံယစ်လျက်။ ။

ကျီချိန်ကား မုတ်ဆိတ်မွေးကို ဆွဲကာ ဆွဲကာဖြင့် စဉ်းစားလျက်ရှိ၏။ ထို့နောက် သူကိုယ်တိုင် ကဗျာတိုကလေးတစ်ပုဒ် လက်တန်းစပ်မည်ပြုစဉ် စကားမပြောရဲဘဲ ကုပ်နေသည့် ပေါက်ယုကို မြင်လိုက်သည့်အတွက် ခက်ထန်တင်းမာသော မျက်နှာထားဖြင့်

"ကဲ ပြောစမ်းပါဦး။ မဟုတ်တဲ့အချိန်မှာတော့ စကားများပြီး ပြောစရာ ဆိုစရာရှိလာပြီဆိုယင်တော့ တစ်လုံးမှမထွက်ဘူး။ ဘာလဲ မောင်မင်းကြီးသားကို ကျုပ်တို့က တောင်းပန်ပြီး စာစပ်ခိုင်းရဦးမှာလား။ ဝေဖန်ချက်ပေးပါဦးလို့ တောင်းပန်ရဦးမှာလား"

"ကျွန်တော်တို့ ခုရောက်နေတဲ့ ဥယျာဉ်တော်မှာ လရောင်လဲ မရှိပါဘူး။ ရွှေသစ်ခွလဲ မရှိပါဘူး။ ကျွန်းတွေလဲ မရှိပါဘူး။ ဒါပေမယ့် ခု ကျွန်တော်မြင်နေရတဲ့ ရှုခင်းတွေပါအောင် စပ်ချင်တယ်ဆိုယင်တော့ ဒီလိုစာကို တစ်ပုဒ်မှက အပုဒ်တစ်ရာလောက်တောင် စပ်နိုင်ပါတယ်"

"မင်းကို ဘယ်သူက မြှောက်ပေးနေလို့ ဒီစကားတွေကို ပြောရတာလဲ"





"ကျွန်တော်သာ ကမ္ပည်းတပ်ရမယ်ဆိုယင်တော့ 'ဂမုန်းဓာယဉ်၊ သဇင်ကမွှေး'လို့ တပ်မှာပါပဲ။ အဲဒီကမ္ပည်းရဲ့ အောက်မှာမှ

မာလာပွင့်ကို၊ ကဗျာဆိုက
အလှကဗျာ၊ ချစ်စရာတည့်၊
နှင်းဆီချုံရိပ်၊ တစ်ရေးအိပ်က
တိုးဟိတ်ညံ့သက်၊ ထိုအိပ်မက်တည့်။ ။

လို့ စာစပ်မှာပါ"

ကျီချိန်က ရယ်လိုက်လျက်

"ဒီစာတိုလေးဟာ 'ငှက်ပျောဖက်စိမ်းပေါ်တွင် ရေးသောကြောင့် စာလည်းစိမ်းပေသည်'ဆိုတဲ့ မေတ္တာစာထဲက ခိုးချထားတာမဟုတ်လား။ သူများစာကို ခိုးချတာ မင်းမို့လို့ မရှက်ပလေတယ်ကွယ်"

"စာခိုးတယ်ဆိုတာ အခိုးကောင်းခဲ့ယင် ဘာမှ အပြစ်မရှိပါဘူး သခင်ကြီး။ ကျွန်တော်တို့ရဲ့ ရှေးစာဆိုကြီး လီပိုးတောင်မှ 'နုတ်ငှက်လေသာဆောင်' ကဗျာကိုရေးတော့ 'အဝါရောင် ကြိုးကြာခန်းဆောင်'ဆိုတဲ့ ဇာတ်ထဲက စာတွေကို ကူးချသေးတာပဲ။ ခု သခင်လေး ရွတ်ပြတဲ့ ကဗျာကလေးကို သေသေချာချာ စဉ်းစားကြည့်လို့ရှိယင် ကိုယ်ပိုင်စပ်တာထက် အများကြီးတာသွားတာကို တွေ့ရပါလိမ့်မယ်။ ပိုကဗျာဆန်ပြီး ပိုပြီးလဲ အသက်ဝင်တာကို တွေ့ရပါလိမ့်မယ်။ သခင်လေး ရွတ်ပြလိုက်တဲ့အခါကျတော့ သခင်လေးဟာ စာကူးသူမဟုတ်ဘဲ သခင်လေးစာကို အဲဒီစာအုပ်ထဲက ဆရာက ကူးထားတာလို့တောင် ထင်လိုက်ရပါတယ်သခင်ကြီး"

"ဒါကတော့ လွန်လွန်းပြီထင်တယ်ဗျ" ဟု ကျီချိန်ဂျာ ပြုံး၍ ပြော၏။

ထိုမှဆက်၍လာခဲ့ကြသည့်အခါတွင် ခမ်းနားလှပသောအဆောင်ကြီးများနှင့် မြင့်မားသောမျှော်စင်ကြီးများကို မြင်ရ၏။ ထိုအဆောက်အအုံနှင့် အဆောင်များကို ကွေ့ကောက်နေသော လမ်းကလေးများ

ဖြင့် ဆက်သွယ်ထားလေ၏။ စိမ်းညိုသော ပိုင်းပင်များသည် တံစက်မြိတ်များနှင့် ထိလျက်ရှိပြီး လှေကားထစ်များတွင်ဖြူဖွေးသော လက်ရန်းများ တပ်ဆင်ထားသည်ကို မြင်ရ၏။ ဂုမ္ဘဏ် ယက္ခ စသည့် အရုပ်ကြီးများသည်၊ ရွှေရောင်ဖြင့် ဖောင်းကြွလျက်ရှိပြီး ဆေးခြယ်ထားသည့် နဂါးခေါင်းကြီးများသည် တဖိတ်ဖိတ်လက်လျက်ရှိလေ၏။

"ဒီအဆောင်ကတော့ ယာယီစံနန်းမှာ ဗဟို ညွှန်ခန်းဆောင်မကြီးပဲဗျ။ အဆောင်မှာ သိပ်ပြီး ကြီးကျယ်ခမ်းနားလွန်းတာက လွဲလို့ တခြားအပြစ်တော့ မရှိပါဘူး"ဟု ကျီချိန်က ပြော၏။

"ခမ်းနားရပေမှာပ သခင်ကြီးရယ်။ ထိပ်တားကလေးဟာ ချွေတာခြိုးခြံတာကို နှစ်သက်တော်မူသည့်တိုင် သူ့အဆောင်အယောင်ဂုဏ်ဒြပ်နဲ့ လိုက်လျောညီအောင်တော့ ပြင်ဆင်ရပေမှာကိုး သခင်ကြီးရဲ့"

သူတို့ လူသိုက်သည် နဂါးရုပ်ကြီးများ၊ မြွေရုပ်ကြီးများ ထွင်းထုထားသည့် ကျောက်ဖြူသား မုခ်ဦးကြီးတစ်ခုအောက်သို့ ရောက်လာခဲ့ကြပြန်၏။

"ဒီနေရာမှာကော ဘယ်လို ကမ္ပည်းစာတန်းများထိုးယင် ကောင်းမယ်ထင်သလဲ"

"'ဝေဇယန္တာနန်းဘုံ'လို့ အမည်ပေးယင် ဘယ့်နှယ်နေမလဲ"

ကျီချိန်သည် မှည်သို့မျှမပြောဘဲ ခေါင်းကို ယမ်းလျက်ရှိလေ၏။

ပေါက်ယုသည် ထိုခန်းဆောင်ကိုမြင်လျှင် တစ်နေရာတွင် သူမြင်ဖူးသည်ဟု အောက်မေ့ကာ စိတ်လှုပ်ရှားလျက်ရှိ၏။ သို့ရာတွင် မည်သည့်နေရာတွင်မြင်ဖူးသည်ကို ကောင်းစွာသတိမရတော့ပြီ။ စာစပ်ရန်ပြောသည့်တိုင် ပေါက်ယုသည် စာကိုမစပ်နိုင်ဘဲ ငိုင်တိငိုင်ငိုင်ဖြစ်လျက်ရှိ၏။ အချို့ကမူ ထိုအချက်ကို မသိကြသဖြင့် ပေါက်ယုသည် မောပန်းကာ စိတ်အာရုံလွင့်ပျံ့နေဟန်ရှိ၏။ အတင်းတိုက်တွန်းလျှင် ပေါက်ယုပါးစပ်မှ မတော်တရော်တွေထွက်လာမည်စိုးသည့်အတွက် ပေါက်ယုကို တစ်ရက်လောက်အချိန်ပေးပြီး အစပ်ခိုင်းရန် စာရေးတော်ကြီးများက ပြောကြ၏။





မယ်မယ်ကလည်း သူ့မြေးကိုချစ်သည့်အတွက် မိမိအပေါ်တွင် အပြစ်ပုံမည်စိုးသည့်အလျောက် ကျီချိန်သည် လှောင်ပြုံးပြုံးလိုက်ရာမှ

"အင်း ဒီသတ္တဝါကလေးကလဲ တစ်ခါတလေမှာ အမေ့မေ့အလျော့လျော့ဖြစ်တတ်သေးတယ်ဗျ။ ကောင်းပြီ။ မနက်ဖြန်အထိ မင်းကို အချိန်ပေးမယ်။ မနက်ဖြန်မှာ အပြီးစပ်ပါ။ မနက်ဖြန်ထိအောင်မှ မပြီးယင် မဖြစ်ဘူး။ ဒီနေရာက အရေးကြီးဆုံးနေရာဆိုတော့ စာကလဲ အကောင်းဆုံးဖြစ်မှ"

သို့ဖြင့် ဥယျာဉ်တော်ကိုလှည့်၍ ကြည့်ခဲ့ကြရာ တစ်ဝက်ကျော်ကျော်လောက် ရောက်လာသည့်အခါ၌ ယုဆုန်ထံမှ မင်းလုလင် တစ်ယောက် ရောက်လာကြောင်းဖြင့် အစေတော်တစ်ယောက်က လာရောက်ပြောကြား၏။

"ကောင်းပြီလေ။ ဒီလောက်ကြည့်ရယင် တော်ပါပြီ။ ရှေ့ဆက်မကြည့်တော့ပါဘူး။ ဒါပေမယ့် တခြားဘက်ကပြန်ထွက်ရင်း လျှောက်ကြည့်သွားတာပေါ့"ဟု ကျီချိန်က ပြောလေ၏။

ကျီချိန်သည် ရေတံခါးတစ်ခုကို ဘယ်ဖြတ်ထားသည့် တံတားတစ်ခုအတိုင်း လျှောက် သွားလေ၏။ ထိုနေရာမှာ အမြင့်မှသွယ်ယူသည့်ရေကို ဆည်ထားသည့် ရေလွှဲတံခါးပေါက်တစ်ခု ဖြစ်၏။ ကျီချိန်က ထိုနေရာကိုလည်း အမည်စာတန်းရေးရန် ပြောလေ၏။

"ဒီနေရာက တတိုင်းမွှေးဥယျာဉ်တော်ကို ရေပေးတဲ့နေရာဖြစ်တဲ့အတွက် တတိုင်းမွှေးရေလွှဲလို့ အမည်ပေးသင့်ပါတယ်"ဟု ပေါက်ယုက ပြောလေ၏။

"အလကား၊ မင်းနာမည်က ဘာအသုံးကျသလဲ။ ဘယ့်နှယ် တတိုင်းမွှေးရေလွှဲလို့ ပေးလို့ဖြစ်ပါ့မလား"ဟု ကျီချိန်က ပြောလေ၏။

သို့ဖြင့် သူတို့သည် တိတ်ဆိတ်လျက်ရှိသော သက်ငယ်တဲများ၊ လယ်တဲများ၊ ကျောက်တံတိုင်းများ၊ လေသာဆောင်ငယ်များ၊ တောင်ကြားထဲတွင် တစ်ပိုင်းတစ်စပေါ်နေသော စေတီတစ်ဆူနှင့် တောရကျောင်းတစ်ကျောင်း သခ်မ်း၊ အမိုးမိုးထားသည့် စင်္ကြံများ၊ လိုဏ်ဂူများ၊ စတုရန်းပုံ အဆောင်များ၊ မျှော်စင်များကို ဖြတ်လာခဲ့ကြ၏။

သို့ရာတွင် ထိုအဆောက်အအုံများထဲသို့ ငုံကြည့်ခြင်းမပြုကြတော့ချေ။ အဆောင်တစ်ဆောင်အနီးသို့ ရောက် သည့် အခါ တွင် သူတို့အားလုံး ပင်ပန်းကာ ခြေထောက်တွေ ပေါက်ကုန်ကြလေပြီ။

"သည်နားမှာ ဧကလောက် နားကြဦးစို့ရဲ့" ဟု ကျီချိန် က ပြော၏။

ကျီချိန်သည် အပွင့်ဝေလျက်ရှိသည့် မက်မုံပင် တန်း များ အောက်သို့ လျှောက်လာကာ ပန်းနွယ်များတက်လျက်ရှိသည့် ဝါးဖြင့် လုပ်သော လသာဆောင်တံခါးတစ်ခုကို ဖြတ်သန်းဝင်လာခဲ့လေ၏။ ရှေ့တွင် ဆေးဖြူသုတ်ထားသည့် တံတိုင်းများနှင့် စိမ်းလန်းသော မိုးမခ ပင်အုပ်များကို မြင်ရ၏။ တံတိုင်းဘေးတွင် အမိုးမိုးထားသည့် စင်္ကြံ များ ဆောက်လုပ်ထားပြီး တလင်းအလယ်ကောင်တွင် စိုက်ထားသည့် ငှက်ပျော ပင် များ အ ကြား ၌ ကျောက်ပန်းခက်များကို တွေ့ရ၏။ တစ် ဖက် တွင် မူ အပွင့်တွေဝေလျက်ရှိသော ပန်းသီးချဉ်ရိုင်းပင်ကြီး တစ်ပင် စိုက်ထားလေ၏။ ထိုအပင်ကြီး၏ အကိုင်း အခက်များသည် ထီးမိုးထားသကဲ့သို့ ဘေးသို့ပြန့်ကားထွက်လျက်ရှိကာ အပွင့်များမှာ လည်း ရဲရဲနီအောင် ပွင့်လျက်ရှိကြ၏။

"တယ်လှတဲ့ အပွင့်တွေပေပဲ။ ဒီလောက်လှတဲ့ ပန်းသီးချဉ်ပင် မျိုး တစ်ခါမှ မတွေ့ဖူးသေးဘူးဗျ"

"ဒီအမျိုးက တိုင်းတစ်ပါးက လာတဲ့အမျိုးပါ သခင်ကြီး။ နတ်မိမယ် ပန်းသီးရိုင်းပင်လို့ခေါ်တယ်။ စကားအဆိုကတော့ ဒီအပင် မျိုးဟာ နတ်မိမယ်တွေနေတဲ့ တိုင်းပြည်မှာမှ ပေါက်ပါသတဲ့၊ အဲဒီ တိုင်းပြည်မှာဆိုယင် အပွင့်တွေဟာ ဒီထက်တောင် ပွင့်သေးသတဲ့။ ထားပါတော့လေ။ ဒါကတော့ အရပ်စကားပါ"

"တကယ်ရှိလို့နေမှာပဲ။ တကယ်မရှိယင် ဒီအမည် ဘယ့်နှယ်လုပ် ဆင်းသက်လာမလဲ" ဟု တွေးနေကြ၏။

ပေါက်ယုက





" 'နတ်မိမယ်' ဆိုတဲ့ နာမည်ကို ကဗျာစာဆိုတွေက ပေးခဲ့တာ ဖြစ်မှာပေါ့။ ဘာဖြစ်လို့လဲဆိုတော့ ပန်း ပွင့် တွေ ကို ကြည့်ရတာက အပျိုစင်ကလေးတွေရဲ့ ဆေးဆိုးထားတဲ့ ပါးအို့ကလေးများလို နီရဲနေ တာကိုး။ ဝတ်လွှာကလေးတွေကလဲ အပျိုစင်ကလေးတွေလို နူးညံ့ သိမ်မွေ့ပေတာကိုး။ ဒီတွင် စာမတတ်ပေမတတ်လူက ဒီပန်းဟာ နတ် မိမယ်တွေနေတဲ့ တိုင်းပြည်မှာပွင့်တယ်ဆိုပြီး ထင်ရာပြောတော့ လူပြိန်း တွေကလဲ အဟုတ်ထင်ကြမှာပေါ့"

"ဖြစ်နိုင်ပါတယ်။ သခင်လေးပြောတဲ့အတိုင်း မှန်ပါပေတယ်" ဟု ကျန်လူများက ထောက်ခံကြ၏။

သူတို့သည် စင်္ကြံရှိထိုင်ခုံများပေါ်တွင် ဝင်ထိုင်လိုက်ကြ၏။ ကျီချိန်က ထိုနေရာကိုလည်း အမည်စာတန်းထိုးရန် ပြောလေ၏။

" 'ငှက်ပျောတောနဲ့ ဝံပိုငှက်သိုက်မြုံ' ဆိုယင်ကော" ဟု တစ် ယောက်က ပြောလေ၏။

" 'ဘုံဆောင်မြင့်နှင့် တင့်ရှန်းဗိမာန်' ဆိုယင်ကော"

ကျီချိန်နှင့် လူကြီးများက 'ထိုအမည်ကို လက်ခံတော့မည်ပြုစဉ် ပေါက်ယုက

"ကောင်းတော့ ကောင်းပါရဲ့။ ဒါပေမယ့် ငှက်ပျောတောနဲ့ ပန်းသီးရိုင်းပင်ရဲ့အရောင်က အစိမ်းနဲ့အနီခင်ဗျ။ အခုတော့ တစ်ပိုင်းသာ မှန်ပြီး တစ်ပိုင်းက စာဆိုနဲ့မကိုက်ဘဲ ဖြစ်နေတယ်"

"ဒီလိုဆိုယင် မင်းက ဘယ်လိုများအမည်ပေးချင်သေးသတုန်း"

" 'နံ့သာနီတောင်နဲ့ ကျောက်စိမ်းဂူ' ဆိုယင်၊ နှစ် ခု စ လုံး နဲ့ ကိုက်လိမ့်မယ် ထင်ပါတယ်"

"မင်းပေးတဲ့နာမည်က ပျော့လွန်းတယ်ကွာ" ဟုဆိုကာ ကျီချိန် သည် ခေါင်းကိုယမ်းလျက် ရှိ၏။

ထို့နောက် အဆောင်ထဲသို့ ဝင်ခဲ့ကြ၏။ အ ဆောင် ထဲ တွင် အခန်းဆောင်ငယ်များမှာ တစ်ခုနှင့်တစ်ခု မျှားစွာမခြားနားလှချေ။ သီးသန့်လည်း ခွဲခြားထားခြင်းမရှိချေ။ စာအုပ်များတင်သည့် စင်ကြီး များဖြင့်သာ ပိုင်းခြားထားပြီးလျှင် ကြေးဒေါင်းလန်းကြီးများ၊ စာ

ရေးကိရိယာများ၊ ပန်းအိုးများ၊ နေကြာပွင့်ပုံဖော်ထားသည့် ဥယျာဉ်ငယ်ကလေးများ၊ ငှက်ပျောရွက်ညွန့်များ ထိုးစိုက်ထားသည့်တိုင်များဖြင့် တန်ဆာဆင်ထား၏။ ထုပ်များတွင်လည်း တိမ်တိုက်နှင့် လင်းနို့များသဏ္ဌာန်၊ ဟောမန္တ၏ အဆွေသုံးဦးဟု ခေါ်ကြသော ဝါးပင်၊ ဆီးပင်နှင့် ပိုင်းပင်တို့၏အရုပ်များကို ပန်းချီရေးထားလေ၏။ ထို့ပြင် နံရံပေါ်တွင် ငှက်ရုပ်များ၊ ပန်းပွင့်များ၊ လိပ်ပြာများနှင့် အသက်ရှည်ခြင်းနှင့် ကျန်းမာခြင်းကိုဟောသည့် သင်္ကေတများကိုရေးဆွဲထားလေ၏။ ထိုအရုပ်များမှာ တတ်ကျွမ်းသည့် ပန်းရံပန်းတမော့၊ ပန်းချီပညာသည်တို့ ရေးခြယ်ထုလုပ်ထားခြင်းဖြစ်ပြီး သင့်ရာ နံရံ နေရာများ၌ရွှေနှင့် အဖိုးတန် ကျောက်မျက်ရတနာများကို မြှုပ်နှံထားလေ၏။ ရှခင်းမှာခမ်းနားသလောက် လက်ရာကလည်း ကောင်းလှပေ၏။ တစ်နေရာတွင် ပြတင်းကိုဇာခန်းဆီးတပ်ထားပြီး အခြားတစ်နေရာတွင်တံခါးမကြီးကို သက္ကလတ် ခန်းဆီးများ ချိတ်ဆွဲထား၏။ ထို့ပြင် နံရံတွင် စောင်း၊ ခေါလွယ်၊ အလှအပပစ္စည်း စသည်တို့ကိုတင်ရန် စင်ကလေးများကိုလည်း အသင့်ပြုလုပ်ထားလေ၏။ ကြည့်ရှုသူ အပေါင်းမှာ အနုပညာရှင်တို့၏ လက်ရာကိုကြည့်ကာ ရင်သပ်ရှုမော ဖြစ်လျက် ရှိကြလေ၏။

ခန်းဆောင်နှစ်ခုကို ဖြတ်သန်းပြီးသည့် အခါတွင် ကျိချိန်နှင့် နောက်လိုက်နောက်ပါများသည် မျက်စိလည်ကာ လမ်းပျောက်လျက်ရှိ၏။ လက်ယာဘက်တွင် ပြတင်းပေါက် တစ်ပေါက်ရှိပြီး လက်ဝဲဘက်တွင် တံခါးပေါက်ကြီး တစ်ခုရှိ၏။ ရှေ့သို့တိုးလာသည့်အခါတွင်သူတို့ရှေ့၌ စာအုပ်စင်ကြီးတစ်ခု ကာဆီးလျက် ရှိသည်ကို တွေ့ရ၏။ ထို့ကြောင့် ပြန်လှည့်လာကာ ပြတင်းပေါက်ဘက်သို့ လှမ်းကြည့်လိုက်ကြလေ၏။ သို့ဖြင့် တံခါးမကြီးဆီသို့လာခဲ့ကြရာ သူတို့ဆီသို့လာနေသော အဖွဲ့တစ်ဖွဲ့ကို မြင်လိုက်ရလေ၏။ သေသေချာချာကြည့်သည့် အခါတွင် ထိုတံခါးမှာ မှန်ကြီးတစ်ချပ်ဖြစ်နေပြီး မှန်ကြီးထဲတွင် သူတို့ကိုယ်သူတို့ ပြန်မြင်နေရခြင်းဖြစ်ကြောင်း တွေ့ရ၏။ ထိုမှန်ကြီးကို ကျော်လာသည့် အခါတွင် နောက်ထပ်တံခါးများကို တွေ့ရပြန်လေ၏။





ကျိချိန်ကပြုံးလျက်

"ဦးလေးတို့ ကျွန်တော့်နောက်ကို လိုက်ခဲ့ကြခင်ဗျ။ ခု ကျွန်တော်တို့ နောက်ဘက်က ရင်ပြင်ကိုထွက်နေတာ။ လာ လာ ကျွန်တော် ဖြတ်လမ်းပြမယ်"

ခန်းဆီးတပ်ထားသည့် တံခါးပေါက်ကြီး တစ်ပေါက်မှ ထွက်လိုက်သည့်အခါတွင် နှင်းဆီရုံကြီးများ ပျိုးထားသည့် ရင်ပြင်တစ်ခုသို့ ရောက်သွား၏။ ခြံစည်းရိုးအနားသို့ လာခဲ့သည့်အခါတွင် စမ်းချောင်းတစ်သွယ်စီးနေသည်ကို ပေါက်ယုမြင်ရလေ၏။

"ဟင် ဒီစမ်းချောင်းက ဘယ်ကစီးလာတာလဲ"ဟု တအံ့တသြ မေးမြန်းကြလေ၏။

ကျိချိန်က အဲဝေးသို့ လက်ညှိုးညွှန်ပြကာ

"ဟောဟိုလျှိုထဲမှာရှိတဲ့ တစ်ဖက်ဆည်ကန်က စီးလာတာခင်ဗျ။ အဲဒီကနေပြီး အရှေ့မြောက်ဘက် တောင်ကြားထဲကို စီးတယ်။ ပြီးတော့ ဟောဟိုက ပျပျမြင်ရတဲ့ လယ်ကွက်ကလေးဆီကို စီးတယ်။ ပြီးတော့ အနောက်တောင်ကို ကွေ့သွားတယ်။ အဲဒီကမှစမ်းချောင်းနှစ်ခုပေါင်းပြီး တံတိုင်းအောက်ကနေဖြတ်ပြီး ဒီဘက်မှာ ပြန်ပေါ်လာတာ"

"ဆန်းပါပေတယ်ဗျ"ဟု အားလုံးက ချီးကျူး ကြလေ၏။

ထိုနောက် ရှေ့တွင် ဆီးကာနေသော တောင်ကြီး တစ်လုံးကို တွေ့ရပြန်သဖြင့် လမ်းပျောက် နေကြပြန်လေ၏။ ဤတွင် ကျိချိန်က ယာကာ ရှေ့မှဦးဆောင်သွားသည်တွင် တောင်ကို ကွေ့ပတ်ပြီး တစ်ဖက်တောင်ခြေသို့ ရောက်သွားသည်နှင့် အဝင်ဝ တံခါးမကြီးနှင့် မနီးမဝေး ရင်ပြင်တစ်ခုသို့ ပြန်ရောက်နေကြောင်းကို တွေ့ရလေ၏။

"အကျိုးနည်း မျက်စိကို လည်နေတာပဲဗျာ။ စိတ်ကူးကလဲ ကောင်းပါပေ့"ဟု ပြောကြ၏။

သို့ဖြင့် သူတို့သည် ဥယျာဉ်တော်မှ ထွက်ခွာလာခဲ့ကြလေ၏။ ပေါက်ယုကား မိန်းမဆောင်သို့ ပြန်ချင်နေလေပြီ။ သို့ရာတွင် မယ်တော်ကြီးက ပြန်မလွှတ်သေးသည့်အတွက် ပိဋကတ်ဆောင်သို့

လိုက်လာခဲ့ရပြန်လေ၏။ ထိုအခါကျမှ ကျိချိန်မှာ ပေါက်ယု ပါလာမှန်းကို သိသဖြင့်

"မင်းက ဘာဖြစ်လို့ ဒီကို လိုက်လာရပြန်တာလဲ။ ဒီလောက် လျှောက်လည်ရတာတောင် မကျေနပ်သေးဘူးလား။ သွားတော့ မယ်မယ် စိတ်ပူနေတော့မယ်။ မယ်မယ်မှာလဲ သူ့ကိုချစ်ရတာနဲ့ သေတော့မယ်။ သွားသွား မြန်မြန်သွား"

ဤတွင် ပေါက်ယုလည်း ပြန်လာခဲ့လေ၏။ ထို့နောက် မည်သို့ဖြစ်ပျက်သည်ကိုမူ နောက်တစ်ခန်းတွင် ဖော်ပြထားပေ၏။







## အခန်း ၁၈

### နန်းမတော်ထိပ်ထားသည် မိးထွန်းပွဲတော်တွင် မိဘများထံ အလည်ကြွတော်မူခြင်း။

### ထိုက်ယုသည် ကဗျာတစ်ပုဒ်စပ်ပေးခြင်းဖြင့် ချစ်သူကိုကူညီခြင်း။

ရန်းဆောင်အပြင်ဘက် တလင်းပြင်သို့ရောက်သည်နှင့် ကျိချိန်၏ သူငယ်တော်များသည် ပေါက်ယုကို ပွေ့ဖက်နှုတ်ဆက်ကြလေ၏။

"ဒီနေ့ သခင်ကြီးကိုကြည့်ရတာ စိတ်လက်ကြည်သာပုံရတယ်ဗျ။ တော်သေးတာပေါ့ သခင်လေးရယ်။ မယ်မယ်ကလဲ သားအဖနှစ်ယောက် ဘယ်လိုများနေကြသလဲလို့ ခဏခဏလူလွှတ်ပြီး မေးတယ်ခင်ဗျ။ ကျွန်တော်တို့က အဆင်ပြေပါတယ်လို့ ပြောလိုက်ရတယ်။ နို့မို့ယင် မယ်မယ်က ပြန်အခေါ်ခိုင်းမှာ။ မယ်မယ်က ပြန်ခေါ်ယင် သခင်လေး ခုလို ဉာဏ်စွမ်းဉာဏ်စတွေကို ပြနိုင်တော့မှာ မဟုတ်ဘူး။ သခင်လေး လက်တန်းစပ်ပြတဲ့ ကဗျာတွေက တယ်ကောင်းဆို။ ဒီနေ့ သခင်လေး ကံကောင်းတယ်ခင်ဗျာ။ ဒီတော့ ကျွန်တော်တို့ကို ဆုကြေးလေးဘာလေး သနားဖို့ကောင်းတယ်"

"ပေးပါ့မယ်ကွာ။ မင်းတို့ကို ငွေစတစ်ထုပ်စီ ပေးပါ့မယ်"

"ဟာ ငွေစတစ်ထုပ်လောက်တော့ ဘာလုပ်မှာလဲ သခင်လေးရ။ ကျွန်တော်ကတော့ သခင်လေးရဲ့ သားရေအိတ်ကို လိုချင်တယ်ဗျာ"

သူငယ်တော်များသည် သူတို့သခင်လေးကို ခွင့်မတောင်းတော့ဘဲ အနီးသို့ ဝိုင်းအုံလာကြကာ ပေါက်ယုတွင်ရှိသည့် နံ့သာဖျန်းထားသော လက်ကိုင်အိတ်၊ ယပ်တောင်အိမ်နှင့် အခြားသောပစ္စည်းများကို လုယူကြ၏။

"ကဲ သခင်လေးကိုလိုက်ပို့လိုက်ကြရအောင်ဟေ့"ဟုဆိုကာ အစေတော်တစ်ယောက်က ပေါက်ယုကို ပခုံးပေါ်သို့ ထမ်းလိုက်ပြီး အခြားအစေတော်များက နောက်မှအော်ဟစ်၍ မယ်မယ့်အဆောင်အထိ လိုက်ပို့ကြ၏။

သူ့မြေးချစ် ပေါက်ယုသည် အားလုံးနှင့် သင့်မြတ်အောင်ပေါင်းတတ်သူဖြစ်သည့်အတိုင်း၊ ယခုကဲ့သို့ အစေတော်များ၊ အထိန်းတော်များက သူ့မြေးချစ်ကို အဆောင်ထဲသို့ ခေါ်လာသည်ကို မြင်သည့်အခါတွင် မယ်မယ်မှာလည်း စိတ်အေး၍သွား၏။ ပေါက်ယုအဖို့ကား အဆန်းမဟုတ်တော့ပြီ။

သူ့အစေတော် မာလာက ပေါက်ယုကို ကိုယ်တိုင်လာ၍ လက်ဖက်ရည်ချပေးသည့်အခါတွင် ပေါက်ယုတွင် ဆင်ယင်ထားသည့် လက်ဝတ်လက်စားဆို၍ တစ်ခုမျှမကျန်တော့သည်ကို မြင်တွေ့ရ၏။ မာလာက....

"ဘာလဲသခင်လေး။ ဟိုဘက်စံအိမ်က အစေတော် သူငယ်တော်သူတောင်းစားတွေ သခင်လေးပစ္စည်းတွေကို ချွတ်ယူလိုက်ကြပြီ မဟုတ်လား"ဟု ပြုံး၍မေး၏။

ထိုက်ယုက လာကြည့်သည့်အခါတွင် မာလာပြောသည့်အတိုင်း ပေါက်ယု၏ ကိုယ်ပေါ်တွင် မည်သည့် လက်ဝတ်လက်စား၊ အသုံးအဆောင်ကိုမျှ မတွေ့ရတော့ချေ။

"ဩော် မောင်လေးကမလေးထိုးပေးတဲ့ လက်ကိုင်အိတ်ကလေးကို ပေးပစ်ခဲ့ပြီပေါ့။ တော်ပြီ၊ နောက်များတော့ ဘာမှမပေးတော့ဘူး"





ထိုက်ယုသည် စိတ်ဆိုးဆိုးဖြင့် သူ့ခန်းဆောင်သို့ ပြန်လာကာ ပေါက်ယုအတွက်ထိုးသဖြင့် ထိုးပေးနေသည့် နံ့သာအိတ်ကလေးကို ကတ်ကြေးဖြင့် ကောက်ဖြတ်ပစ်လိုက်၏။

စိတ်ဆိုး မာန်ဆိုးဖြင့် အဆောင်ထဲသို့ပြန်ဝင်သွားသော ထိုက်ယုကို မြင်လိုက်သည်တွင် ဟစ်ခုခုတော့ဖြစ်မည်ဟု သိလိုက်သည့်အတွက် ပေါက်ယုသည် နောက်မှလိုက်သွားလေ၏။ သို့ရာတွင် နောက်ကျခဲ့လေပြီ။ နံ့သာအိတ်ကလေးမှာ ထိုးလက်စဖြစ်သည့်တိုင် အိတ်ပေါ်တွင် ထိုးထားသည့် ရွှေချည်ပန်းများမှာ အလွန်ကောင်းသည့်လက်ရာဖြစ်၍ ထိုက်ယုကိုယ်တိုင် အချိန်ကုန်ခံကာ ဂရုတစိုက်ထိုးခဲ့သည့် အိတ်ကလေးဖြစ်၏။ ယခုကဲ့သို့ ဘာမဟုတ်သည့် အကြောင်းကလေးဖြင့် ဖျက်ဆီးပစ်လိုက်သည်ကို မြင်ရသည့်အခါတွင် ပေါက်ယုမှာ စိတ်မကောင်းဖြစ်လျက်ရှိလေ၏။ ပေါက်ယုက အပေါ်အင်္ကျီလည်ထောင်ကို လျင်မြန်စွာဖြုတ်လိုက်လျက် အတွင်းခံအင်္ကျီအနီပေါ်တွင် ဆွဲထားသည့် နံ့သာအိတ်ကလေးကို ပြလိုက်ကာ

"မလေးပေးတဲ့အိတ်က ဒီမှာရှိတယ်လေ။ မလေးပေးတဲ့ပစ္စည်းကို ကျွန်တော် ဘယ်သူ့ကို ပေးဖူးလို့လဲ"

ပေါက်ယုသည် မိမိပေးသည့် ပစ္စည်းကို အမြတ်တနိုးထားကြောင်း တွေ့ရသည့်အခါ၌ ထိုက်ယုမှာ အလျင်စလိုလုပ်မိသည့်အတွက် စိတ်မကောင်းဖြစ်ကာ ခေါင်းငိုက်စိုက်ချလျက် ရှိလေ၏။ ပေါက်ယုက အပြစ်တင်သည့် လေသံဖြင့်

"ရက်စက်လိုက်တာ မလေးရယ်။ ဘာဖြစ်လို့ ဒီနံ့သာအိတ်ကလေးကို ကတ်ကြေးနဲ့ ကိုက်ပစ်ရတာလဲ။ ခုတော့ မလေးက ကျွန်တော့်ကို ဘာပစ္စည်းမှ မပေးချင်တော့ဘူး မဟုတ်လား။ ဒီလိုဆိုယင် ရော့ပါ။ ဒီအိတ်ကိုလဲ ပြန်ယူလိုက်ပါ"

ပေါက်ယုသည် နံ့သာအိတ်ကလေးကို ထိုက်ယုရင်ခွင်ထဲသို့ ပစ်ချပြီးနောက် ချာခနဲ လှည့်ထွက်လာခဲ့လေ၏။

ထိုက်ယုသည် စိတ်ဆိုးဆိုးဖြင့် တအားငိုချပစ်လိုက်လေ၏။ နံ့သာအိတ်ကလေးကို ကောက်ယူကာ စိတ်ပေါက်ပေါက်ဖြင့် ကတ်ကြေးဖြင့် ကိုက်တော့မည်အပြုတွင် ပေါက်ယုသည် ချာခနဲ လှည့်ပြေးလာကာ

"အို မလေး၊ မလုပ်နဲ့လေ။ ဘာဖြစ်လို့ အလကား ကတ်ကြေးနဲ့ ကိုက်ပစ်ရမှာလဲ။ မလုပ်ပါနဲ့"ဟု ဆိုကာ သူ့လက်ထဲမှ အတင်းလုယူလေ၏။

ထိုအခါကျမှ ထိုက်ယုသည် ကတ်ကြေးကိုချကာ မျက်ရည်များကို သုတ်လျက်ရှိ၏။

"မလွေးကို ဒီလိုမလုပ်နဲ့၊ မကြိုက်ဘူး။ တော်တော်ကြာ ရက်စက်လိုက်၊ တော်တော်ကြာ ချော့လိုက်နဲ့။ သိပါတယ်။ မောင်လေးက မလေးနဲ့ ရန်ဖြစ်ချင်နေတာပါ။ ဒီလိုဆိုယင်လဲ မဆက်ဆံဘဲ နေလိုက်ကြတာကောင်းတယ်။ ဘာဖြစ်လို့ မလေးကို ဒီလို ကသိကအောက် လုပ်ချင်ရတာလဲ"

ထိုက်ယုသည် အိပ်ရာပေါ်သို့ လှဲချလိုက်ကာ နံရံဘက်ကို မျက်နှာမူလိုက်ပြီးနောက် ငိုလျက်ရှိလေသည်။ ပေါက်ယုသည် ငုံ့မိုး၍ ကြည့်ကာ

"မလေးရယ်၊ စိတ်မဆိုးပါနဲ့နော်။ ကျွန်တော် တောင်းပန်ပါတယ်နော်၊ နော်"

ထိုအချိန်၌ မယ်မယ်သည် ပေါက်ယုတစ်ယောက် ဘယ်ပျောက်သွားသနည်းဟု မေးမြန်းလျက်ရှိလေ၏။ ထိုက်ယု၏ ခန်းဆောင်ထဲတွင် ရောက်နေသည်ဟု သိရသည့်အခါ၌ မယ်မယ်က

"အေး အေး၊ ဒီလိုဆိုယင်ပြီးရော။ သူတို့မောင်နှမနှစ်ယောက် ကစားနေကြပေ့စေ။ သူ့ဖအေနဲ့လိုက်သွားပြီး ကျဉ်းကျဉ်းကျပ်ကျပ် နေလာခဲ့ရတော့ သူ့ခမျာ ဆော့ချင်ပျော်ချင်ရှာမှာပေါ့။ သူတို့နှစ်ယောက် ရန်သာမဖြစ်ပေ့စေနဲ့။ ညည်းတို့ကလဲ ပေါက်ယု စိတ်ဆိုးအောင် သွားစမနေကြနဲ့နော်"

အစေတော်များလည်း ထွက်သွားကြလေ၏။





ပေါက်ယုသည် သူ့အနားတွင် တဖွဖွ တောင်းပန်နေသဖြင့် ထိုက်ယုမှာ မနေသာတော့ဘဲ အိပ်ရာတွင် ထထိုင်လိုက်၏။

"တော်ပြီ မလေးကို မောင်လေးမတောင်းပန်နဲ့။ မောင်လေးဟာ သူများကို စိတ်အနှောင့်အယှက်ဖြစ်အောင် သိပ်လုပ်တတ်တယ်။ ဒါကြောင့် မောင်လေးနဲ့ မနေတော့ဘူး။ သွားမယ်"

ထိုက်ယုက အခန်းပြင်သို့ထွက်ရန် ဟန်ပြင်လိုက်စဉ် ပေါက်ယုစာ ပြုံးလျက်

"သွားချင်ရာကိုသွားလေ၊ မလေး သွားလေရာကို ကျွန်တော် လိုက်မှာပဲ"

ပေါက်ယုသည် နံ့သာအိတ်ကလေးကို ပြန်၍ချည်ကာ လည်တွင် ဆွဲနေ၏။

ထိုက်ယုက နံ့သာအိတ်ကို လှမ်းယူလိုက်ကာ

"ဘာလဲ စောစောတုန်းကတော့ ဒီနံ့သာအိတ်ကို မလိုချင်တော့ဘူးဆို။ ပြန်ယူပါတော့ဆို။ ခု ဘာဖြစ်လို့ ပြန်ယူရပြန်တာလဲ။ ရှက်လဲမရှက်ဘူး"ဟု ဆိုကာ ထိုက်ယုသည် မျက်ရည်တွေကြားမှ ပြုံးလျက်ရှိလေ၏။

"မလေး၊ မနက်ဖြန်ကျယင် ကျွန်တော့်ကို နံ့သာအိတ်ကလေး တစ်လုံး ထိုးပေးဦးနော် ဟုတ်လား"

"သိသေးဘူး၊ စိတ်ရမှထိုးပေးမယ်"

သူတို့နှစ်ယောက်သည် မယ်မယ်၏ခန်းဆောင်ဘက်သို့ ထွက်လာခဲ့သည်တွင် ပေါက်ကြည် ရောက်နေသည်ကို တွေ့ရ၏။ ကျိကျန်းသည် ဆူချောင်မှ ကချေသည်ဆယ့်နှစ်ဦးနှင့် တူရိယာပစ္စည်းများကို ဝယ်၍ ပြန်ရောက်လာပြီ ဖြစ်သည့်အတွက် စံအိမ်ကြီးတစ်ခုလုံးမှာထိုအကြောင်းကို စိတ်ဝင်စားစွာ ပြောဆိုလျက်ရှိကြ၏။

ဒေါ်လေးဆွေ့မှာ စံအိမ်ဝင်းကြီးအတွင်းရှိ ပို၍ တိတ်ဆိတ်သော အရှေ့မြောက်ထောင့်သို့ ပြောင်းရွှေ့သွားပြီ ဖြစ်သည့်အတွက် ယခင် သူတို့နေထိုင်ခဲ့ရာ သစ်တော်မွှေး အဆောင်ကို ဇာတ်တိုက်ရန်

နေရာအဖြစ် အသုံးပြုရန် မြင်ဆင်ထား၏။ တစ်ခါက အဆိုတော်အဖြစ် အသုံးတော်ခံခဲ့ရပြီး ယခုအခါတွင် အဘွားကြီးများ ဖြစ်နေကြသည့် အစေတော်များအား ဆူချောင်မှ ဝယ်လာခဲ့သည့် ကချေသည်မကလေးများကို သင်ကြားပေးရန် ထိုအဆောင်သို့ ပို့ထားလေ၏။ ကျိကျန်းကား ထိုဇာတ်နှင့်ပတ်သက်၍ ကိစ္စအဝဝကို ဆောင်ရွက်ရသည့် ဇာတ်ဆရာကြီးဖြစ်လေ၏။

ထိုစဉ်တွင် လင်ချီရှောင်၏မိန်းမ ရောက်လာပြီးလျှင်

''သခင်မကြီး သီလရှင်အစ်မ လုပ်ချင်တယ်၊ သီလရှင်ဝတ်ချင်တဲ့လူများ ရှာပေးပါဆိုလို့ သူငယ်မလေး နှစ်ဆယ့်လေးယောက် ရှာလာခဲ့ပါပြီ။ သူတို့အတွက် သီလရှင်ဝတ်စုံများလဲ အဆင်သင့် ဖြစ်ပါပြီ။ ပြီးတော့ ဆံပင်မဖြတ်ဘဲ ယောဂီဝတ်ချင်တဲ့ မိန်းကလေး တစ်ယောက်လဲ သတ်သတ်ရှိပါသေးတယ်။ သူကတော့ ဆူချောင်က ပညာတတ်အရာရှိ မိသားစုကလာတဲ့ ကလေးမလေးပါ။ ငယ်ငယ်တုန်းက သိပ်ချူချာလွန်းလို့ မိဘများက ယတြာချေတဲ့ အနေနဲ့ မရှိဆင်းရဲ ကလေးမလေးတွေကို သီလရှင်ဝတ်ပေး၊ ရဟန်းခံပေးပေမယ့်လဲ ကလေးမလေးရဲ့ ကျန်းမာရေးက ဘာမှမထူးဘူးတဲ့။ ချူချာမြဲချူချာနေတာပဲတဲ့။ ဒါနဲ့ နောက်ဆုံးကျတော့ ကလေးမလေး ကိုယ်တိုင် ယောဂီဝတ်လိုက်သတဲ့။ ဒီတော့မှ ကျန်းမာရေးတွေ ဘာတွေ ကောင်းလာသတဲ့။ ကလေးမလေးက ခုဆိုယင် အသက်ဆယ့်ရှစ်နှစ်လောက်ရှိပါပြီ။ အဲဒီ ယောဂီဝတ်သူငယ်မလေးရဲ့ နာမည်က မြယုတဲ့။ ခုတော့ သူ့မှာ ဆွေမျိုးမိဘများလဲ မရှိရှာတော့ပါဘူး။ သူ့ကို စောင့်ရှောက်တဲ့ အထိန်းတော်နှစ်ယောက်နဲ့ အစေတော် တစ်ယောက်ပဲ ကျန်ပါတော့တယ်။ ကလေးမလေးက ရုပ်ကလေးကလဲ ချောတယ်။ ပြီးတော့စာပေကျမ်းဂန်လဲ ကောင်းကောင်းတတ်တယ်။ သင်္ဂြိုဟ်ကိုလဲ အာဂုံဆောင်နိုင်တယ်။ ကုမ်ယင်းမယ်တော်ရဲ့ ဓာတ်တော်မွေတော်များကိုလဲဖူးရင်း ပိဋကတ်တော် ပေမူများကိုလဲ ဖူးမြော်ရင်းဆိုပြီး ရွှေမြို့တော်ကို ရောက်လာခဲ့ပါတယ်။ ခုတော့ မြို့ရိုးအနောက်တံခါးအထွက်မှာရှိတဲ့ စကြဝမုနိ





ကျောင်းတိုက်မှာ တည်းခိုနေပါတယ်။ သူ့ကို စာပေကျမ်းဂန် သင်ကြားပေးတဲ့ ဆရာမကြီးက အကြားအမြင်ရတဲ့ ဆရာမကြီးတဲ့။ ဆရာမကြီးကတော့ မနှစ်ကဆုံးသွားရှာပါပြီ။ ဒါနဲ့ ဆရာမကြီးဆုံးတော့ မြယုက သူ့ဆရာမကြီးရဲ့အလောင်းကို ဆရာမကြီးရဲ့ ဇာတိကို ပို့မလို့ စိတ်ကူးထားတာပေါ့လေ။ ဒါပေမယ့် ဆရာမကြီးက မြယု စိတ်ထဲမှာ ရှိတဲ့ အကြံကိုသိပြီး ဆုံးခါနီးမှာ ဘာပြောသွားသလဲ ဆိုတော့ သူ့အလောင်းကို လိုက်ပို့မနေနဲ့တဲ့။ ခု နဂိုရှိရင်းစွဲနေရာမှာပဲနေတဲ့။ ဘယ်မှ မသွားနဲ့တဲ့။ ဒီမှာပဲထိုင်နေရင်း တစ်နေ့မှာ ကြီးပွားလမ်းတွေ့လိမ့်မယ်လို့ ပြောသွားသတဲ့။ ဒါနဲ့ မြယုလဲ သူ့ဆရာမကြီးရဲ့ အလောင်းကို သူ့ရွာကိုလိုက်မပို့ဘဲ နေရစ်ခဲ့တာတဲ့''

''ဒီလိုဆိုယင် ယောဂီမလေး မြယုကို တို့ဆီ ခေါ်ခဲ့ရောပေါ့အေ။ ဘာဖြစ်လို့ စကြဝမုနိကျောင်းတိုက်မှာ နေရတာလဲ''ဟု သခင်မကြီးဝမ်က မေး၏။

''ကျွန်မက ဒီမှာလာနေဖို့ ပြောပါတယ်။ ဒါပေမယ့် သူက မနေချင်ဘူးတဲ့ရှင့်။ မှူးမတ်အိမ်မှာနေရယင် အောက်ကျနောက်ကျဖြစ်လိမ့်မယ်တဲ့''

''အေးလေ၊ သူလဲ အမှုထမ်းအရာထမ်း သားသမီးဆိုတော့ သူ့မာနနဲ့သူ ရှိမှာပေါ့။ ဒီလိုဆိုယင်လဲ တို့အနေနဲ့ ဖိတ်စာကလေး ဘာလေးနဲ့ ပို့ပြီးဖိတ်ရမှာပေါ့''ဟု သခင်မဝမ်က ပြော၏။

လင်ချီရှောင်၏ မိန်းမလည်း ထိုအတိုင်း ဖိတ်မည်ဟုဆိုကာ ပြန်ထွက်သွားလေ၏။ သခင်မဝမ်သည် စာရေးတော်ကြီးတစ်ယောက်အား ပင့်ဖိတ်စာ အရေးခိုင်းပြီးနောက် နောက်တစ်နေ့တွင် မြယုကို ခေါ်ရန် ရထားတစ်စင်းနှင့် သန်လျင်းတစ်စင်းကို လွှတ်လိုက်၏။ ထိုနောက် မည်သို့ဖြစ်သည်ကိုမူ နောက်တစ်နေရာတွင် ဖော်ပြပေအံ့။

ထိုစဉ် အစေတော်တစ်ယောက် ပေါက်လာကာ လိုက်ကာများ လုပ်ရန် ပိုးစများနှင့် ခန်းဆီးစများကို နတ်ငှက်မယ်ထံ လာရောက်တောင်း၏။ တစ်ယောက်က အဆင်သင့်ဖြစ်နေသည့် ရွှေပန်းကန်များ

နှင့် ငွေပန်းကန်များကို သိမ်းထားရန် လာရောက်ပြောလေ၏။ ထိုအချိန်တွင် သခင်မဝမ်နှင့် သူ့အစေတော်များမှာလည်း အသီးသီးအလုပ်များလျက် ရှိလေ၏။

ဤသို့အလုပ်များနေသည်ကိုကြည့်၍ ပေါက်ကြည်က ပေါက်ယုဘက်သို့ လှည့်လိုက်ပြီးလျှင်

"လာ ပေါက်ယု၊ တို့အပြင်သွားချည်ကြရအောင်၊ ဒီမှာနေယင် အနှောင့်အယှက်ဖြစ်ပြီး ရှုပ်နေလိမ့်မယ်၊ တန်ချွန်းကို လိုက်ရှာချည်ရအောင်"

ပေါက်ကြည်သည် ထိုက်ယုနှင့်ပေါက်ယုကို ယင်ချွန်းတို့တန်ချွန်းတို့ အဆောင်များဆီသို့ ခေါ်သွားကာ အချိန်ဖြုန်းလျက်ရှိကြ၏။

သို့ဖြင့် သခင်မဝမ်နှင့် အစေတော်များအားလုံးမှစ၍ အိမ်သူအိမ်သားများအားလုံးသည် မိမိတို့၏သမီး မြောက်နန်းမတော်ထိပ်ထားလေး ကြွလာမည့်ကိစ္စအတွက် ပြင်ဆင်လျက်ရှိကြလေရာ ဒသမလ ကုန်ခါနီးတွင်မူ အားလုံးပြင်ဆင်ပြီးသလောက် ရှိခဲ့လေပြီ။ ပစ္စည်းထိန်းများသည် စာရင်းအင်းများကိုအပ်ကြ၏။ ရှေးဟောင်းအလှအပပစ္စည်းများနှင့် အဖိုးတန်ပစ္စည်းများကို သိမ်းထားရာမှ ထုတ်ကြ၏။ သင့်လျော်သော နေရာများတွင် အသီးသီးမွေးမြူရန်အတွက် ကြိုးကြာများ၊ ဒေါင်းများ၊ သမင်များ၊ ယုန်များ၊ ကြက်များ၊ ငန်းများကို အသင့်သိုလှောင်ထားလေ၏။ ကျိချိန်သည် ပြဇာတ်အဖွဲ့ပေါင်းနှစ်ဆယ်ကိုလည်း ငှားထားပြီး ဖြစ်လေ၏။ သီလရှင်ဆရာလေးများက တရားစာများကို ရွတ်ဖတ်ရန်လည်း အဆင်သင့်ပြင်ဆင်ပြီးသား ဖြစ်လေ၏။

နောက်ဆုံး၌ သခင်ကြီးကျိချိန်သည် အားလုံးပြင်ဆင်ပြီးပြီ ဖြစ်သည့်အတွက် သက်ပြင်းကြီးကိုချလိုက်ကာ မည် သည့် ပြင် ဆင် မှု မျိုးလိုအပ်သည်ကို ပြောဆိုရန် သခင်မဝမ်အား ဥယျာဉ်တော်ထဲသို့ လာရောက်ကြည့်ရှုရန် ပြောလေ၏။ ဤသို့ စိတ်တိုင်းကျပြင်ဆင်ပြီးသည့်နောက်၌ ကျိချိန်သည် နေ့ကောင်းရက်သာကို ရွေးပြီးကာ တင်လွှာတစ်စောင်ကို ရေးသားပြီးသော် ထိုနေ့မှာပင် မြောက် နန်း မတော်





ထိပ်ထားကို ဥယျာဉ်တော်သို့ ကြွရောက်ခွင့်ပြုရန် ဘုန်းတော်ကြီးသော ဘုရားထံ လျှောက်လေ၏။ ဘုန်းတော်ကြီးသောဘုရားကလည်း ကျိချိန်၏ လျှောက်ထားချက်ကို လက်ခံသဘောတူတော်မူလိုက်၏။ မြောက်နန်းမတော် ထိပ်ထားလေးသည် နောက်တစ်နှစ် ပထမလပြည့်နေ့တွင် ကျရောက်သည့် မီးထွန်းပွဲတော်ကာလ၌ မိမိ၏ မိဘနှစ်ပါးဖြစ်သည့် ကျိမြို့စားကြီး ကျိချိန်နှင့် မြို့စားကတော်ကြီး သခင်မဝမ်တို့၏ စံအိမ်တော်သို့ အလည်အပတ်ကြွရောက်တော်မူမည် ဖြစ်၏။ ထိုသတင်းကိုကြားလိုက်သည်နှင့် စံအိမ်ကြီးတွင်ရှိသည့် လူအပေါင်းများမှာ ပျော်မဆုံး၊ ရွှင်မဆုံးဖြစ်လျက်ရှိကြကာ ပြင်ဆင်မှုကိစ္စအဝဝဖြင့် အလုပ်များလျက် ရှိကြပြီး နှစ်သစ်ကူးပွဲတော်ကိုပင် ပျော်ချိန်ပါးချိန်ရနိုင်အောင် ဖြစ်လျက်ရှိလေ၏။

မီးထွန်းပွဲတော်သည် မျက်စိတစ်မှိတ် လျှပ်တစ်ပြက်အတွင်း ဆိုသလိုပင် ရောက်လာပေတော့မည်။ လဆန်းရှစ်ရက်နေ့၌ ရွှေနန်းတော်ကြီးမှ အတွင်းလူယုံတော် မိန်းမစိုးရှစ်ဦးတို့သည် စံအိမ်ကြီးသို့ ရောက်လာကြကာ ဥယျာဉ်တော်၏ အကြမ်းဖျဉ်း အ နေ အ ထား နှင့် တကွ မြောက်နန်းမတော် ထိပ်ထားလေး ဝတ်လဲတော်လဲမည့် ခန်းဆောင်၊ မိသားစုများနှင့် တွေ့ဆုံမည့်ခန်းဆောင်၊ ဆွေမျိုးသားချင်းမိသားစုများ အခစားဝင်ခွင့်ပေးမည့် ခန်းဆောင်၊ ဆွေမျိုးသားချင်းများအား ညှိခံကျွေးမွေးမည့် ခန်းဆောင်၊ မြောက်နန်းမတော်ထိပ်ထား အပန်းဖြေ အနားယူမည့် ခန်းဆောင်တို့ကို လာရောက်ကြည့်ရှု စစ်ဆေးကြ၏။ လုံခြုံရေးကိစ္စအဝဝကို ကြီးကြပ်ရသည့် မိန်းမစိုးကလည်း အပန်းဖြေမည့် ခန်းဆောင်တိုင်း၏ အဝင်ပေါက်များအနီး ကန့်လန့်ကာနောက်ကွယ်၊ လိုက်ကာခန်းဆီးများ နောက်ကွယ်တွင် လုလင်ငယ် မိန်းမစိုးများကို နေရာချပေးထား၏။ နောက်ဆုတ်၍ အခစားဝင်ရာမှ ပြန်ထွက်ရမည့်နေရာ၊ ဒူးနေရာ၊ တော်နေရာ၊ စားတော်ဆက်ရမည့် နေရာ၊ လျှောက်ထားရမည့်နေရာနှင့်တကွ ရွှေနန်းတော် ထုံးတမ်းစဉ်လာများ ညီအောင် မည်သို့မည်ပုံ လိုက်နာလုပ်ဆောင်ရမည်တို့ကို အိမ်သားများ အားလုံးအား အသေးစိတ် သင်ပြညွှန်ကြားကြ၏။ စံအိမ်တော်ကြီး၏

အပြင်ဘက်တွင်မူ လမ်းလုပ်ငန်းဌာနနှင့် နေပြည်တော်ရဲအဖွဲ့ အမှုထမ်းအရာထမ်းများသည် လမ်းများကို လွဲ ကျင်း သန့် ရှင်း စေ ကာ အနီးအပါးတစ်ဝိုက်တွင် အဖြုတ်အသန်း၊ အသွားအလာမရှိရန် ကွပ်ကဲလျက်ရှိကြ၏။ ကျိရှဲမှာ လက်မှုပညာသည်များတို့ ကြီးကြပ်ကာ အပြောက်အမွမ်း၊ အလှဆင်ယင်ထားသည့် မီးပုံးများ၊ မီး အိမ် များ ကို အပြင်းလုပ်ဆောင်လျက်ရှိလေရာ လဆန်း ဆယ့် လေး ရက် နေ့ တွင် မူ အားလုံးအဆင်သင့် ဖြစ်နေလေပြီ။ ထိုညကမူ စံအိမ်ကြီးတစ်အိမ်လုံးရှိ အိမ်ရှိလူကုန်အားလုံးပင် တစ်မှေးမျှမအိပ်ကြရချေ။

နောက်တစ်နေ့မနက် အ ရုဏ် မ တက် မီ က တည်း က ပင်လျှင် မယ်မယ်မှအစ အဆောင်အယောင်ရှိသူ အသီးသီးတို့သည် ရွှေနန်းတော်ပွဲတက်ဝတ်စုံကို အပြည့်ဝတ်ဆင်ကြရ၏။ ဥယျာဉ်တော် အတွင်းတွင်လည်း နဂါးပုံရုပ်၊ နတ်ငှက်ပုံရုပ်ကြီးများ၊ ရွှေချည်ထိုးထားသည့် တံခွန်ကုက္ကားများ၊ လိုက်ကာများ ဆင်ယင်ထား၏။ ရွှေရောင်နှင့် ငွေရောင်တို့သည် ပြောင်လက်လျက်ရှိကြ၏။ ပုလဲများနှင့် အဖိုးတန် ရတနာများသည် ပြိုးပြက်လျက်ရှိကြ၏။ ကြေးဒေါင်းလန်းကြီးများထဲတွင် သင်းပျံ့မွှေးကြိုင်သော အမွှေးတိုင်များကို ထွန်းညှိထားပြီးလျှင် ပန်းအိုးများထဲတွင်လည်း လတ်ဆတ်သောပန်းများဖြင့် ဝေဆာလျက်ရှိ၏။ ချောင်းဆိုးသံကိုပင် မကြားရအောင် တိတ်ဆိတ်လျက်ရှိလေ၏။

ကျိရှဲနှင့် အခြားသူများက အနောက်ဘက် တံခါးအပြင်ဘက်တွင် စောင့်ဆိုင်းလျက်ရှိပြီး မယ်မယ်နှင့် အမျိုးသမီးများက ဗဟိုတံခါးမကြီး၏ အပြင်ဘက်တွင် စောင့်ဆိုင်းလျက်ရှိကြ၏။ ထိုဗဟိုတံခါးမကြီးသို့လာသည့်လမ်းများ၊ လမ်းသွယ်များအားလုံးကို လိုက်ကာများဖြင့် ကာရံ၍ ပိတ်ထားလေ၏။

ထိုသို့ စောင့်ဆိုင်းလျက်ရှိကြစဉ် မိန်းမစိုးတစ်ယောက်သည် လှပချောမောသည့် မြင်းကြီးတစ်ကောင်ကိုစီး၍ ရောက်လာ၏။ မယ်မယ်က အကျိုးအကြောင်းကို စုံစမ်းကြည့်၏။





"အချိန် တော်တော်ကြာလိမ့်ဦးမယ်ခင်ဗျ။ ထိပ်ထားလေးဟာ တစ်ချက်တီးမှာ ပွဲတော်တည်မယ်ခင်ဗျ။ နှစ်ချက်တီးခွဲမှာ ရတနာဝိညာဏ် နန်းမဆောင်မှာ ဘုရားဝတ်ပြုတော်မူမယ် ခင်ဗျ။ ငါးချက်တီးမှာ မဟာသိရိမြေနန်းတော်ဆောင်မှာ မင်းပွဲသဘင်ကိုတက်ပြီး မီးပုံးများ၊ မီးအိမ်များ ထွန်းညှိထားတဲ့ မီးထွန်းပွဲတော်ကို ရှုစားတော်မူမယ်ခင်ဗျ။ ပြီးတော့မှ ဘုန်းတော်ကြီးသော ဘုရားဆီကို အခစားဝင်ပြီး ဆွေတော်မျိုးတော်များဆီကို လည်ပတ်ခွင့် လျှောက်ထားတော်မူမယ်။ ၇ ချက်တီးလောက်ကျမှ ထွက်တော်မူနိုင်လိမ့်မယ် ထင်ပါတယ်"

အချိန်အတန်ကြာအောင် စောင့်ရဦးမည်ဖြစ်သည့်အတွက် မယ်မယ်၊ ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ် စသည့်လူကြီးများအား အိမ်ထဲသို့ ဝင်၍နေရန်၊ အချိန်နီးမှလာရန် နတ်ငှက်မယ်က ပြော၏။

ထို့ကြောင့် မယ်မယ်နှင့် လူကြီးများသည် နတ်ငှက်မယ်ကို အကြီးအမှူးလုပ်ရန် တာဝန်ပေးခဲ့ပြီးနောက် စံအိမ်ထဲသို့ ပြန်ဝင်လာခဲ့ကြ၏။ ရှေ့တော်ပြေးအဖြစ် ရောက်လာသည့် မိန်းမစိုးများကိုလည်း စားသောက်ဖွယ်များ တည်ခင်းကျွေးမွေးရန် ပစ္စည်းထိန်းများကို မှာကြားခဲ့၏။ ထို့နောက် မီးပုံးများအားလုံးကို ထွန်းညှိရန်အတွက် ဖယောင်းတိုင်များကို ထုတ်ယူရန် ခိုင်းလိုက်လေ၏။

မီးပုံးများတွင် ဖယောင်းတိုင်များကို လိုက်လံထွန်းညှိပြီး မကြာမီပင် မြင်းခွာသံများကို ကြားရ၏။ ခဏကြာလျှင် မိန်းမစိုး တစ်ကျိပ်ကျော်ကျော်ခန့်သည် မောကြီးပန်းကြီးဖြင့် လက်ခုပ်တီး၍ ပြေးလာကြ၏။ ဤအချက်ပေးသံကိုကြားသည့်အခါတွင် အခြားသော မိန်းမစိုးများက "မြောက်နန်းမတော်ထိပ်ထား ကြွတော်မူလာပြီ"ဟု အော်ဟစ် ပြောဆိုကြ၏။ မိန်းမစိုးအသီးသီးသည် မိမိတို့တာဝန်ကျရာ နေရာအသီးသီးသို့ ပြေးသွားကြလေ၏။

ကျိရှဲနှင့် လူငယ်များက အနောက်ဘက် တံခါးအပြင်ဘက်တွင် လည်းကောင်း၊ မယ်မယ်နှင့် အမျိုးသမီးများက ဗဟိုတံခါးမကြီး

အပြင်ဘက်တွင်လည်းကောင်း အချိန်အတော်ကြာမျှ တိတ်ဆိတ်စွာ စောင့်ဆိုင်းနေကြ၏။

ထိုစဉ် ကတ္တိပါနီဝတ်ထားသည့် မိန်းမစိုး နှစ်ယောက်သည် အနောက်ဘက်လမ်းတံခါးဝဆီသို့ မြင်းကို ဖြည်းညင်းစွာ စီးလာကြ၏။ တံခါးအနီးသို့ရောက်လျှင် မြင်းများပေါ်မှဆင်းကာ မြင်းများကို လိုက်ပါလာသူတစ်ဦးကို အကွယ်တစ်ခုတွင် သွား၍ချည်ထားလိုက်ပြီးနောက် အနောက်ဘက်သို့ မျက်နှာမူ၍ သတိအနေအထားဖြင့် ရပ်လျက်ရှိကြ၏။ ခဏကြာလျှင် အလားတူ မိန်းမစိုးနှစ်ယောက် ပေါ်လာကြပြန်၏။ ထို့နောက် နောက်နှစ်ယောက် ပေါ်လာကြပြန်ကာ နောက်ဆုံးတွင် အတွဲဆယ်တွဲ ပြည့်သည်အထိ တစ်တွဲစီ ရောက်လာကြလေ၏။ ဆယ်တွဲပြည့်ပြီး မကြာမီပင် တူရိယာသံသဲ့သဲ့ကို အဝေးမှ ကြားရ၏။

ထိုနောက် ရှည်လျားသည့် လူတန်းကြီး ပေါ်လာလေ၏။ မိန်းမစိုးများသည် နဂါးရုပ်တံခွန်များကို ကိုင်လာကြ၏။ အချို့ကား နတ်ငှက်ရုပ်ရေးထားသည့် ကြာယပ်များ၊ ဒေါင်းမြီးများနှင့် အစမ်းအနားတက် တံဆိပ်တော်များ၊ ရွှေနန်းတော်သုံး အမွေးတိုင်များ ထွန်းညှိစိုက်ထားသည့် ရွှေအမွှေးတိုင်ခွက်များကို ကိုင်လာကြ၏။ ထိုနောက် အရိုးပန်းကြွဖော် အရွက်နတ်ငှက်ရုပ် ၇ ကောင် ခြယ်ထားသည့် ထီးဖြူ၊ ထိုနောက်တွင် မကိုဋ်၊ ဝတ်လုံ၊ ခါးစည်းကြိုးနှင့် ခြေနင်းတို့ကို ကိုင်၍လိုက်လာသော မိန်းမစိုးများ၊ ထိုနောက်တွင် စိပ်ပုတီး၊ ရွှေချည်ထိုး လက်ကိုင်ပဝါများ၊ ရွှေထွေးခံ၊ ကြာယပ် စသည်တို့ကို ကိုင်၍ လိုက်လာသော လက်ပါးစေ မိန်းမစိုးများ လိုက်ပါလာကြ၏။

နောက်ဆုံးတွင်မှ အမိုး ရွှေပိန်း၊ နတ်ငှက်ရုပ်ဖော် ရွှေချည်ထိုး လန့်လန့်ကာ ကာထားသည့် ရွှေဝေါ်ကြီးကို မိန်းမစိုးရှစ်ယောက်တို့က ဖြည်းညင်းစွာ ထမ်းလာကြသည်ကို မြင်ရလေ၏။

မယ်မယ်အပါအဝင် အားလုံးသော အမျိုးသမီးများသည် ရွှေဝေါ်ကြီးကို မြင်လိုက်သည်နှင့် မြေတွင် ပြားပြားဝပ်၍ ခစားကြ၏။ မိန်းမစိုးများက မယ်မယ်၊ သခင်မဆင့်နှင့် သခင်မဝမ်တို့ဆီသို့ ပြေးလာ၍ ကူညီကြ၏။





မြောက်နန်းမတော်ထိပ်ထား စီးနင်းလိုက်ပါတော်မူသည့် ဝေါ်တော်သည် ဗဟိုတံခါးမကြီးမှဝင်ရောက်လာကာ အရှေ့ဘက်ရှိ တလင်းဝသို့ ဝင်လာခဲ့ပြီးသည်တွင် ကြာယပ်ကိုင်ထားသည့် မိန်းမစိုး တစ်ယောက်သည် ဒူးထောက်ခစားရင်း ဝေါ်တော်ပေါ်မှ ဆင်းသက်၍ ဝတ်လဲတော်များလဲရန် လျှောက်ထားခြင်းပြု၏။ ထိုနောက်တွင် ဝေါ်တော်ကို အတွင်းဘက်သို့ သယ်သွားကြပြီး မိန်းမစိုးများလည်း ဒူးတုပ်ခစားလျက်ရှိကြရာမှ နောက်သို့ဆုတ်သွားကြ၏။ နန်းမတော်ထိပ်ထား၏ ရံရွေတော်များသည်လည်း အနီးသို့ ရောက်လာကာ နန်းမတော်ထိပ်ထားအား ဝေါ်တော်မှ အောက်သို့ တွဲချပေးကြလေ၏။

အကောင်းစားပိုးဖြင့် ရက်လုပ်ထားသော အလှအပ၊ အပြောက်အမှမ်းတို့ရေးသည့် မီးပုံးများ၊ မီးအိမ်များဖြင့် ထွန်းညှိထားသည့် အတွက် စံအိမ်ဝင်းကြီးတစ်ခုလုံးမှာ လင်းထိန်လျက်ရှိသည်ကိုတွေ့ရ၏။ ယင်းတို့အနက် အကြီးဆုံးဖြစ်သည့် လေးထောင့်မီးပုံးကြီးတွင် 'သနားကြည်ဖြူတော်ခြင်းကို ခံယူ၊ ကရုဏာတော်၌ ခိုလှုံ' ဟူသော စာတန်းကြီး ထိုးထားလေ၏။

နန်းမတော်ထိပ်ထားသည် ဝတ်လဲတော်ခန်းသို့ ဝင်၍ ဝတ်လဲတော်များကို လဲတော်မူပြီးနောက် ရွှေဝေါ်တော်ပေါ်သို့ ပြန်တက်တော်မူသည်တွင် ဝေါ်ထမ်းများသည်လည်း ဝေါ်ကို ဉယျာဉ်တော်ဆီသို့ ထမ်းသွားကြ၏။ ဉယျာဉ်ထဲ၌ထားသော အမွှေးတိုင်များမှ အမွှေးနံ့တို့သည် သင်းထုံလျက်ရှိ၍ မီးပုံးများစွာတို့မှ အလင်းရောင်ဖြင့် လင်းထိန်လျက်ရှိပြီးလျှင် သာယာ ညှင်းပျောင်းသည့် ဂီတသံသည် ငြိမ့်ညောင်းစွာပေါ်ထွက်လျက်ရှိ၏။ နတ်ဘုံနတ်နန်းကဲ့သို့ ရှု၍မငြီးကြည့်၍မဝသည့် ဤရှုခင်းကို စာဖြင့်ဖော်ပြရန်မှာ မဖြစ်နိုင်တော့ပြီ။

အဆွေစာဖတ်သူ။ ဤနေရာ၌ စာရေးသူ ဖြစ်သည့် ကျွန်ုပ်ကျောက်စိမ်းတုံးသည် သေလာပဗ္ဗတတောင်၊ အသူရာချောက်ကမ်းပါးရှိ မေတ္တာတောင်ခြေရင်းမှ ဤလူ့ပြည်ရှိ ဤသို့သောနေရာသို့ ကျွန်ုပ်အား ပို့ဆောင်ပေးခဲ့ကြသော မထေရ်မြတ်နှင့် ခေါင်းတွင် ဒက်တို

ပေါက်နေသည့် တာအိုကိုရင်ကြီးတို့အား များစွာ ကျေးဇူး တင်မိပေ၏။ ၎င်းတို့ထသာ ကျွန်ုပ်အား လူ့ပြည်သို့ ပို့ဆောင်ပေးခြင်း မပြုခဲ့လျှင် ကျွန်ုပ်သည် ထိုမျှခမ်းနားတင့်တယ်သော ရှုခင်း မြင်ခင်း မျိုးကို မည်သို့တွေ့နိုင်ပါမည်နည်း။ ထိုရှုခင်းကိုကြည့်၍ ကျွန်ုပ်သည် မီးပုံးကဗျာ၊ သို့မဟုတ် အခြားသော ဘုန်းတော်ဘွဲ့တို့ကို ရေးဖွဲ့လိုသော်လည်း သူလိုငါလို သာမန်ဝတ္ထုမျိုး ဖြစ်သွားမည် စိုးသည့် အတွက် ကျွန်ုပ် စပ်ဆိုခြင်းမပြုတော့ပြီ။ ထို့ပြင် ဘုန်းတော်ဘွဲ့ အဲအန်ရတုတို့ကို စပ်သည့်တိုင် ဤမျှခမ်းနားကြီးကျယ်သော ရှုခင်းကို မီအောင်စပ်ဆိုနိုင်သောစာဆိုဉာဏ်လည်း ကျွန်ုပ်တွင်မရှိပြီ။ သို့ဖြစ်ရာ ထိုရှုခင်း မည်မျှခမ်းနားကြီးကျယ်ကြောင်းကို ရေးသားဖော်ပြခြင်းမပြုတော့ဘဲ စာဖတ်သူတို့ စိတ်ကူးဖြင့်သာ တွေးကြည့်ရန် ကျွန်ုပ် ပြောလိုပါတော့သည်။ ဤသို့ဆိုလျှင် အချိန်လည်းသက်သာ။ စက္ကူလည်း ချွေတာရာ ရောက်လိမ့်မည်ဟု ကျွန်ုပ်ထင်ပါသည်။ ယခုမူ ရေးလိုရင်းကို ပြန်ကောက်ကြဦးစို့။

ထိပ်ထားသည် ငွေဝေါပေါ်မှနေ၍ စံအိမ်ဝင်း အပြင်တွင် ချိတ်ဆွဲထွန်းညှိထားသည့် မီးပုံးမှမီးရောင်များကို လှမ်းကြည့်တော်မူလိုက်ရာမှ သက်ပြင်းကို အသာအယာ ချလိုက်မိလေ၏။

"တယ်လို့လဲ ကြီးကျယ်ခမ်းနားပေတာပဲ။ အကုန်အကျ များလွန်းလှတယ်"ဟု ညည်းတွားတော်မူ၏။

ထိုစဉ်တွင် ကြာယပ်ကိုင် မိန်းမစိုးတစ်ယောက် အပါးသို့ လာရောက် ဒူးထောက်ခစားပြီးလျှင် ရွှေဝေါမှဆင်းသက်၍လှေတော်ပေါ်သို့တက်ရန် လျှောက်ထား၏။ ဝေါတော်မှ ဆင်း သက် လိုက် သည့်အခါ၌ နဂါးတစ်ကောင်ကဲ့သို့ ကွေ့ကောက် ရစ်ခွေလျက် ရှိသော ကြည်လင်သည့် ရေစီးကြောင်းတစ်ခုကို မြင်ရ၏။ ထိုမြစ်ငယ်၏ ကမ်းတစ်ဖက်တစ်ချက်ရှိ ကျောက်ဖြူသား လက်ရန်းများပေါ်တွင် ထွန်းညှိထားသော သလင်းမီးပုံးများမှ နှင်းပွင့်ကဲ့သို့ ဆွတ်ဆွတ်ဖြူသော မီးရောင်များ ဖြာထွက်လျက်ရှိ၏။ ထိုကျောက်ဖြူ လက်ရန်းများ အထက်







တွင်ရှိသည့် မိုးမခကိုင်း၊ ဆီးတော်ကိုင်းများတွင် ပိုးချည်နှင့် ရောင်စုံစက္ကူတို့ဖြင့် ပြုလုပ်ထားသောပန်းပွင့်များ၊ အရွက်များတို့ဖြင့်တန်ဆာဆင်ထားပြီး သစ်ပင်တိုင်းတွင်လည်း မီးပုံးများချိတ်ဆွဲထား၏။ ရေထဲတွင်မူ ကြာပန်းများနှင့် ဗေဒါပန်းများသည် ဝေဆာစွာ ဖူးပွင့်လျက်ဟသာ၊ သောင်တင်း၊ ပိန်ညင်း၊ စက္ကဝတ် စသည့် ရေကျေးရေငှက်တို့နားနေဟန်ကိုလည်း လိပ်ခွံများ၊ ငှက်မွေးများဖြင့် ပြုလုပ်ထားလေ၏။ ဆွဲထားသည့်မီးပုံးများသည် သူ့ထက်ငါ အလင်းပြိုင်နေကြသကဲ့သို့ ရှိပေ၏။ ရှုခင်းကြီး တစ်ခုလုံးသည် ဖန်၊ မှန်၊ သလင်း၊ ကျောက်မျက်ရတနာတို့ဖြင့် ပြုလုပ်ထားသည့်နှယ် ပြိုးပြက်လျက်ရှိ၏။ ထိပ်ထားစီးတော်မူမည့် လှေတော်မှာလည်း မီးပုံးများ၊ ရှားပါးလှသည့် ပန်းပင်များ၊ ပုလဲမြိတ်စုံချဖန်းဆီးများ၊ ရွှေချည်ထိုး ကန့်လန့်ကာများဆင်ယင်လျက် ထက်မကို ငုံစပ်သားဖြင့် လုပ်ထားပြီး လှော်တက်များမှာ ကရမက်သားဖြင့် ပြုလုပ်ထားသည့် လှော်တက်များဖြစ်သည့်အလျောက် ခမ်းနားလှပေ၏။ သို့ရာတွင် ဤအကြောင်းကို အကျယ် မဖော်ပြလိုတော့ပြီ။

ထိပ်ထားနှင့် ရံရွေတော်များသည် ကျောက်ဖြူသား လှေကားကြီးခင်းထားသည့် ရေဆိပ်သို့ ရောက်လာခဲ့ကြလေ၏။ ထိုကျောက်ဖြူလှေကားထိပ်တွင် "ဗေဒါကမ်းရိပ်နှင့် ပန်းမျှောဆိပ်"ဟူသော စာလုံးများကို မီးပုံးများဖြင့် စာတန်းထိုးထားလေ၏။

အဆွေစာဖတ်သူ "နတ်ငှက်ပျော်ရာ" စသည့် အမည်နှင့်တကွ ယခု အမည်စာတန်းမှာ ယခင် အခန်းတွင် ဖော်ပြခဲ့သည့် အတိုင်း ပေါက်ယုပေးခဲ့သည့် အမည်များဖြစ်ပြီး ဖခင်ကျိချိန်က လှောင်ပြောင်ခဲ့သည်ကို သတိပြုမိခဲ့ပေလိမ့်မည်။ သို့ပါလျက် ယခု အဘယ့်ကြောင့် ပေါက်ယုပေးသည့် အမည်များကို အသုံး ပြုနေပေသနည်းဟု တွေးတောင်း တွေးကြပေလိမ့်မည်။ သို့ရာတွင် ကျိချိန်တို့ အမျိုးသည် စာကဗျာတို့ကို ဝါသနာထုံသည့် အမျိုးဖြစ်ပြီး မိတ်ဆွေရောင်းရင်းများနှင့် ကသိုက်အဝန်းအားလုံးမှာ စာပေကဗျာ အရည်အသွေး ရှိသည့်

ပုဂ္ဂိုလ်များဖြစ်ကြလေ၏။ ထိုမျှမက ကဗျာလင်္ကာများကို ရေးစပ်ရန် ရွှေမြို့တော်တွင် ကဝိဇာဆို အကျော်အမော်တွေ အများအပြားလည်း ရှိပေ၏။ သို့ဖြစ်ပါလျက် အဘယ့်ကြောင့် လူမမယ်သာသာကလေးတစ်ယောက်၏ စာ ကဗျာတို့ကို အရေးတယူလုပ်၍ စာတန်းကမ္ပည်း တိုးထားပေသနည်း။ သို့မဟုတ်လျှင်လည်း ငွေကို ကျောက်ခဲ သလဲလိုသုံးကာ မိမိတို့ ကြီးကျယ် ခမ်းနားသော စံအိမ်ကြီးများကို ဟသ်ာပြဒါးရောင် ခြယ်လျက် "မိုးမခစံမ်း"၊ "မှိုင်းမှုန်ပြာဝေ" စသည့် အမည်လှလှတို့ကို ဝင်းဝတွင် ချိတ်ဆွဲထားကြသော နောက်ပေါက်ကဝိ အကျော် အမော်တို့၏ စာ ကဗျာများနှင့် တူနေသောကြောင့် ဖြစ်တန်ရာ၏။ ဝင်းဝတွင် စံအိမ်အမည်ကို ဆိုင်းဘုတ်ချိတ်နိုင်ပြီဆိုလျှင် အဟုတ်ထင်လေ့ရှိသော ခေတ်ပေါ်သူဌေးလို အတန်းအစားထဲကလော။ 'ကျောက်စိမ်းတုံး၏အတ္ထုပ္ပတ္တိ' တွင် ဖော်ပြထားသည့် ကျီဆွေမျိုးစုသည် ထိုသို့နိမ့်ကျသော အတန်းအစားမျိုးလော။ သို့ဖြစ်လျှင် ကျွန်ုပ်၏ဝတ္ထုထဲ၌ ရှေ့နောက်မညီညွတ်သော အချက်တို့ ပါနေသည်မဟုတ်လောဟု မေးဖွယ်ရှိ၏။ မိုက်မဲသည်ဟု ဆိုဆို၊ အကြောင်းကိုမူ ကျွန်ုပ်ရှင်းပြလိုပါသည်။

မြောက်နန်းမတော်ထိပ်ထားသည် ရွှေနန်းတော်ကြီးသို့မရောက်မီတွင် ငယ်စဉ်တောင်ကျေးမှစ၍ မယ်မယ်၏ အုပ်ထိန်းမှုအောက်တွင် ကြီးပြင်း လူလားမြောက်ခဲ့ရခြင်း ဖြစ်၏။ ယွမ်ချွန်းမှာ အကြီးဖြစ်၍ ပေါက်ယုမှာ အငယ်ဖြစ်သည့်အတွက် ပေါက်ယုအား နှောင်းမွေး ဖြစ်သည်ဆိုကာ မယ်မယ်သည် ပေါက်ယုကို အခြားသူများထက် အလိုလိုက်ကာ အချစ်ပိုခဲ့၏။ သူတို့နှစ်ယောက်စလုံးသည် မယ်မယ်နှင့်အတူ နေထိုင်ကာ မခွဲမခွာနေထိုင်ခဲ့ကြ၏။ ပေါက်ယု စာမသင်မီ လေးနှစ်သားမရှိတရှိ အရွယ်လောက်ကတည်းကပင် ယွမ်ချွန်းသည် ပေါက်ယုအား ကဗျာလင်္ကာများကို အလွတ်ကျက်ခိုင်းခဲ့ပြီးလျှင် အက္ခရာစာလုံး ထောင်ပေါင်းများစွာကို မှတ်မိအောင် သင်ပေးခဲ့၏။ သို့ဖြင့် ယွမ်ချွန်းသည် ပေါက်ယုအတွက် အစ်မတစ်ယောက်ထက် အမေတစ်ယောက်ကဲ့သို့ဖြစ်





ခဲ့၏။ ရွှေနန်းတော်ကြီးသို့ ရောက်သည့်အခါ၌ ယွမ်ချွန်းသည် ပေါက်ယုအား ကောင်းစွာပညာသင်ပေးရန် မိဘများထံ မကြာခဏစာရေးခဲ့၏။ ပေါက်ယုအား ကောင်းစွာပဲ့ပြင် သွန်သင်ခြင်းမရှိခဲ့ပါက ပျက်စီးသွားမည်ကိုလည်းကောင်း၊ အကယ်၍ အကွပ်အညှပ် ပြင်းထန်လွန်းပြန်လျှင်လည်း ပေါက်ယုသည် ပြဿနာတစ်ရပ် ဖြစ်လာမည်ကိုလည်းကောင်း ယွမ်ချွန်း စိုးရိမ်မိ၏။ ယွမ်ချွန်းသည် ရွှေနန်းတော်ကြီးသို့ ရောက်သော် အနေဝေးသွားသည့်တိုင် ပေါက်ယုအတွက် အမြဲပူပန်လျက်ရှိလေ၏။

ပေါက်ယုသည် ကဗျာလင်္ကာတို့ကို လက်တန်း စပ်ဆိုရာတွင် အလွန်ဉာဏ်ကောင်းသူ တစ်ယောက်ဖြစ်ကြောင်းဖြင့် ပေါက်ယု၏ ဆရာကပြောသည့်တိုင် ကျီချိန်သည် ကောင်းစွာယုံကြည်ခြင်းမရှိခဲ့ချေ။ ဥယျာဉ်တော်ကို ပြင်ဆင်မွမ်းမံပြီးသည့်နောက် ကျီချိန်သည် ပေါက်ယု၏ စာရည် ကဗျာရည်ကို စမ်းသပ်လိုသည့်အတွက် လှည့်လည်ကြည့်ရှုသောအခါတွင် ခေါ်သွားခဲ့ခြင်းဖြစ်လေ၏။ ကလေးတစ်ယောက်မျှသာဖြစ်သည့် ပေါက်ယု၏ စာကဗျာတို့သည် စာဆိုကြီးများ၏ စာကဗျာတို့ကဲ့သို့ ကောင်းမွန်ခြင်းမရှိလှသည့်တိုင် သူ့အရွယ်ဖြင့် ဤမျှ စပ်ဆိုနိုင်ခြင်းမှာကား ထူးခြားသည်ဟု ဆိုရမည်သာဖြစ်၏။ ကျီချိန်တို့မိသားစုသည် ဥယျာဉ်တော်တွင် ထိုးမည့် ကမ္ပည်းစာများအတွက် ရွှေမြို့တော်တွင်ရှိသည့် ကဝိအကျော်အမော်များကို ပင့်ဖိတ်စပ်ဆို ခိုင်းနိုင်သည်မှန်ပါ၏။ သို့ရာတွင် မိသားစုထဲမှ တစ်ယောက်က ပေးသည့်အမည်များသည် ပို၍စိတ်ဝင်စားဖွယ် ကောင်းသည်ဟုယူဆ၏။ ထို့ပြင် ထိုစာတန်းများသည် သူချစ်သည့်မောင်ငယ်ပေါက်ယု စပ်ဆိုသည့် ကဗျာလင်္ကာများ ဖြစ်ကြောင်းကို မြောက်နန်းမတော်ထိပ်ထား သိခဲ့ပါလျှင် သူ့မောင်ငယ်သည် သူမျှော်မှန်းသည့်အတိုင်း ဖြစ်နိုင်သည်ဟု မြောက်နန်းမတော်ထိပ်ထား ဝမ်းသာမိပေလိမ့်မည်။ ထိုအကြောင်းများကြောင့် ဥယျာဉ်တော်ထဲရှိ နေရာဌာနများကို ကမ္ပည်း စာ တန်း ထိုး ရာ တွင် ပေါက်ယု၏ စာတို ကဗျာတိုများကို လက်ခံခဲ့ခြင်းဖြစ်၏။ စာတန်းအားလုံးကိုမူ ထိုနေ့က အပြီးရွေးချယ်ခြင်းမဟုတ်ဘဲ နောက် ကျမှ

ရွေးချယ်ခြင်းဖြစ်၏။ သို့ရာတွင် ဤအကြောင်းကို ဤမျှဖြင့် တော်လောက်ပြီ။

မြောက်နန်းမတော် ထိပ်ထားသည် စာတန်းများကို မြင်သည့်အခါ၌ ပြုံးတော်မူလျက်

"'ပန်းမျောဆိပ်' ဆိုယင် တော်လောက်ပါပြီ။ ဘာ ဖြစ် လို့ 'ဗေဒါကမ်းဆိပ်' ဆိုတာကြီးပါ ထည့်ထားတာလဲ" ဟု မေးတော်မူ၏။

ထိုစကားကို အနီးတွင်လိုက်ပါလာသည့် လက်ပါးစေ မိန်းမစိုးကြီးလျှင် ကမ်းသို့ ချက်ချင်းတက်၍ ကျိုချိန်အား အကြောင်းကြားသည်၌ ထိပ်ထားလေး၏သဘောအတိုင်း လျင်မြန်စွာ ပြင်ဆင်စေ၏။

မြောက်နန်းမတော်ထိပ်ထား စီးနင်းလိုက်ပါတော်မူသည့် လှေတော်သည် တစ်ဖက်ကမ်းသို့ဆိုက်လျှင် ထိပ်ထားသည် ဝေါပေါ်သို့ တက်၏။ ရှေ့တွင် ကြီးကျယ်ခမ်းနားသည့် ယာယီစံနန်းတော်ဆောင်ခန်းကြီးတစ်ခုရှိ၏။ နန်းတော်ရှေ့ရှိ ကျောက်ဖြူသား မုခ်ဝဝိုးခုံးကြီးပေါ်တွင် 'အမတဘုံ' ဟု ရေးသားထားရာ ထိုကမ္ပည်းကိုလည်း 'ပြန်လည် တွေ့ဆုံခြင်း စံအိမ်တော်' ဟု အပြင်ခိုင်းလေ၏။

ယာယီစံနန်းဆောင်သို့ ဝင်လာခဲ့သည့်အခါ၌ မီးတုက် မီးစည်းများသည် ကောင်းကင်အထိ လင်းထိန်တောက်ပလျက်ရှိကာ မြေပြင်တွင်လည်း နံ့သာမှုန့်ပက်ဖျန်းထားသည်ကို တွေ့ရ၏။ ထိုမျှမက ပန်းပွင့်တို့ ပင်လုံးဝေအောင် ပွင့်လျက်ရှိသော သစ်ပင်ကြီးများ၊ နဂါးသွဲ့ကျောက်များကို စီထားသည့်ပန်းပွင့်များ၊ ရွှေပိန်းချ လေသာပြတင်းများ၊ ကျောက်စိမ်းလက်ရန်းများ၊ ပုစွန်နှုတ်ခမ်းမွေးကဲ့သို့ သေးမျှင်နူးညံ့သော ပိုးထည်တို့ကို ရက်လုပ်ထားသည့် ခန်းဆီးများ၊ ဖျံရေကော်ဇောများ၊ သုံးချောင်းထောက် ကြေးဒေါင်းလန်းကြီးထဲတွင် ထည့်၍ ထွန်းညှိထားသည့် ကတိုးနှင့်တကွ ဒေါင်းမြီးယပ်များဖြင့် ဆင်ယင်ထားလေရာ 'ကျောက်စိမ်းတံခါး၊ ရွှေတံခါးနှင့်၊ မြသားရိပ်မြုံ၊ နတ်တို့ဘုံ၌၊ မွှေးထုံဆောင်နန်း၊ အခန်းခန်းလည်း၊ အနန်းသော်က၊ သစ်ခွချယား၊ မဟာလေ့ဏား၊ ဆပ်သွားမဥ္ဇူ၊ မွှေးကြူပျံ့





ရှား၊ လှထိပ်ထား၏၊ နားနေရိပ်သာ၊ မည်ထိုက်စွာရှင့်' ဟူသော စာဆိုနှင့် ကိုက်ညီလျက် ရှိလေ၏။

"ဒီနေရာကိုကော ဘာဖြစ်လို့ ကမ္ပည်းစာတန်းများ ထိုးမထားသလဲ" ဟု မေးတော်မူလေ၏။ မိန်းမစိုးတစ်ယောက်က ဒူးတုပ် ခစားကာ

"မှန်လှပါ၊ ယာယီစံနန်းတော် ဗဟိုဆောင်ကြီးဖြစ်သည့်အတွက် ထိုနေရာကို ကမ္ပည်းထိုးရန် မဝံ့ကြောင်းပါ"

မြောက်နန်းမတော် ထိပ်ထားသည် မည်သို့မျှမပြောဘဲ ခေါင်းညိတ်တော်မူ၏။

နာခံတော်ဖြစ်သူ မိန်းမစိုးတစ်ယောက်က ဒူးတုပ်ခစားပြီးလျှင် မိသားစု အခစားဝင်သည်ကို လက်ခံတွေ့ဆုံတော်မူဖို့ ထိုင်ဖုံတစ်ခုတွင် နေရာယူတော်မူရန် လျှောက်တင်လေ၏။ ဘေး တစ်ဖက်တစ်ချက်ရှိ သတ်မှတ်ထားသောနေရာများမှ တူရိယာတို့၏ သာယာငြိမ့်ညောင်းစွာ တီးမှုတ်လျက်ရှိစဉ် မိန်းမစိုးနှစ်ဦးတို့က ကျိုရှဲနှင့်တကွ ဆွေမျိုးသားချင်းများကို ရှေ့တော်သို့သွင်းလာပြီးနောက် စင်မြင့်အောက်တွင် နေရာယူစေလေ၏။ သို့ရာတွင် ရှံရွှေတော်တစ်ဦးရောက်လာကာ ဤအဆောင်အခမ်းအနားကို ပြုလုပ်လိုသောဆန္ဒ နန်းမတော် ထိပ်ထားတွင် မရှိကြောင်း သတင်းပို့သည့်အတွက် ထိုအစီအစဉ်ကို ချက်ချင်း ရုပ်သိမ်းလိုက်၏။ ထိုစဉ် မယ်မယ်နှင့် အမျိုးသမီး များကိုလည်း စင်တော်၏အရှေ့ဘက်လှေကားမှ ရှေ့တော်သို့သွင်းလာစဉ် ထိုအစီအစဉ်ကိုလည်း နန်းမတော်ထိပ်ထားဆန္ဒအရ ရုပ်သိမ်းလိုက်ရ၏။

ယာယီစံနန်းရှိ ပလ္လင်ပေါ်တွင်ထိုင်နေစဉ် လက်ဖက်ရည်တော်ဆက်များက ထုံးစံအတိုင်း သုံးကြိမ်သုံးခါ လက်ဖက်ရည်တော် ဆက်ပြီးသည့်နောက်၌ နန်းမတော်ထိပ်ထားသည် ပလ္လင်ပေါ်မှ ဆင်းသက်လာခဲ့ကာ ဝတ်လဲတော်များလဲရန် ဘေးရှိ ခန်းဆောင်ငယ် တစ်ခုထဲသို့ ဝင်သွားသည်တွင် တူရိယာ အတီးအမှုတ်များလည်း ရပ်သွားကြ၏။

ထိုအခေါ်အတွင်းတွင် ဥယျာဉ်တော်ထဲတွင် စောင့်ဆိုင်းလျက် ရှိသည့် မိဘများနှင့် တွေ့ဆုံရန်အတွက် ကရထားတော်ကို ပြင်ဆင်လျက်ရှိကြလေ၏။

နန်းမတော်ထိပ်ထားသည် မြေဦးအဖြစ် ဂါရဝပြုရန်အတွက် မယ်မယ်၏ညှို့ခန်းဆောင်သို့ ပထမဆုံး သွားရောက်ခြင်းပြု၏။ သို့ရာတွင် နန်းမတော်ထိပ်ထားက ထိုသို့မဆင်းမီတွင် မယ်မယ်နှင့် အိမ်သူ အိမ်သားများသည် ဒူးတုပ်စားကာ မိမိတို့ကပင် လာရောက်နှုတ်ဆက်မည် ဖြစ်ကြောင်း ပြောကြားကြလေ၏။ နန်းမတော်ထိပ်ထား၏ မျက်လုံးတွင် မျက်ရည်တွေဝဲလျက်ရှိ၏။ ထိပ်ထားသည် မယ်မယ်နှင့် မေဖျား လက်များကို ဆုပ်နယ်လျက်ရှိလေရာ သူတို့ သုံးဦးစလုံး၏ ရင်ထဲတွင် ပြောစရာတွေ ပြည့်သိပ်နေကြသည့်တိုင် ဘာမျှ မပြောနိုင်ကြတော့ဘဲ ငိုရှိုက်လျက်ရှိကြလေ၏။ ဒေါ်လေးဆင့်၊ ဒေါ်လေးဝမ်၊ နတ်ငှက်မယ်၊ နန်းမတော်ထိပ်ထားနှင့် အမေကွဲညီအစ်မများဖြစ်ကြသော တန်ချန်း၊ ဝမ်းကွဲညီအစ်မများဖြစ်ကြသော ယင်ချန်းနှင့် ဆီချန်းတို့သည်လည်း အနီးတွင်ရပ်ကာ တိတ်ဆိတ်စွာ ငိုယိုလျက် ရှိကြလေ၏။ နောက်ဆုံး၌ နန်းမတော်ထိပ်ထားသည် ဣန္ဒြေဆယ်လိုက်ပြီးနောက် ပြုံးလျက် အားပေးနှုတ်သိမ့်ခြင်း ပြုလေ၏။

"မယ်မယ်တို့ မေဖျားတို့က ထိပ်ထားကို နန်းတော်ကြီးကိုပို့လိုက်ပြီးတဲ့နောက် မယ်မယ်တို့ မေဖျားတို့ဆီကို ခုလိုလာရောက် လည်ပတ်ဖို့ အခွင့်အခါရဖို့ဆိုတာ သိပ်မလွယ်လှပေဘူး။ ဒါပေမယ့် ဒ်လိုထိပ်ထား ရောက်လာတဲ့အတွက် ဝမ်းသာပျော်ရွှင်ကြရမယ့်အစား ခုတော့ ငိုနေကြတယ်။ ထိပ်ထား ဒီမှာ ကြာကြာနေချိန် ရမှာမဟုတ်ဘူး။ ခဏ နေယင် ရွှေနန်းတော်ကြီးကို ပြန်ရတော့မှာ။ နောက် ဘယ်တော့မှ ပြန်ရောက်မယ်ဆိုတာ မပြောနိုင်သေးဘူး" ဟု ပြောပြီးသည့်နောက်တွင် နန်းမတော်ထိပ်ထားသည် ငိုရှိုက်လျက်ရှိပြန်လေ၏။

ဤတွင် ဒေါ်လေးဆင့်နှင့် အခြားသူများက နန်းမတော်ထိပ်ထားကို ဝိုင်းဝန်းနှစ်သိမ့်ကာ မယ်မယ်ကလည်း တစ်နေရာတွင် ထိုင်ရန် ပြောလေ၏။ နန်းမတော်ထိပ်ထားသည် လာရောက်ခစားသူ





များနှင့် စကားပြောဆိုကြရင်း မျက်ရည်ဖြိုင်ဖြိုင်ကျကာ ငိုလျက်ရှိလေ၏။ ထိုနောက် စံအိမ်ကြီးနှစ်ဆောင်တွင် ရှိသည့် ပစ္စည်းထိန်းများ၊ ၎င်းတို့၏ သားမယားများနှင့် အစေတော်များက တံခါးအပြင်ဘက်မှ နေ၍ ခစားကြရ၏။

ထိုအစီအစဉ်ပြီးလျှင် ယခု လာရောက်ခစားသူများထဲ၌ ဒေါ်လေးဆွေ၊ ထိုက်ယုနှင့် ပေါက်ကြည်တို့ကို မမြင်မိကြောင်းဖြင့် နန်းမတော်ထိပ်ထားက ပြောလေ၏။

ဤတွင် ဒေါ်လေးဆင့်၊ သခင်မဝမ်တာ ယင်းတို့မှာ ကျိမ်သားစုထဲတွင် တရားဝင်အဆင့် မရှိသည့်အတွက် လာရောက်ခစားခြင်း မပြုရဲကြကြောင်းဖြင့် ပြောကြားလေ၏။

နန်းမတော် ထိပ်ထားသည် သူတို့သုံးယောက်ကို အခေါ်ခိုင်းလိုက်လေ၏။ သူတို့သုံးယောက်သည် ရွှေနန်းတွင်း အစဉ်အလာများအတိုင်း ခစားရန် ပြင်ဆင်လျက်ရှိစဉ် နန်းမတော်ထိပ်ထားက ထိုသို့ ခစားခြင်းမပြုဘဲ သာမန်ကဲ့သို့ ပြောဆို နေထိုင်ရန် ပြောဆိုပြီး ၎င်းတို့နှင့် စကားပြောဆိုခြင်း ပြုလေ၏။ ထိုနောက်တွင် ရွှေနန်းတော်ကြီးသို့ ယွမ်ချန်း ခေါ်ဆောင်သွားသည့် အစေတော်များ ဖြစ်ကြသော ပေါက်ကျင်း စသူတို့က မယ်မယ်ကို နှုတ်ဆက် ဂါရဝ ပြုကြလေ၏။ မယ်မယ်က ဂါရဝပြုခွင့်မပေးဘဲ ခန်းဆောင်တစ်ခုထဲသို့ပို့ကာ အစားအသောက်များနှင့် ဧည့်ခံစေလေ၏။ အရာထမ်းမိန်းမစိုးများနှင့် ရုံးရွှေတော်များ၊ အစေတော်များကိုလည်း စံအိမ်ကြီးနှစ်ဆောင်ရှိ အမှုထမ်းအရာထမ်းများက ဧည့်ခံလေရာ နန်းမတော်ထိပ်ထားအနီးတွင် မိန်းမစိုးသုံးယောက်သာလျှင် ခစား၍ ကျန်ရစ်ခဲ့လေ၏။

အမျိုးသမီးများက မည်မျှ လွမ်းဆွတ် သတိရကြောင်း၊ ထိုအတောအတွင်း သူတို့စံအိမ်များတွင် မည်သို့ဖြစ်ပျက်ကြောင်း စသည်တို့ကို ပြောဆိုနေကြစဉ် ကျိချိန်သည် အပြင် တံခါးမကြီး ခန်းဆီးကို အသာလှစ်ကာ သမီးတော်၏ ကျန်းမာရေးကို မေးမြန်း စုံစမ်းခြင်း ပြုသဖြင့် နန်းမတော်ထိပ်ထားကလည်း အပြန်အလှန် ဂါရဝပြု နှုတ်ဆက်၏။

နန်းမတော်ထိပ်ထားက မျက်ရည်စမ်းစမ်းဖြင့်

"မုန့်ညင်းချဉ်ကိုစားပြီး၊ ဖျဉ်ကြမ်းအင်္ကျီကိုဝတ်နေတဲ့ သာမန်ဆင်းရဲသား လယ်သမားကမှ မိသားစုချမ်းမြေ့ပျော်ရွှင်မှုကို ခံစားရပါသေးတယ် ဖေဖျားရယ်၊ သမီးတော်မှာဖြင့် ရွှေနန်းတော်ကြီးမှာ စည်းစိမ်ချမ်းသာတွေကို ခံစားနေရသည့်တိုင် ဖေဖျားတို့နဲ့ ခွဲနေရလေတော့ ဘယ်မှာ ပျော်နိုင်ပါ့မလဲ"

ဤတွင် ကျိချိန်ကလည်း မျက်ရည်တွေ ဝဲလျက်ဖြင့်

"သမီးတော်ရဲ့ လက်အောက်ခံ ကျေးတော်မျိုး ကျွန်တော်မျိုးတို့ဖြစ်ကြတဲ့ ဖေဖျားတို့တစ်တွေဟာ သာမန် အညတရဆင်းရဲသားများသာ ဖြစ်ကြပါတယ်။ ဘာနဲ့အလားသဏ္ဌာန်တူသလဲဆိုယင် ကျီးငှက်များ၊ ခိုငှက်များနဲ့ အလားသဏ္ဌာန်တူပါတယ်။ ခုလို ကျီးများ၊ ခိုများကို နတ်ငှက်ကလာပြီး တွေ့ဆုံချီးမြှင့်တော်မူတယ်ဆိုတာ အိပ်မက်တောင် မမက်ရဲကြပါဘူး။ ဘုန်းတော်ကြီးလှသောဘုရားရဲ့ ကရုဏာတော်နဲ့ ဖေဖျားတို့ ဘိုးဘွားအစဉ်အဆက် ကုသိုလ်ပါရမီတို့ကြောင့် သမီးတော်ထိပ်ထားဟာ သဘာဝရဲ့ အကောင်းဆုံးသော အနှစ်သာရများ စုဝေးရာဖြစ်ပြီး ဖေဖျားတို့ ဘိုးစဉ်ဘောင်ဆက်မှာ ကောင်းသော အမွေအနှစ်များအားလုံး စုဝေးရာဖြစ်ပါတယ်။ ဖေဖျားတို့ မေဖျားတို့မှာ ဒီလိုသမီးရတနာမျိုးကို ရကြတဲ့အတွက် အင်မတန်ကို ကုသိုလ်ထူးလှပါတယ်။

"ကောင်းမြတ်တဲ့အရာမှန်သမျှတို့ စုဝေးရာဖြစ်တဲ့ ဘုန်းတော်ကြီးသောဘုရားကလဲ ဖေဖျားတို့ကို ဒီလို အထူးအခွင့်အရေးကြီးတစ်ရပ် ပေးသနားတော်မူတဲ့အတွက် ဖေဖျားတို့မှာ ဒီကရုဏာ ကျေးဇူးတော်ကို ဘယ်လိုဆပ်လို့မှ ကုန်နိုင်စရာအကြောင်း မရှိပါဘူး။ ဒီတော့ ဒီကျေးဇူးတော်ကို ဆပ်သောအားဖြင့် ဖေဖျားလုပ်နိုင်တာကတော့ နေ့ညမဟူ ပေးအပ်တဲ့ တာဝန်အမှုတော်များကို အရိုးကြေကြေ အရေခန်းခန်း ထမ်းဆောင်ဖို့၊ လူသတ္တဝါအားလုံးတို့ရဲ့ ဆန္ဒအတိုင်း ဘုန်းတော်ကြီးသောဘုရား သက်တော်ရာကျော် ရှည်စေဖို့ ဆုတောင်းရုံသာ ရှိပါတယ်။





"သမီးတော်ထိပ်ထားဟာလဲ သက်ကြီးရွယ်အိုဖြစ်ကြတဲ့ မိဘနှစ်ပါးအတွက် စိုးရိမ်နေ့ခင့်လို့ ကြောင့်ကြခြင်း မဖြစ်သင့်ပါ။ သမီးတော်ရဲ့ ကိုယ်တော်တိုင် ကျန်းမာရေးကိုသာ ဂရုစိုက်တော်မူပါ။ ထကြွ နိုးကြား သနား သည်းခံဆိုတဲ့တရားများကို နှလုံးသွင်းတော်မူပါ။ ဘုန်းတော်ကြီးလှသော ဘုရားရဲ့ မဟာကရုဏာနဲ့ စေတနာကို ကျေးဇူးစောင့်သိရာ ရောက်လေအောင် အတတ်နိုင်ဆုံး ပြုစု အလုပ်အကျွေးပြုပါ"

နန်းမတော်ထိပ်ထားကလည်း နိုင်ငံတော်တာဝန်များကို အလေးမူရန်၊ မိမိကိုယ်တိုင်၏ ကျန်းမာရေးကို ဂရုစိုက်ရန်နှင့် သမီးတော်နှင့်ပတ်သက်၍ အနည်းငယ်မျှ စိုးရိမ်ကြောင့်ကြခြင်း မဖြစ်ရန် အတန်တန် မှာကြားလေ၏။

ထို့နောက်တွင် ကျိချိန်က

"ဥယျာဉ်တော်အတွင်းရှိ စံနန်းဆောင်များနဲ့ လေသာဆောင်များတွင် ထိုးထားသည့် ကမ္ပည်းစာတန်းများအားလုံးဟာတော့ သမီးတော်ရဲ့ မောင်ငယ်ပေါက်ယု စပ်ဆိုထားတဲ့ ကမ္ပည်းစာတန်းများ ဖြစ်ပါတယ်။ အကယ်၍ စံနန်းတော်ဆောင် တစ်ဆောင်နှစ်ဆောင်မှာရှိတဲ့ ကမ္ပည်းစာတန်းများအား ယဉ်ကျေးဖွယ်ရာခြင်း မရှိဘူးဆိုယင် သမီးတော်ထိပ်ထားကိုယ်တိုင် အမည်မှည့်ပေးနိုင်ပါတယ်။ ဒီလိုဆိုယင်ဖြင့် ဖေဖျားတို့အားလုံးက ဝမ်းမြောက်ကြမှာပါပဲ"

ပေါက်ယုက ထိုသို့သော ကမ္ပည်းစာတန်းများကို ရေးထိုးတတ်ပြီဟု ကြားရသည့်အခါတွင် နန်းမတော်ထိပ်ထားသည် များစွာ ဝမ်းမြောက်ခြင်းဖြစ်လျက်

"အလို မောင်ငယ်က အတော်တောင် တိုးတက်ပါပေ့လား"ဟု ဆိုလေ၏။

ကျိချိန် နောက်ဆုတ်သွားသည့်အခါ၌ နန်းမတော် ထိပ်ထားသည် အခြားသော မိန်းကလေးများနှင့်မတူ ပန်းပွင့်များနှင့် အရည်အကောင်းဆုံး ကျောက်စိမ်းတို့ကဲ့သို့ ထူးခြားစွာ လှပလျက်ရှိသော ထိုက်ယုနှင့် ပေါက်ကြည်တို့ကို သတိပြုမိ၏။ ထို့နောက် အဘယ့်

ကြောင့် ပေါက်ယုတစ်ယောက် လာ၍ နှုတ်ဆက်ခြင်းမပြုသေးသနည်းဟု မေးမြန်း၏။ ဤတွင် မယ်မယ်က နန်းတော်ရာထူး အဆင့်အတန်းမရသေးသည့် လူငယ်တစ်ယောက်အနေဖြင့် ဆင့်ခေါ်ခြင်းမပြုဘဲ မစားရဲသောကြောင့် ဖြစ်ကြောင်း ပြောလေ၏။

နန်းမတော် ထိပ်ထားသည် ပေါက်ယုကို ချက်ချင်းအခေါ်ခိုင်းလိုက်သည်တွင် မိန်းမစိုးတစ်ယောက်သည် ပေါက်ယုကို ရှေ့သို့သွင်းလာပြီးလျှင် ရှေ့နန်းတွင်း ထုံးတမ်းစဉ်လာများအတိုင်း ခစားစေလေ၏။ ထိပ်ထားသည် မောင်ငယ်ပေါက်ယုကို အနားသို့ခေါ်ကာ လက်ကိုဆွဲလိုက်လေ၏။ ထိုနောက် ပွေ့ဖက်လိုက်ပြီးလျှင် ကုပ်ကိုပွတ်လျက် "မောင်ငယ်က ထွားလာလိုက်တာနော်" ဟု ပြုံး၍ ပြောလျက်ရှိရာမှ မျက်ရည်များသည် ပါးပြင်ပေါ်သို့ လိမ့်ဆင်းလာကြပြန်လေ၏။

မမယုနှင့် နတ်ငှက်မယ်တို့သည် ရှေ့သို့တိုး၍ ခစားလိုက်ကြပြီးလျှင်

"ညစာပွဲတော်တည်ဖို့ အဆင်သင့်ဖြစ်ပါပြီ။ ထိပ်ထားကို ဗီကအစ်မများနဲ့အတူ ကြွရောက်ဖို့ လျှောက်ပါတယ်"

ထိပ်ထားသည် ထိုင်ရာမှထကာ ပေါက်ယုအား အရှေ့က လမ်းပြရန် ပြော၏။

ထိပ်ထားသည် အခြွေအရံများ ခြံရံကာ ဥယျာဉ်ထဲသို့ လာခဲ့၏။ ခမ်းနားသည့် စံနန်းဆောင်အသီးသီးပေါ်သို့ မီးပုံးများမှ မီးရောင်စုံတို့သည် ဖြာလျက်ရှိကြ၏။ 'နတ်ငှက်ပျော်ရာ' ခန်းဆောင်နှင့် 'နံ့သာနီတောင်နှင့် ကျောက်စိမ်းဂူ' ခန်းဆောင်များသို့ ဖြတ်လာခဲ့ကြပြီးနောက် လေသာဆောင်များကို တက်ကြည့်ခြင်း၊ စမ်းချောင်းကိုဖြတ်ခြင်း၊ ကမူများပေါ်သို့တက်ခြင်း၊ နေရာအသီးသီးတွင် ရပ်တန့်၍ ရှုမျှော်ခင်းများကို ကြည့်ရှုခြင်း စသည်တို့ကို ပြုလုပ်ကြရင်းဖြင့် ဥယျာဉ်တော်ကို လျှောက်ကြည့်ကြ၏။ အားလုံးသော ခန်းဆောင်တို့မှာ တစ်ဆောင်နှင့်တစ်ဆောင် မတူရလေအောင် အမျိုးမျိုးပြင်ဆင်ထားလျက် နေရာတိုင်းမှာလည်း တစ်နေရာနှင့်တစ်နေရာ မတူရလေအောင်





တစ်မျိုးတစ်ဖုံစီ မွမ်းမံထားလေရာ နန်းမတော်ထိပ်ထားသည် ထိုအပြင်အဆင်၊ အမွမ်းအမံများကိုကြည့်၍ အားရနှစ်သက်ခြင်းဖြစ်ကာ ချီးမွမ်းတော်မူ၏။ သို့ရာတွင် ထိပ်ထားက "ခမ်းနားလွန်းပြီး အကုန်အကျ များလွန်းပေလိမ့်မယ်။ နောက်တစ်ခါကျယင် ဒီလောက်မလုပ်ပါနဲ့" ဟု သတိပေး၏။

ဗဟိုနန်းဆောင်ကြီးသို့ ရောက်သည့်အခါ နန်းမတော်ထိပ်ထားသည် သူတို့အား အဆောင်အယောင် ထုံးတမ်းစဉ်လာများအတိုင်း မဟုတ်ဘဲ ရင်းနှီးစွာနေထိုင်ရန် ပြောဆိုပြီးလျှင် နေရာအသီးသီးတွင် အထိုင်ခိုင်းလေ၏။ ဘောသောက်ပွဲကား ကြီးကျယ်ခမ်းနားလှပေ၏။ မယ်မယ်နှင့် အခြားသူများက ဘေးတွင်ရှိသည့် စားပွဲများတွင်ထိုင်ကြပြီးလျှင် မမယု၊ လိဝမ်းနှင့် နတ်ငှက်မယ်တို့က ပန်းကန်များကို လိုက်ချပေးပြီး ဝိုင်အရက်ချိုတို့ကို လိုက်ငှဲပေးကြ၏။ ထိုအတွင်းတွင် ထိပ်ထားသည် စုတ်တံနှင့် မင်သွေးခုံကို တောင်းပြီးနောက် ဥယျာဉ်တော်ထဲတွင် လှည့်ကြည့်စဉ် သူအနှစ်သက်ဆုံးဖြစ်ခဲ့သည့် နေရာများအတွက် ကမ္ပည်းစာတန်းများ ရေးပေး၏။ အလယ်စံနန်းတွင် ချိတ်ဆွဲထားရန်အတွက် 'ဘုန်းတော်ကြီးသောဘုရား၏ ကရုဏာတော်ကို အောက်မေ့တာဝန်ကို သတိမူ' ဟု ရေးပေးပြီးလျှင် အောက်တွင်လည်း ကဗျာတိုကလေးတစ်ပုဒ်ကို စပ်ပေး၏။

မဟာကရုဏာ၊ စကြဝဠာသို့
ကျယ်စွာဖြန့်ကြက်၊ အသက်အရှယ်
ကြီးငယ်မရွေး၊ လွှမ်းခြုံပေး၏။
သီရိပရမေ၊ ကျက်သရေလည်း
ဝေဆာအနှံ့၊ တိုင်းခွင်ပျံ့၏။ ။

ဥယျာဉ်တော်ကြီးကိုလည်း မဟာနန္ဒာ ဥယျာဉ်တော်ဟု အမည်ပေး၏။

'နတ်ငှက်ပျော်ရာ ခန်းဆောင်' ကို 'ဝေဠုဝန်' ဟု အမည်ပေး၏။ 'နံ့သာနီတောင် နှင့် ကျောက်စိမ်းဂူ' ဟူသော အမည်ကို

'နီမောင်းချမ်းသာနှင့် စိမ်းမြပျော်ဖွယ်' သို့မဟုတ် 'နီမောင်းပျော်ဖွယ်' ဟု အမည်ပေးလေ၏။ 'ဂမုန်းနှင့်သဇင်' ခန်းဆောင်ကို 'ဂမုန်းမြိုင်ရိပ်သာ' ဟု အမည်ပေးလေ၏။ 'ဆီးတော်ပင် ရိပ်သာအဝင်' ဟူသော အမည်ကို 'ဂုန်လျှော်ဖွပ် တဲငယ်' ဟု အမည်ပေး၏။ ဗဟိုခန်းဆောင်ကို 'မဟာလေသာဆောင်' ဟု အမည်ပေးလေ၏။ ထိုအဆောင်၏အရှေ့ဘက်တောင်ပံကို 'စိန့်ခြယ်ရောင်လင်း' ဟု အမည်ပေးလေ၏။ အနောက်ဘက်တောင်ပံကို 'နံ့သာနန်းမြင့်' ဟု အမည်ပေးလေ၏။ အခြားအမည်များမှာ 'ဗေဒါလေညင်း'၊ 'ကြာပန်းမြစ်ဆိပ်'၊ 'ဆူးလေကျွန်း'၊ 'ကန်စွန်းနွယ်ကျွန်း' စသည့်အမည်များ ဖြစ်ကြ၏။ နန်းမတော်ထိပ်ထားသည် 'နွေဦးပျို သစ်ခတော်ပွင့်'၊ 'နွေနှောင်းလေမှ ထင်းရှူးပင်'၊ 'ညနှင်းထဲမှ မညိုးပန်း' စသည့် အခြားသော အမည်များကိုလည်း ပေးတော်မူ၏။ ကျန်အမည်တို့ကိုမူ ဤတွင် ဖော်ပြခြင်းမပြုတော့ပြီ။ အချို့အမည်များကိုမူ ပြောင်းလဲခြင်းမရှိဘဲ နဂိုအတိုင်းထား၏။

ထိုနောက် နန်းမတော်ထိပ်ထားသည် အောက်ပါကဗျာကိုလည်း ရေးဖွဲ့တော်မူလေ၏။

ကျွမ်းကျင်ဖြည့်စုံ၊ ဝိသုကြုံသို့
လုံးစုံဖန်ဆင်း၊ ဥယျာဉ်တွင်း၌
စီးဆင်းစမ်းရေ၊ ဖူးဝေကြိုင်လန်း
ဘောတန်းတောင်ခြေ၊ အထွေထွေဖြင့်
မိုးမြေအောက်တွင်၊ လှပန်းဆင်သည်
ဥယျာဉ်မဟာနန္ဒာတကား။

ထိပ်ထားသည် ကဗျာကို မိန်းမပျိုများအားပြလိုက်၍ ပြုံးလျက်

"ညီမတော်တို့သိတဲ့အတိုင်း ထိပ်ထားမှာ ကဗျာဉာဏ် ခေါင်းပါးလှတယ်။ ဒါပေမယ့် ဒီနေ့ညတော့ ဒီဥယျာဉ်တော်ကို ဂုဏ်ပြုသောအားဖြင့် တတ်သမျှ မှတ်သမျှနဲ့ စပ်ရပေမှာပဲ။ တစ်နေ့ အချိန်ရလို့ရှိယင်တော့ ဒီမဟာနန္ဒာဥယျာဉ်တော်ကြီးအကြောင်းကို စာဖွဲ့ရဦးမယ်။





ပြီးတော့ ဒီမင်္ဂလာအခါတော်ကြီးကို မော်ကွန်းတင်တဲ့အနေနဲ့ 'ဆွေတော်မျိုးတော် ပေါင်းဆုံခန်း' ဆိုတဲ့ မော်ကွန်းကြီးတစ်စောင်လဲ ရေးရဦးမယ်။

"ဒီတော့ ဒီမော်ကွန်းကြီးကို မရေးခင်မှာ ညီမတော်တို့က လဲ တစ်ပုဒ်စီလောက် ဖွဲ့ပြကြစမ်းပါဦး။ တတ်နိုင်သမျှပေါ့။ ထိပ်ထားရဲ့ စာထက်တော့ ကောင်းကြမှာချည်းပါပဲ။ ထိပ်ထားရှက်မှာ စိုးလို့ ပေညံ့ညံ့တွေတော့ စပ်မပြကြပါနဲ့။ မောင်ငယ်ပေါက်ယုတောင် စာတွေကဗျာတွေ စပ်ဆိုနိုင်ပြီဆိုတာကိုသိရတော့ ထိပ်ထားဖြင့် ဝမ်းသာလို့ မဆုံးနိုင်တော့ဘူး။ ဥယျာဉ်တော်ထဲမှာ ထိပ်ထားအကြိုက်နှစ်သက်ဆုံးနေရာတွေကတော့ ဝေဠုဝန်နဲ့ ဂမုန်းမြိုင်ရိပ်သာတို့ပဲ။ သူတို့ပြီးတော့ နီမောင်းချမ်းသာရင်ပြင်နဲ့ ဂုန်လျှော်ဖွပ် တဲဆိုတဲ့ နေရာတွေပဲ။ ဒီ လေးဌာန အကြောင်းကိုတော့ ချက်ချင်း စပ်ကြရလိမ့်မယ်။ မောင်ငယ်ပေါက်ယု စပ်ထားတဲ့ စာများဟာလဲ ကောင်းပါပေတယ်။ ဒီတော့ ခုလဲပဲ မောင်ငယ်က အကွဲရာငါးလုံးပါတဲ့ လူရှိကဗျာလေးပုဒ်လောက်ကို အစ်မတော်ရှေ့မှာ စပ်ပြစမ်းပါလို့ တိုက်တွန်းရမယ်။ ဒီလေးက်စပ်ပြနိုင်ပြီဆိုယင် သူငယ်ငယ်က အစ်မတော် စာသင်ပေးခဲ့ရတာတွေ ပင်ပန်းရကျိုးနပ်ပြီလို့ အစ်မတော် ယူဆမှာပါ"

ပေါက်ယုမှာ မနေသာတော့သည့်အတွက် ဖျစ်ညှစ်စဉ်းစားရ၏။

ယင်ချွန်း၊ တန်ချွန်းနှင့် ဆီချွန်းတို့အနက်တွင် တန်ချွန်းမှာ ဉာဏ်အကောင်းဆုံး ဖြစ်သည့်တိုင် ပေါက်ကြည်၊ ထိုက် ယု တို့ လောက် မူ မကောင်းလှချေ။ သို့ရာတွင် အခြားသူများလည်း စပ်လျက်ရှိသဖြင့် မနေသာတော့ပြီ။ လီဝမ်းကလည်း တစ်ပုဒ်စပ်လေ၏။

နန်းမတော်ထိပ်ထားသည် ညီမတော်များစပ်သည့် စာတို့ကို ပထမကြည့်လေ၏။ ယင်းတို့မှာ အောက်ပါတို့ဖြစ်ပေ၏။

### ဖြိုးမိစန္ဒာဝင်

မျှော်စမ်းကြည့် ပတ်လည်
အလှစုံ တစ်ဂိုဏ်းဆန်းတာကြောင့်
မြနန်းဆောင် အရောင်လဲ့ကို
ရေးဖွဲ့မိသည်။ ။
ဘယ်ပန်းချီ မိနိုင်ပါမလဲ
ဟိုသည်လျှောက်ပါလို့
ရွှေနောက်ကို မျှော်ဆင်ခြင်တော့
မြင်မိသူ စိတ်နှလုံးမှာ
ပြုံးရသည်ပဲ။ ။

ယင်ချွန်း

### ပရမေသိရိ

ဤမြေခင်းသာ၊ ဘုံခန်းဝါ၌
သာခဲ့နေခြည်၊ ရှိခဲ့တိမ်ထောင်
အလှဆောင်လျက်၊ ညွှန်ငှက်ပျို
ခင်တန်းလျှိုမှ၊ ဖိတ်ခေါ်ကြ၏။
စိမ်းမြဝါရော၊ ဝါးရုံတောလည်း
သောသောညှိညှို့၊ နတ်ငှက်ပျံကို
ဖိတ်မန်သောနှယ်၊ မြူသောနှယ်သို့
နန်းမထိပ်ထား၊ စုဘုရား၏
ခရီးပင်လျှင်၊ စာဆိုရှင်အား
တေးပဥ္စင်ကို၊ တီကျူးဆိုစေ
နှိုးဆော်လေသော်၊ မွဲတေသည့်ဥာဏ်
စာဆို့ကံသည်၊ ထပ်ပြန်အတိုင်းသာတကား။ ။

ပေါက်ကြည်







### လူမရောက်သည့် နတ်တို့ပြည်

ဤဥယျာဉ်သာ၊ ဤနေရာကို
သိသူဘယ်မှာရှိသနည်း။
သင်းပျံ့မွှေးထုံ၊ ဤနတ်ဘုံသည်
ဖုန်မှုန့်ညစ်ထေး၊ ညစ်အကြေးကို
ဝေးရာတွင်သာ ရှိလိမ့်မည်။
စိမ့်စမ်းတောင်နွယ်၊ အလှခြယ်၍
ရှုဖွယ်ရှုခင်း၊ ဤမြင်ကွင်းနှင့်
သင်းပျံ့မွှေးထုံ၊ ရနံ့စုံလျက်
ရဂုံစိမ့်မြောင်၊ ကျောက်စိမ်းတောင်နှင့်
ပနာတင့်လျက်၊ သခင်အလာ
စောင့်ကြိုပါသည်
သာတောင့်သာယာ ဖွေတော့သည်။ ။

ထိုက်ယု

### အလှချင်းပြိုင်

တင့်တယ်စေမူ၊ သိကြားထုသို့
နှိုင်းတုမယှဉ်၊ ထိုဥယျာဉ်ကို
ငါလျှင်စာဖွဲ့၊ မမီခဲ့။
ရှုဖွယ်ဆန်းစွာ၊ ဤနေရာလျှင်
အလှယှဉ်ပြိုင်၊ မဖွဲ့နိုင်။ ။

တန့်ချွန်း

### အလှဖန်ဆင်းရှင်

ရှုလေတိုင်းပင်၊ အလှဆင်လျက်
တုယင်နန်းမြင့်၊ မိုးသို့စွင့်၍
နေနှင့်လသွင်၊ အလှဆင်သည်
သဘာဝထက်ပင် သာလိမ့်မည်။ ။

ဆီချွန်း

အလှနှင့်အနု

တောင်တို့စိမ်းစို၊ ရေညှိရစ်သန်း
နတ်ပြည်ကျွန်းသို့၊ အဆန်းတကြယ်
ကချေသယ်(သည်)၏၊ စိမ်းခြယ်ယပ်တောင်
ပူလောင်အိုက်စပ်၊ လေတွင်ခပ်သည်
နှုဖပ်သင်းပျံ့၊ ဆေးပင်နံ့သာ
ပေါ်ထွက်လာ၏၊ ပန်းလွှာသီးပွင့်
ကဘီနှင့်ခတ်၊ လေတွင်ရှပ်တိုက်
ပြေးလွှားလိုက်ကြ၊ ထိုကာလကို
ကဗျာဖွဲ့သီ၊ စာရေးစီ၏။
မြရည်ပျော်ဝင်၊ ပန်းမျှော်စင်မှ
လှနတ်သမီး၊ မြေကြီးဆင်းလာ
ထိုခြေရာကို၊ ဘယ်မှာလူတို့မိလိမ့်မည်။ ။

လိဝမ်း

နန်းမတော်ထိပ်ထားသည် ထိုကဗျာအားလုံးကို ချီးမွမ်း ပြောဆိုပြီးနောက် ပြုံးလျက်

''ကဲ ညီမငယ် ပေါက်ကြည်နဲ့ ညီမထိုက်ယုတို့ရဲ့ စာနှစ်ပုဒ်ကတော့ အကောင်းဆုံးပဲ။ သူတို့ကို ဘယ်သူမှမမီဘူး'' ဟု ပြော၏။

ထိုက်ယုသည် ထိုနေ့ညတွင် မိမိ၏ဉာဏ်စွမ်းဉာဏ်စကို ထုတ်ကာ သူတို့အားလုံးထက်သာအောင် လုပ်လိုက်မည်ဟု စိတ်ကူးလျက် ရှိ၏။ သို့ရာတွင် ထိပ်ထားက လူတစ်ယောက်ကို ကမ္ဗည်းတစ်ခုစီနှင့် စာတစ်ပုဒ်စီသာ အစပ်ခိုင်းသည့်အတွက် နောက်ထပ်ရေးရန် အခွင့်မသာတော့သဖြင့် ကဗျာတစ်ပုဒ်ကို ချက်ချင်း လက်တန်း ကောက်စပ်လိုက်ခြင်းဖြစ်၏။

သို့ရာတွင် ပေါက်ယုမှာမူ ရေး၍ မပြီးသေးချေ။ ဝေဠုဝန်နှင့် ဂမုန်းမြိုင်ရိပ်သာကို စပ်ပြီးသည့်နောက်တွင် 'နီ မောင်း ပျော် ဖွယ် ရင်ပြင်' အကြောင်းကိုစပ်ရန် စဉ်းစားလျက်ရှိ၏။ သူ့စာမူကြမ်းတွင် 'နွေဦးသစ်ရွက်၊ ကျောက်စိမ်းရွက်တို့၊ ခက်လက်ဝေဆာ' ဆိုသည့် စာတစ်ပုဒ်ကို မြင်လိုက်ရ၏။





ပေါက်ကြည်က လှမ်းကြည့်လိုက်သည့်အခါတွင် ထိုစာကြောင်းကိုမြင်သဖြင့် တံတောင်ဖြင့်တွက်လိုက်ပြီး

"အစ်မတော်ထိပ်ထားက နံ့သာနီတောင်နဲ့ ကျောက်စိမ်းဂူကို မကြိုက်ဘူးလေ။ ဒါကြောင့်မို့ နီမောင်းချမ်းသာနဲ့ ပျော်ဖွယ်စိမ်းမြပြောင်းပစ်တာ မတွေ့ဘူးလား။ ဒီမှာ တစ်ခါထပ်ပြီး ကျောက်စိမ်းဆိုတာကို ထပ်ရေးနေယင် မကြိုက်မှန်းသိလျက်နဲ့ တမင်ရေးနေသလိုဖြစ်မှာပေါ့။ ပြီးတော့ ငှက်ပျောရွက်ကို ဥပမာ တင်စားချင်ယင် ဒီမြင်ဥပမာတွေ အများကြီးရှိသားပဲဟာ။ ဒီ့ပြင်ဥပမာကိုရှာပါ'' ဟု တိုးတိုးပြော၏။

''ပေါက်ယုတော့ တခြား စကားလုံး ရှာလို့ မရတော့ဘူး'' ဟု ပေါက်ယုက နဖူးမှချွေးများကိုသုတ်ရင်း ပြော၏။

ပေါက်ကြည်ကပြုံးလျက်

''ကျောက်စိမ်းကို ဖယောင်းစိမ်းလို့ ပြောင်းလိုက်ပါလား''

''ဒီလိုတင်စားတာမျိုး ရှိလို့လား''

ပေါက်ကြည်က ပြုံးကာ နှုတ်ခမ်းများကို လျှာဖြင့် လျက်လိုက်ရင်း

''ရှိတယ်၊ ဘာဖြစ်လို့မရှိရမှာလဲ။ ဒီအတိုင်းသာ လုပ်နေယင် ရွှေနန်းတော့် စားပြန်ပွဲ ဝင်ဖြေတဲ့အခါကျတော့ သူငယ်တန်း ဖတ်စာကိုတောင် မေ့နေတော့မယ့်ပုံပဲ။ တန်ခေတ်စာဆို ချိန်ယိရဲ့ ငှက်ပျောရွက်အကြောင်း စပ်ထားတဲ့ 'ဖယောင်းစိုင်မှ၊ မီးတိုင်လည်းငြိမ်း၊ ဖယောင်းစိမ်းခဲ၊ ပျဉ်းတွဲသွေ့ခြောက်' ဆိုတဲ့ စာပိုဒ်ကို မမှတ်မိတော့ဘူးလား''

ပေါက်ယုစိတ်ထဲ၌ သူ့ရှေ့တွင် ကာထားသည့် တန့်လန့်ကာသည် ပွင့်သွားကာ လင်းလာသည်ဟု ထင်လိုက်ရလေ၏။

"ဟုတ်သားပဲ။ ပေါက်ယု တော်တော်ညံ့တာပဲ။ ရှိပြီးသား စကားလုံးကိုတောင် မေ့နေတယ်။ ဟုတ်ပါတယ်။ မလေးဟာ စာကဗျာအရာမှာ ကျွန်တော့်ဆရာပါ။ ဒီအချိန်ကစပြီး မလေးလို့မခေါ်တော့ဘူး။ ဆရာမလို့ပဲ ခေါ်တော့မယ်"

ပေါက်ကြည်က ကျေနပ်စွာပြုံးလိုက်ရင်း

"ကဲ စကားများမနေနဲ့ ကိုယ်တော်လေးရဲ့။ မြန်မြန်စပ်တော်မူ။ ပေါက်ကြည်ကိုလဲ မလေးလို့ မခေါ်ပါနဲ့။ မေခင့်ရဲ့ မလေးကဟိုမှာ ထိုက်ယုရယ်လေ။ ရွှေဝတီလုံကြီးနဲ့ထိုင်လို့။ သူ့ကိုသာ ခေါ်တော်မူပါ။ ပေါက်ကြည်တို့ကို မခေါ်ပါနဲ့"

စကားများနေလျှင် စာစပ်၍မပြီးဘဲ ဖြစ်နေမည်စိုးသည့်အတွက် ပေါက်ကြည်လည်း ထွက်သွားလေ၏။

ပေါက်ယုသည် တကုန်းကုန်းနှင့်စပ်နေသည်မှာ သုံးပုဒ်ပြီးသွားခဲ့လေပြီ။ ထိုက်ယုမှာလည်း ယနေ့ညတွင် သူ့အစွမ်းအစကို ကောင်းစွာပြခွင့်မရသဖြင့် ပေါက်ယုအတွက် ရေးပေးမည်ဟု စိတ်ကူးရကာ ခုံအနီးသို့ လာရပ်လေ၏။

ပြီးမပြီး မေးသည့်အခါတွင် ပေါက်ယုက

"သုံးပုဒ်တော့ ပြီးသွားပြီ မလေးရဲ့။ ဒါပေမယ့် 'ဆီးတော်ပင်ဘုံဆိုင်သို့အဝင်' ဆိုတဲ့ စာပုဒ် ကျန်နေသေးတယ်"

ထိုက်ယုသည် ခေါင်းငုံ့၍ အတန်ကြာ စဉ်းစားနေပြီးနောက် စာရွက်လွတ်တစ်ရွက်ပေါ်တွင် ကဗျာတိုကလေးကို ရေးခြစ်ပေးလိုက်ကာ လုံးခြေပြီးလျှင် ပေါက်ယုထံသို့ လှမ်းပစ်ပေးလိုက်၏။ ဖြေ၍ကြည့်လိုက်သည့်အခါ သူ့ထက် အဆများစွာသာသော ကဗျာများကို တွေ့ရသဖြင့် ပေါက်ယုသည် ကူးချကာ ကဗျာလေးပုဒ်ကို အစ်မတော်ထိပ်ထားထံ ပေးလိုက်လေ၏။





ကဗျာ လေးပုဒ်မှာ အောက်ပါအတိုင်းဖြစ်၏။

နတ်ငှက်ပြည်

ကျောက်စိမ်းပင်စည်၊ ရိုးတံဆိမ့်
ရွှန်းရည်လဲ့ပြီး၊ အသီးသီးလာ
မိုးပြာနတ်ငှက်၊ နားနေလျက်တည့်။
သစ်ရွက်မြနန်း၊ စိမ့်စမ်းသွယ်ကျ
စိမ်းမြပွင့်ညွှာကက်၊ ပြောက်တိပြောက်ကျား
အရိပ်များလျှင်၊ မရွေ့မလျား
ရပ်နေငြားသော်၊ ထိပ်ထားသခင်
နေဝင်ချိန်ထိ၊ ချို့မြိန်အိပ်စက်
ထိုအိပ်မက်ကို၊ မြင်မက်လိုသည်
နတ်ငှက်ပြည်။ ။

အစ်မတော်သည်စပ်ထားသည့် ထိုကဗျာလေးများကို ဖတ်၍ ကျေနပ်သွားကာ

"အလို တော်တော့်ကို တိုးတက်နေပါပေါ့လား"

နောက်ဆုံးကဗျာမှာ အကောင်းဆုံးဖြစ်သည့်အတွက် 'ဂုန်လျှော်ဖွပ်တဲ့အိုး' ကို 'စပါးချိုတဲ့' ဟု အမည်ပြောင်းလိုက်လေ၏။ ထိပ်ထားသည် တန်ချွန်းကိုခေါ်ကာ ကဗျာဆယ့်တစ်ပုဒ်ကို ပန်းစက္ကူပေါ်တွင် ရေးကူးစေပြီးလျှင် မိန်းမစိုးတစ်ယောက်ကိုခေါ်၍ အပြင်ဘက်တွင် စောင့်ဆိုင်းနေကြသည့် မြည်းတော်ကျီချိန်နှင့် လူကြီးများထံသို့ ပို့စေ၏။ လူကြီးများမှာလည်း ထိုကဗျာများကိုဖတ်၍ ကျေနပ်လျက် ရှိကြလေ၏။ ကျီချိန်ကလည်း သူကိုယ်တိုင်စပ်ဆိုသည့် 'လာတော်မူလျှင်' ချီရတုကို ဖတ်၏။

ထိပ်ထားသည် ဒိန်ခဲ၊ ဝက်ပေါင်ခြောက်နှင့် အခြား စားကောင်းသောက်ဖွယ်များကို ပေါက်ယုနှင့် ကျီလန်တို့ထံသို့ ပို့စေ၏။ ကျီလန်မှာ အလွန်ငယ်သေးသည့်အတွက် စာစပ်ရာတွင်လည်းမပါ၊ အစေးဝင်ရာတွင်လည်း ဦးလေးများ၊ ဒေါ်လေးများနောက်မှ ဝင်ရသူဖြစ်သည့်အတွက် သူ့အကြောင်းကို ယခုမှ ဖော်ပြရခြင်းဖြစ်၏။

ကျိုဟုန်မှာလည်း နှစ်သစ်ကူးပွဲတော်အပြီးတွင် နေထိုင်မကောင်းဖြစ်ရာမှ ယခုအချိန်တွင် သူ့ခန်းဆောင်တွင် နာလန်ထဆဲရှိသေးသဖြင့် သူ့အကြောင်းကို ဤတွင် ဖော်ပြခြင်း မပြုတော့ပြီ။

ထိုအချိန်၌ ကျိုကျန်းမှာ ဆူချောင်မှ သူဝယ်လာသည့် ကချေသည် ဆယ့်နှစ်ယောက်တို့နှင့်အတူ ကပြရန် အဆင်သင့်ဖြစ်နေသည့်တိုင် ခန်းဆောင်ထဲတွင် စာစပ်ပွဲမပြီးသဖြင့် စိတ်တိုလျက်ရှိလေပြီ။ ထိုစဉ် မိန်းမစိုးတစ်ယောက် ပြေးလာကာ ''ခန်းဆောင်ထဲမှာ စာစပ်ပွဲပြီးကော့မယ်။ ခင်များအစီအစဉ်က ဘာတွေရှိသလဲ။ ပြစ်မ်းပါဦး'' ဟု ပြော၏။

ကျိုကျန်းက ဖဲစအုပ်ထားသည့် အစီအစဉ်စာရွက်ကို လှမ်းပေးလိုက်လေ၏။ ငင်တော်ဆယ့်နှစ်စင်မှ ကချေသည် ဆယ့်နှစ်ဦးတို့၏ အမည်များကိုလည်း ဖော်ပြထား၏။ မိန်းမစိုးသည် ပြဇာတ်လေးခန်းကို ကပြရန် ရွေးပေးသွား၏။ သူရွေးပေးသွားသည့် ပြဇာတ်လေးခန်းမှာ (မင်ခေတ်ပြဇာတ် ဆရာကြီးလီယု၏) 'ပွဲတော်တည်အက'၊ (ချင်ခေတ်ပြဇာတ်ဆရာကြီး ဟုန်မင့်၏) 'ဒ တ္တမလ၊ ဒ တ္တမရက်ပွဲတော်အက'၊ (မင်မင်းဆက် ပြဇာတ်ရေးဆရာကြီး တန်ရှိန်ဆု၏) 'အမတဘုံသားများနှင့် တွေ့ဆုံခြင်း' နှင့် 'လေလွင့်ဝိညာဉ်' အကတို့ဖြစ်ကြ၏။

ကျိုကျန်းသည် ပထမအခန်းကို တင်ဆက်၏။ ကချေသည်များမှာ ရုပ်ချောသလောက် အဆိုအကလည်း တော်ကြပါပေ၏။ ကြည့်သူတို့ကို ရသပေးနိုင်စွမ်းရှိကြပါပေ၏။

သူတို့ကပြပြီးနောက် ခဏကြာလျှင် မိန်းမစိုးတစ်ယောက်သည် စားဖွယ်သောက်ဖွယ်များ ထည့်ထားသည့် ရွှေလင်ဗန်းတစ်ချပ်ကို ကိုင်ရင်း ဇာတ်ခုံနောက်သို့ ရောက်လာကာ လင်ကွမ်းဆိုသည့် ကချေသည်အမည်ကို မေး၏။ ဤသည်မှာ ထိပ်ထားက လင်ကွမ်းအား ဆုတော်လာဘ်တော် ချီးမြှင့်ခြင်းဖြစ်သဖြင့် ကျိုကျန်းက လင်ကွမ်းအား လာ၍ လက်ဆောင်ကို ဒူးတုပ်၍ ယူစေ၏။

မိန်းမစိုးက





''နန်းမတော်ထိပ်ထားက လင်ကွမ်းဟာ တော်ပါပေတယ်လို့ ချီးကျူးတော်မူတယ်ဗျ။ ခု သူ့အကြိုက်ဆုံး အခန်းနှစ်ခန်းကို လင်ကွမ်း ကပြပေးပါလို့ အမိန့်တော်ရှိလိုက်တယ်''

ကျိုကျန်းက ချက်ချင်း လက်ခံကတိပေးလိုက်ကာ 'ဥယျာဉ်တော်သို့ လည်ပတ်ခြင်း' နှင့် 'အိပ်မက်' ဆိုသည့် အခန်းနှစ်ခန်းကို အကခိုင်း၏။ သို့ရာတွင် လင်ကွမ်းမှာ ထိုအခန်းနှစ်ခန်းတွင် ကျွမ်းကျင်ခြင်း မရှိသည့်အတွက် 'ရန်ပွဲ' ဆိုသည့် ကကွက်နှင့် 'သစ္စာဆိုခြင်း' ဆိုသည့် ကကွက်နှစ်ခုကို ကပြရန် ရွေးလေသဖြင့် ကျိုကျန်းမှာလည်း သဘောတူလိုက်ရလေ၏။

နန်းမတော်ထိပ်ထားသည် လင်ကွမ်း၏ အကနှင့် အဆိုကို များစွာ နှစ်ခြိုက်တော်မူသဖြင့် ထိုကချေသည်မလေးကို ကောင်းစွာ မွေးမြူသင်ကြားပေးရန် အထူးညွှန်ကြားတော်မူခဲ့၏။ ထို့ပြင် လင်ကွမ်းအားလည်း ရွှေနန်းတော်သုံး ဖဲစနှစ်လိပ်၊ ရွှေချည်ထိုး လက်ကိုင်အိတ်နှစ်လုံး၊ ရွှေ ငွေ လက်ဝတ်လက်စားများနှင့် စားသောက်ဖွယ်များကို ဆုအဖြစ် ပေးသနားတော်မူ၏။

ထိုနောက် နန်းမတော်ထိပ်ထားနှင့် နောက်လိုက်နောက်ပါတို့သည် စားသောက်ပွဲတော်မှ ထကာ မကြည့်ရသေးသည့် အခြားနေရာများသို့ လိုက်လံကြည့်ရှုကြ၏။ ဥယျာဉ်တော်ထဲရှိ ဗုဒ္ဓ ဝတ်ကျောင်းဆောင်တစ်ခုသို့ရောက်လျှင် ထိပ်ထားသည် လက်ခြေဆေးကာ ဆီမီးများ ထွန်းညှိပြီးလျှင် ဝတ်ပြုတော်မူ၏။ ထိုတောရကျောင်းကိုလည်း 'ဗုဒ္ဓပင်လယ်မှ ကရုဏာလှေတော်' ဟူသော အမည်ကိုပေး၏။ သီလရှင်များကိုလည်း ဆွမ်းကွမ်းထောက်ပံ့ လှူဒါန်းလေ၏။

ခဏကြာလျှင် မိန်းမစိုးတစ်ယောက် ဒူးတုပ်ခစားကာ လက်ဆောင်တော် စာရင်း အဆင်သင့်ပြင်ပြီးကြောင်းနှင့် လျှောက်ထား၏။ နန်းမတော်ထိပ်ထားသည် လက်ဆောင်တော်စာရင်းကို ကြည့်ပြီးနောက် ကျေနပ်နှစ်ခြိုက်သည့်အတွက် ထိုလက်ဆောင်တော်များကို သက်ဆိုင်ရာ ပုဂ္ဂိုလ်အသီးသီးသို့ ဝေငှပေးရန် အမိန့်ပေးလိုက်၏။

မယ်မယ်မှာ လိုတရတောင်ဝှေးဟု ခေါ်သော ရွှေတောင်ဝှေးတစ်ချောင်းနှင့် ကျောက်စိမ်းတောင်ဝှေးတစ်ချောင်း၊ တယ်နှစ်သားတောင်ဝှေးတစ်ချောင်း၊ ကရမက် စိပ်ပုတီးတစ်ကုံး၊ နှမျှုံခြင်း၊ ချမ်းသာခြင်း၊ အမျိုးမြတ်ခြင်းတို့ကို ဖော်ပြသည့် ပန်းပုံစံများ ရေးထားသော ရွှေနန်းတော်သုံး ဖဲအုပ်လေးအုပ်၊ အသက်ရှည်ခြင်းနှင့် အနာရောဂါကင်းခြင်းတို့ကို ဖော်ပြသည့် ပန်းပုံစံများ ဖော်ထားသော ပိုးအုပ်လေးအုပ်၊ 'ဆုတောင်းပြည့်ပါစေ'ဟူသော စာတန်းများ ခတ်နှိပ်ထားသည့် ရွှေမန်ကျည်းတောင့် ဆယ်တောင့်နှင့် ကျန်းမာခြင်းနှင့် ဥစ္စာပေါခြင်းတို့ကို ဖော်ပြသည့် အခြားအရုပ်များနှင့် ငါးရုပ်များ ရေးခြယ်ထားသော ငွေမန်ကျည်းတောင့် ဆယ်တောင့်တို့ဖြစ်၏။

သခင်မဝမ်နှင့် သခင်မဆင့်တို့မှာလည်း တောင်ဝှေး၊ လက်ကိုင်တုတ်နှင့် ကရမက်ပုတီးတို့မှလွဲလျှင် အလားတူလက်ဆောင် ရကြ၏။

ကျိချင်၊ ကျိချိန်နှင့် ကျိရှဲတို့ကား ဘုန်းတော်ကြီးသော ဘုရားကိုယ်တော်တိုင် ရေးဖွဲ့တော်မူသော ကျမ်းစာအုပ်နှစ်အုပ်၊ အဖိုးတန်ရှားပါးသည့် မင်တောင့်သေတ္တာ နှစ်သေတ္တာ၊ ရွှေအရက်ခွက်နှစ်လုံးနှင့် ငွေအရက်ခွက်နှစ်လုံး၊ အထက်ပါအတိုင်း ရွှေနန်းတော်သုံး ဖဲအုပ်များ အသီးသီး ရရှိကြလေ၏။

ပေါက်ကြည်၊ ထိုက်ယုနှင့် အခြားညီမတော်များ အားလုံးတို့မှာ ကျမ်းစာအုပ်သစ် တစ်အုပ်၊ တိုင်းတစ်ပါးဖြစ် အဖိုးတန်ကြေးမုံ၊ ပုံစံသစ်ဖြင့်လုပ်သည့် ရွှေနှင့် ငွေနားဋ္ဌောင်းတစ်ရံစီ အသီးသီးရကြ၏။

ပေါက်ယုလည်း ထိုနည်းအတိုင်း ရ၏။

ကျိလန်မှာ ရွှေဆွဲကြိုးတစ်ကုံးနှင့် ငွေဆွဲကြိုးတစ်ကုံး အပြင် ရွှေဘယက်ပြားတစ်စုံနှင့် ငွေဘယက်ပြားတစ်စုံ ရ၏။

မှမယု၊ လီဝမ်းနှင့် နတ်ငှက်မယ်တို့မှာ ရွှေဘယက်နှစ်ပြား၊ ငွေဘယက်နှစ်ပြားနှင့် ပိုးအုပ်လေးအုပ် ရရှိလေ၏။





မယ်မယ်၊ သခင်မဝမ်နှင့် သခင်မဆင့်တို့ထဲတွင် အလုပ်လုပ်ရသည့် အစေတော်များ၊ လက်ပါးစေများမှာ ဖဲစနှစ်ဆယ့်လေးစနှင့် အသစ်သွန်းပြီးသား ငွေထုပ်တစ်ရာတို့ကို ခွဲဝေရကြ၏။

ကျိချန်၊ ကျိလျံ၊ ကျိဟုန်နှင့် ကျိယုန်တို့မှာ ဖဲစတစ်စစီနှင့် ငွေဘယက်ပြား တစ်စုံစီ ရကြလေ၏။

ထို့ပြင် မဟာနန္ဒာဥယျာဉ်တော်ကို တည်ဆောက်ထိန်းသိမ်းသူများကိုလည်း ဖဲအုပ်တစ်ရာ၊ ရွှေနှင့်ငွေ ဆယ်ပိဿာ၊ ရွှေနန်းတော်ကြီးမှ စားသောက်ဖွယ်များနှင့် အရက်ချိုများ ရကြ၏။ စားတော်ဆက်များ၊ ကချေသည်များနှင့် မျက်လှည့်ပညာသည်များလည်း အသစ်သွန်းပြီး ဒင်္ဂါးငါးရာကျော်စီ ရကြလေ၏။ အားလုံးက လက်ဆောင်တော်ပေးသည့်အတွက် ကျေးဇူးတင်ကြောင်း လျှောက်ထားပြီး၍ မိန်းမစိုးများက ရွှေနန်းတော်ကြီးသို့ပြန်ကြရန် အချိန်ရောက်ပြီဟုကြေညာသည့် အခါ၌ နံနက်သုံးချက် တီးခဲ့လေပြီ။ နန်းမတော်ထိပ်ထား၏ မျက်လုံးတွင် မျက်ရည်တွေ ဝဲလာသော်လည်း အနိုင်နိုင်ချုပ်တည်းကာ ကြိုးစား၍ ပြုံးလိုက်ရင်း မယ်မယ်နှင့် မေဖျားတို့၏ လက်ကို ဆွဲကိုင်ကာ မခွဲနိုင်အောင်ဖြစ်လျက် ရှိလေ၏။

"ထိပ်ထားအတွက် ဘာမှစိုးရိမ်မနေကြပါနဲ့။ ကိုယ့်ကိုယ်ကိုသာ ဂရုစိုက်ကြပါ။ ဘုန်းတော်ကြီးသောဘုရားရဲ့ ကရုဏာတော်ကြောင့် မယ်မယ်တို့ မေဖျားတို့လဲ တစ်လကိုတစ်ကြိမ်ကျ ရွှေနန်းတော်ကြီးကို လာခွင့်ရနေပြီပဲ။ နောက် မကြာမကြာ တွေ့ရတော့မှာပါ။ ဒီလေးငက်လဲ စိတ်ပူမနေကြပါနဲ့တော့။ နောက်နှစ်မှာ ဘုန်းတော်ကြီးသောဘုရားကလည်ပတ်ခွင့်ပြုလို့ ထိပ်ထားလာခမယ်ဆိုယင်တော့ ဒီလောက်အကုန်အကျခံပြီး ပြင်ဆင်မထားကြပါနဲ့"

မယ်မယ်နှင့်တကွ အမျိုးသမီးမျှားသည် မည်သို့မျှမပြောနိုင်ဘဲ ငြိမ်သက်လျက်ရှိကြ၏။ ထိပ်ထားသည် သူတို့နှင့်မခွဲခွာလိုသေးသည့်တိုင် ရွှေနန်းတော်ကြီး၏ အစဉ်အလာအရ မပြန်၍ မဖြစ်တော့သည့်အတွက်

ဝေါပေါ်သို့တက်ကာ ရွှေနန်းတော်ကြီးသို့ ပြန်ကြသွားလေ၏။ ကျန်ရှိ အိမ်သူအိမ်သားများသည် ငိုယိုလျက်ရှိသည့် မယ်မယ်နှင့် သခင်မဝမ်တို့ကို ဥယျာဉ်တော်ထဲမှ တွဲခေါ်လာကာ ဖျောင်းဖျနှစ်သိမ့်လျက်ရှိကြလေ၏။ သို့ရာတွင် ဤအကြောင်းကို နောက်တစ်ခန်းကျမှ ဖော်ပြဦးမည်။





PDF CREATOR - NYEYADHAMMA@GMAIL.COM

## အခန်း ၁၉

### လှပသောညတစ်ညတွင် အလိမ္မာ အစေတော်တစ်ယောက်က အကြံကောင်းပေးခြင်း။ တိတ်ဆိတ်သောနေ့တစ်နေ့တွင် နှစ်လိုဖွယ် မိန်းကလေးတစ်ယောက်က သူ့ခံစားချက်ကို ထုတ်ဖော်ခြင်း။

ရွှေနန်းတော်ကြီးသို့ရောက်ပြီး နောက်တစ်နေ့၌ မြောက် နန်းမတော် ထိပ်ထားသည် ဘုန်းတော်ကြီးသောဘုရားကို အခစားဝင်ရောက်ကာ ကရုဏာတော်အတွက် ကျေးဇူးတင်ကြောင်း လျှောက်ထားပြောဆိုပြီးနောက် စံအိမ်သို့ သွားရောက် လည်ပတ်ခဲ့သည်တို့ကို အသေးစိတ်လျှောက်တင်လေရာ ဘုန်းတော်ကြီးသောဘုရား အားရကျေနပ်တော်မူသည့်အတွက် ရွှေတိုက်တော်မှရွှေများ၊ ငွေများနှင့် ဖဲလိပ်များကို ထုတ်ယူစေလျက် ကျိချိန်နှင့်တကွ အခြားသော အမျိုးသမီးများ၏ ဖခင်များထံ ပေးပို့ သနားတော်မူလေ၏။ သို့ရာတွင် ဤအကြောင်းကို ဤမျှဖြင့်တော်လောက်ပြီ။

နန်းမတော်ထိပ်ထားအား ညှို့ခံရန် ပြင်ဆင်ရသည့် အတွက် စံအိမ်ကြီးနှစ်အိမ်စလုံးရှိ အိမ်သူအိမ်သားများမှာ ပင်ပန်းလှလေပြီ။ ဥယျာဉ်တော်ထဲရှိ ရွှေ့ပြောင်း သိမ်းဆည်း၍ရသည့် ပစ္စည်းများနှင့် အဆင်အပြင်များကို ဖြုတ်၍သိမ်းဆည်းရသည်မှာ ရက်ပေါင်းများစွာ

ကြာသည်အထိ မပြီးနိုင်သေးချေ။ ဤလုပ်ငန်းအတွက် အဓိကတာဝန်ယူရသူမှာ နတ်ငှက်မယ်ဖြစ်လေရာ နတ်ငှက်မယ်မှာ အခြားသူများထက်ပင် မအားမလပ်ဖြစ်လျက်ရှိကာ နားချိန်မရှိသလောက် ဖြစ်လျက်ရှိ၏။ သို့ရာတွင် နတ်ငှက်မယ်သည်အခြားသူများထက် အသိမ်းအထုပ်၊ အစီအမံတော်ကြောင်းကိုပြုသလိုလျက်ရှိသည့်ပြင်မိမိ၏စီမံမှုတို့တွင်လည်း ချွတ်ယွင်းချက်မရှိရလေအောင် စိတ်ထက်သန်သူ ဖြစ်သည့်အလျောက် ထိုမျှကြီးလေးသည့် တာဝန်များကို အသေးအဖွဲကလေးများပမာ အားတက်သရော ကြိုးစားလုပ်ဆောင်လျက်ရှိ၏။ ထိုအထဲတွင် အလုပ်တာဝန် အနည်းဆုံးကား ပေါက်ယုဖြစ်၍ အားအားရှိလျှင် အပျော်အပါး၊ အဆော့အကစားဖြင့်သာ အချိန်ကုန်လျက်ရှိလေ၏။

တစ်မနက်၌ မာလာ၏မိခင်သည် မယ်မယ့်ထံသို့ ပေါက်လာကာ သူ့သမီးအား အိမ်သို့ တစ်ညနေလက်ဖက်ရည် သောက်ခွင့် ထည့်လိုက်ရန် ခေါ်သွားလေရာ ပေါက်ယုမှာ အခြားအစေတော်များနှင့် ပဆစ်ပစ်ခြင်း၊ အနီစာကစားခြင်းဖြင့် ကျန်ရစ်ခဲ့လေ၏။ ထိုသို့ပျင်းရိလျက်ရှိနေစဉ် နန်းစံအိမ်ကြီးမှ လက်ပါးစေတစ်ယောက် ရောက်လာကာ ပြဇာတ်လည်းကြည့်ရင်းနှစ်သစ်ကူးမီးပုံးများကိုလည်းကြည့်ရင်းအလည်လာပါရန် ကျီချန်ကဖိတ်ကြားကြောင်းဖြင့် လာ ရောက် ပြော ဆို ၏။ ပေါက်ယုသည် လိုက်ပါရန် အဝတ်အစားလဲလျက်ရှိစဉ် ရွှေနန်းတော်ကြီးရှိ နန်းမတော်ထိပ်ထားထံမှ ဒိန်ခဲအပါအဝင် စားဖွယ်သောက်ဖွယ် လက်ဆောင်များ ရောက်လာလေ၏။ ထိုအစားအစာမျိုးကို မာလာ ကြိုက်တတ်မှန်းသိသဖြင့် ပေါက်ယုက မာလာအတွက်သိမ်းထားရန် မှာ ပစ်ခဲ့၏။ ထိုနောက် မယ်မယ့်ထံခွင့်ပန်ကာ နန်းစံအိမ်ကြီးသို့ ထွက်လာ ခဲ့လေ၏။

နန်းစံအိမ်သို့ရောက်သည့်အခါ၌ 'ဖခင်နှင့်တွေ့ဆုံခြင်း'၊ 'ဟုတ်ပို့ယနီ တစ္ဆေများကို စစ်တိုက်ခိုင်းခြင်း'၊ 'ကောင်းကင်ကိုမျောက်မင်းတက်၍ ဖျက်ဆီးခြင်း' စသည့်ပြဇာတ်များကို ကပြလျက် ရှိလေ၏။ ထိုပြဇာတ်များမှာ တစ္ဆေများ၊ ဘီလူးများ၊ ကုမ္ဘဏ်များ၊ ယက္ခများ စသည်တို့လည်းပါ၍ မောင်းသံ၊ လင်းကွင်းသံ၊ ဗုံသံ တို့သည် လွန်စွာ





ဆူညံလျက်ရှိကာ လမ်းမတိုင်အောင် မြည် ဟည်း လျက် ရှိ၏။ ဤမျှလောက်ခမ်းနားသည့် ပြဇာတ်မျိုးကို ကျိဆွေမျိုးစုများသာ မြကြည့်ရှုနိုင်ကြပေသည်ဟု လမ်းသွားလမ်းလာများကပင် အားကျပြောဆိုကြလေ၏။ ပေါက်ယုမှာကား ဆူညံရှုပ်ထွေးလှသည့် အသံဗလံများနှင့် မြင်ကွင်းများကို စိတ်ပျက်လှသည့်အတွက် မကြည့်တော့ဘဲတစ်နေရာသို့ ထွက်လာခဲ့လေ၏။

ပေါက်ယုသည် မမယု၏အဆောင်သို့သွား၍ စကားစမြည်ပြောဆိုပြီးနောက် အစေတော်မိန်းကလေးများ၊ အမြောင်မယားများကို သွား၍ နှောက်ပြောင်နေလေ၏။ အတွင်းဝင်းတံခါးဘက်သို့ ဝင်သွားသည့်အခါ၌ အစေတော်များလည်း ပေါက်ယု ပွဲခင်းသို့ ပြန်သွားသည်ဟု ထင်သဖြင့် မလိုက်တော့ဘဲ နေရစ်ခဲ့ကြ၏။ ကျိချန်၊ ကျိလျံတို့နှင့် ဆွေ့ဖန်တို့ကလည်း သူတို့ဘာသာ သောက်စားပျော်ပါးကာ အလောင်းအစား လုပ်နေကြသည့်အတွက် ပေါက်ယု ပျောက်သွားသည်ကို သတိမထားမိဘဲ အတွင်းဆောင်ဘက်သို့ ဝင်သွားသည်ဟုသာ ထင်လိုက်ကြ၏။ ပေါက်ယုနောက်မှ လိုက်ပါလာသော လက်ပါးစေများမှာလည်း ပေါက်ယုသည် ညနေမိုးချုပ်မှပြန်မည်ထင်သဖြင့်သူတို့ဘာသာသူတို့ တစ်နေရာသို့သွားကာ လောင်းကစားလျက်ရှိကြလေ၏။ အချို့ကလည်း လက်ဖက်ရည်ဝိုင်းဖွဲ့ကာ စကားပြောနေကြပြီး အချို့မှာမူ မြို့ထဲရှိ ဆွေမျိုးသားချင်းများထံသို့ လည်းကောင်း၊ ဘုံဆိုင်သို့ လည်းကောင်း၊ ပြည့်တန်ဆာ အိမ်များသို့ လည်းကောင်း ထွက်သွားကြ၏။ သူငယ်တော်များမှာမူ ပွဲခင်းထဲသို့ ဝင်၍ ပွဲကြည့်နေကြ၏။

ပေါက်ယုသည် တစ်ယောက်တည်း ပျင်းပျင်း ရှိသည်နှင့် "ဗိပိဋကတ်တိုက်ခန်းထဲမှာ တော်တော်လှတဲ့ မိန်းကလေးတစ်ယောက်ရဲ့ ပုံတူပန်းချီကား ရှိတယ်၊ သွား ကြည့် ဦး မှ" ဟု စိတ် ကူး ပေါက်ကာ ပိဋကတ်တိုက်ထဲသို့ ဝင်လာခဲ့လေ၏။

ခန်းဆောင်နားသို့ ရောက်သည့်အခါတွင် အထဲမှ ညည်းညူသံလိုလို အသံတစ်ခုကိုကြားရသဖြင့် လန့်သွားလေ၏။ မည်သို့နည်း။ ပန်းချီကားထဲမှ မိန်းမပျိုသည်ပင် အသက်ပြန်ဝင်လာလေပြီလော။ ပေါက်ယု

သည် အားတင်း၍ ကြောက်စိတ်ကို ဖျောက်ကာ ပြတင်းပေါက်တွင် ကပ်ထားသည့်စက္ကူကိုခွာ၍ အထဲသို့ကြည့်လိုက်၏။ ပန်းချီကားထဲမှ မိန်းမပျို အသက်ဝင်လာခြင်း မဟုတ်ချေ။ သူငယ်တော် မင်ယန်းသည် မိန်းမပျိုလေးတစ်ယောက်ကို တွန်းလှဲကာ အိပ်မက်ထဲတွင် 'မာယာ ဒေဝီက သူ့အားပေးခဲ့သည့် သင်ခန်းစာမျိုးကိုပေးရန် အားထုတ်နေ သည်ကို တွေ့ရလေ၏။

"ဟင်"

ပေါက်ယုသည် တစ်ခွန်းတည်းအော်ကာ ခန်းဆောင်ထဲသို့ ပြေးဝင်လာခဲ့၏။ ပေါက်ယု ပြေးဝင်လာသည့်အခါတွင် သူတို့ နှစ်ယောက်သည် အကြောက်ကြောက် အလန့်လန့်ဖြင့် လူချင်းခွာလိုက်ကြ၏။ မင်ယန်းသည် သူ့သခင်လေးကို မြင်သည့်အခါတွင် ဒူးထောက် တောင်းပန်လေ၏။

"သောင်းကျန်းလှချည်လားကွ ဟင်။ နေ့ခင်းကြောင်တောင် ကြီးမှာတောင် မရှောင်တော့ဘူးလား။ အစ်ကိုကြီးကျိချန် သတ်မှာကို ခံချင်လို့လား"

ပေါက်ယုသည် မိန်းမပျိုကို လှမ်းကြည့်လိုက်လေ၏။ မိန်းမပျို မှာ အချောကြီးမဟုတ်သည့်တိုင် အသားလှလှနှင့် ကြည့်ပျော်ရှုပျော် ရှိသည့် မိန်းမပျိုကလေးတစ်ယောက်ဖြစ်၏။ မိန်းမပျိုသည် တစ်မျက်နှာလုံးနီရဲကာ ခေါင်းမဖော်ရဲဘဲ ငုံ့ထား၏။

"ဘာလဲ နင် တစ်နေကုန် ဒီနားမှာ ရပ်နေတော့မလို့လား"ဟု ပေါက်ယုက မေးလိုက်၏။

ထိုအခါကျမှ မိန်းမပျိုသည် သတိရလာကာ အခန်းထဲမှ တစ်ဟုန်ထိုး ထွက်ပြေးလေရာ ပေါက်ယုလည်း နောက်မှ ပြေးလိုက် ရင်း ခေါ်လေ၏။

"မကြောက်ပါနဲ့၊ ငါ ဘယ်သူ့ကိုမှ မပြောပါဘူး"

"ဒုက္ခပါပဲဗျာ။ ခုပဲ သခင်လေး လျှောက်ပြောနေပြီ မဟုတ် လား"ဟု မင်ယန်းက ပြော၏။





"ကောင်မလေးက အသက်ဘယ်လောက်ရှိပလဲ"

"ဆယ့်ခြောက် ဆယ့်ခုနစ်လောက် ရှိရောပေါ့"

"အံ့ပါ့ကွာ။ ကိုယ်ကြိုက်တဲ့ မိန်းကလေးတစ်ယောက်ရဲ့ အသက် ကိုတောင် မမေးမိဘူးဆိုတော့ မင်း ဒီကောင်မလေးအပေါ်မှာ တည် တည်တံ့တံ့ သဘောမထားဘူးဆိုတာ ထင်ရှားနေတာပေါ့။ သက် သက်မဲ့ ကောင်မလေးက မင်းကို အဟုတ်ထင်ပြီးကြိုက်တာ။ နာမည် ကရော"

မင်ယန်းက ရှင်းပြလိုက်ပြီးလျှင်

"ဇာတ်လမ်းကတော့ အရှည်ကြီး သခင်လေးရဲ့၊ အဖြစ်မှန်ဟာ စိတ်ကူးတာထက် ဆန်းကြယ်တယ်။ ကောင်မလေးကပြောတော့ သူ့ကို မမွေးခင်တုန်းက သူ့အမေက အိပ်မက်မက်သတဲ့။ အိပ်မက်ထဲမှာ ရောင်စုံပန်းတွေရိုက်ထားပြီး စကြာတံဆိပ်ကြီးတစ်ခုပါတဲ့ ဖဲလိပ်ကြီး တစ်လိပ်ရတယ်လို့ အိပ်မက်မက်သတဲ့။ ဒါနဲ့ သူ့အမေက သူ့ကို စကြာ လို့ နာမည်ပေးထားတယ်"

ပေါက်ယုက သဘောကျ၍ ရယ်လိုက်ကာ

"အင်း ဆိုစမ်းပါဦး။ ဆန်းတော့ ဆန်းသားပဲ။ နောက်တော့ ကြီးပွားချင် ကြီးပွားလာမှာပေါ့ကွာ"ဟု ပြောရင်း ပေါက်ယုသည် စဉ်းစားနေလေ၏။

"ဇာတ်ပွဲတွေ ကောင်းသားပဲ သခင်လေး။ ဘာဖြစ်လို့မကြည့် တာလဲ"ဟု မင်ယန်းက မေး၏။

"ခဏတော့ ကြည့်ပါသေးတယ်။ ပျင်းတာနဲ့ ထွက်လာတာ။ ထွက်လာတော့ မင်းတို့နှစ်ယောက်ကို တွေ့တာပေါ့။ ကဲ ဆို မင်းတို့ ဘာလုပ်မလို့လဲ"

မင်ယန်းက ပြုံးလိုက်ရင်း

"ကျွန်တော်တို့ကို ဘယ်သူမှ မြင်မှာမဟုတ်ဘူး။ ဒီတော့ မြို့ထဲ လျှောက်လည်ချင်လည်ပေါ့ သခင်လေးရ။ ပြီးတော့ အသာပြန်လာတာ ပေါ့။ ဘယ်သူသိမှာမှတ်လို့"

"မဖြစ်ပါဘူးကွာ။ ရွှေမြို့တော်ထဲကိုသွားလို့ လူဆိုးသူဆိုးတွေနဲ့ တွေ့လို့ ပြန်ပေးဆွဲသွားယင် ဒုက္ခရောက်နေမယ်။ ပြီးတော့ တစ်ယောက်ယောက် တွေ့သွားယင်လဲ သက်သာမှာ မဟုတ်ဘူး။ သွားချင်းသွားယင် ဒီနားတစ်ဝိုက်လောက်ပဲ လျှောက်လည်တာပေါ့။ ပြန်လာလို့လဲ လွယ်တဲ့နေရာမျိုးပေါ့"

"ဒါပေမယ့် ဒီနားမှာ ဘယ်လည်ရမယ်ဆိုတာ မသိတာခက်တယ် သခင်လေးရဲ့"

"မာလာတို့ဆီ သွားယင်ကော။ အိမ်မှာ သူဘာတွေများလုပ်နေသလဲ မဆိုနိုင်ဘူး"

"ကောင်းသားပဲ။ ကျွန်တော်လဲ မေ့နေတယ်။ ဒါပေမယ့် လူကြီးတွေ တွေ့သွားယင်တော့ ကျွန်တော်တော့ အရိုက်ခံရမှာပဲ"

"အရေးမကြီးပါဘူးကွာ။ ငါ့ဘာသာငါ ရှင်းမှာပေါ့"

မင်းယန်းက မြင်းကို သွားယူလာသောအခါတွင် သူတို့နှစ်ယောက်သည် နောက်ဖေးတံခါးမှ ထွက်လာခဲ့ကြ၏။

မာလာတို့အိမ်မှာ ကိုက်အနည်းငယ်သာ ဝေးလေရာ ခဏကြာလျှင် ဝင်းပေါက်သို့ ရောက်ခဲ့ကြ၏။ မင်းယန်းသည် ဝင်းဝသို့ အယင်ဝင်သွားကာ မာလာ၏အစ်ကို ဟွာဇုဖန်ကို သွားရှာခေါ်၏။

မာလာ၏ အမေသည် သမီးကို အိမ်သို့ခေါ်ကာ လက်ဖက်ရည်သောက်ရင်း စကားပြောလျက်ရှိ၏။ ဟွာဇုဖန်သည် ခေါ်သံကြားသဖြင့် လန့်ဖျပ်သွားကာ အပြင်သို့ ထွက်ကြည့်လိုက်သောအခါ ပေါက်ယုနှင့် သူ့ လက်ပါးစေ မင်းယန်းတို့ကို တွေ့ရလေ၏။ ပေါက်ယုကို မြင်းပေါ်မှ ချပေးပြီးသည့်အခါတွင် ဟွာဇုဖန်က

"မာလာရေ။ ဟောဒီမှာ သခင်လေးပေါက်ယု လာတယ်ဟေ့" ဟု အော်လေ၏။

ပေါက်ယုရောက်လာသည့်အတွက် မာလာမှာ အကြီးအကျယ် အံ့အားသင့်လျက်ရှိ၏။ မာလာသည် ပြေးထွက်လာကာ ပေါက်ယု၏ လက်မောင်းကို လှမ်းဆုပ်ကိုင်လိုက်ရင်း

"သခင်လေး ဘာလာလုပ်တာလဲဟင်"





"ပျင်းလို့ထွက်လာတာ။ မာလာ အိမ်ပြန်သွားတယ် ဆိုတော့ အိမ်ရောက်ယင် ဘာတွေများလုပ်နေမလဲလို့ သိချင်တာနဲ့ လာတာ" ဟု ရယ်၍ ပြော၏။

ထိုအခါကျမှ မာလာမှာ အနည်းငယ် စိတ်သက်သာရာ ရသွားကာ

"သခင်လေးဟာ သော်တော့ကိုဆော့တယ်။ နည်းနည်းလေးမှ အငြိမ်မနေဘူး။ ဘာလို့လိုက်လာရတာလဲ။ သိပ်ခက်တာပဲ" ဟု ဆူပူပြီးနောက် မင်းယန်းဘက်သို့လှည့်လိုက်ကာ

"နင်တစ်ယောက်တည်းလား မင်းယန်း၊ ဒီပြင် ဘယ်သူပါသေးသလဲ"

မင်းယန်းက ရယ်လိုက်လျက်

"ဘယ်သူမှမပါဘူး။ ကျွန်တော်တို့နှစ်ယောက်တည်းရယ်။ ဒီကို လာတာလဲ ဘယ်သူမှမသိပါဘူး"

ဤတွင် မာလာသည် စိုးရိမ်သွားပြန်ကာ

"သခင်လေးက ဟော်တော် ခက်တာပဲ။ ခုနေ တစ်ယောက်ယောက်နဲ့တွေ့သွားယင် ဘယ့်နှယ်လုပ်မလဲ။ သခင်ကြီး တွေ့သွားယင် ဘယ်လိုလုပ်မှာလဲ။ လမ်းမှာလဲ လူတွေ၊ မြင်းတွေ၊ မြင်းရထားတွေကို ကျပ်ညပ်နေတာ။ မတော်လို့ မြင်းချင်း တိုက်မိလို့၊ ရထား ညပ်မိလို့ရှိယင် ဘယ့်နှယ် လုပ်မလဲ။ ပေါ့တီးပေါ့ဆ လုပ်မနေကြနဲ့။ တော်တော် အတင့်ရဲ။ အမှန်ကတော့ မင်းယန်းဆတိဆော့တာ။ တကယ်ဆို နင်က တားပါတော့လား။ အိမ်ပြန်ရောက်ယင် နင့်ကို ဖပ်စပ်ဖပ်ကလေးရိုက်ဖို့ အထိန်းတော်တွေကို ပြောရဦးမယ်"

မင်းယန်း၏မျက်နှာသည် မဲ့သွားကာ

"ဟင် ကျွန်တော်နဲ့ ဘာဆိုင်လို့လဲ မာလာရဲ့၊ သခင်လေးက ကျွန်တော့်ကို ဆဲဆိုထိုးကြိတ်ပြီး အတင်းခိုင်းလို့ ကျွန်တော်က လိုက်ပို့ရတာ။ ကျွန်တော်က မသွားဖို့ အတန်တန် ပြောပါတယ်။ ကဲ သခင်လေး၊ ကျွန်တော်တို့ ပြန်ရအောင်"

ဟွာဇုဖန်က ကြားဖြတ်၍

"ကိစ္စမရှိပါဘူး။ တခြားသွားတာမှ မဟုတ်တာ။ ကျွန်တော်တို့အိမ်ကို လာတာပဲဟာ။ တစ်ခုတော့ရှိရဲ့။ ကျွန်တော်တို့အိမ်ကအိမ်ကုပ်ကလေး၊ ညစ်ညစ်ပတ်ပတ်နဲ့ဆိုတော့ သခင်လေးပေါက်ယုကို ဘယ်မှာ ဧည့်ခံရမလဲမသိတာ တစ်ခုပဲ"

ထိုအချိန်၌ မာလာ၏ မိခင်လည်း ထွက်လာပြီး နှုတ်ဆက်၏။ မာလာသည် ပေါက်ယုကို အိမ်ထဲသို့ ခေါ်လာခဲ့လေ၏။ အိမ်ထဲတွင် မိန်းကလေး လေးငါးယောက်ကိုလည်း တွေ့ရပြီး သူ ဝင်လာသည်ကို မြင်သည့်အခါတွင် မျက်နှာကိုငုံ့ထားကြလေ၏။ သခင်လေးပေါက်ယု အေးမည်စိုးသည့်အတွက် ဟွာဇုဖန်နှင့်သူ့အမေက ပေါက်ယုကို ခုတင်မီးဖိုကြီးပေါ်တွင် အထိုင်ခိုင်းပြီး စားဖွယ်သောက်ဖွယ်များ တည်ခင်းထား လက်ဖက်ခြောက် အကောင်းစားဖြင့် လက်ဖက်ရည် ကျိုလျက်ရှိလေ၏။

မာလာက ပြုံးလိုက်ကာ

"အမေ အလကား အချိုတွေကျွေးမနေနဲ့။ သူ့စားမှာ မဟုတ်ဘူး။ သူ့အကြောင်း ကျွန်မသိတယ်။ ဘာဆိုဘာမှ စားနိုင်တော့မှာ မဟုတ်ဘူး"

မာလာသည် သူအုံးသည့်ခေါင်းအုံးကို ပြေးယူကာ ခုတင်မီးဖိုပေါ်တွင် ချပေးလေ၏။ ထို့နောက် ခြေထောက်ကင်သည့်မီးဖိုကလေးကိုလည်း ပေါက်ယုခြေရင်းတွင် ချပေးလေ၏။ ထိုနောက် သူ့လက်ကိုင်အိတ်ထဲမှ အမွှေးတိုင်နှစ်ချောင်းကို ဆွဲထုတ်လိုက်ပြီးလျှင် လက်ဆွဲမီးဖိုကလေးထဲသို့ ထည့်လိုက်ပြီး အဖုံးကိုပြန်ပိတ်ကာ မီးဖိုကလေးကို ပေါက်ယု၏ပေါင်ပေါ်သို့ တင်ပေးလိုက်၏။ တစ်ဖန် လက်ဖက်ရည်ကို သူသောက်နေကျခွက်ထဲသို့ငှဲ့ပြီး ပေါက်ယုကို လှမ်းပေးလိုက်လေ၏။

ဟွာဇုဖန်တို့သားအမိမှာ ပေါက်ယုကိုကျွေးရန် စားပွဲငယ်တစ်လုံးကိုခင်းပြီး စားဖွယ်သောက်ဖွယ်တို့ကို ပြင်ဆင်လျက်ရှိကြ၏။ သို့ရာတွင် သူတို့ကျွေးသည့်အစာများကို ပေါက်ယု စားနိုင်တော့မည်မဟုတ်ကြောင်း မာလာ သိ၏။

မာလာက ရွှင်မြူးစွာဖြင့်





"သခင်လေး၊ ဒီရောက်မှတော့ တစ်ခုခု စားသွားရမယ်နော်။ အနည်းဆုံး အိမ်ကိုအလည်ရောက်တဲ့ အထိမ်းအမှတ် သဘောကလေး လောက်ပေါ့"

မာလာသည် ထင်းရှူးသီးမီးဖုတ်ကို အခွံချွတ်ပြီး လက်ကိုင်ပဝါထဲတွင်ထည့်၍ ပေါက်ယုကို လှမ်းပေးလိုက်၏။

မာလာ၏မျက်နှာမှာ နီရဲလျက်ရှိပြီး နံ့သာလူးထားသည့်တိုင် မျက်ရည်တွေ စွန်းထင်းလျက်ရှိသည်ကို မြင်ရလေ၏။

"ဘာဖြစ်လို့ ငိုတာလဲဟင်"ဟု ပေါက်ယုက ခပ်တိုးတိုးကပ်၍ မေးလိုက်၏။

"အမယ် ဘယ်သူငိုလို့လဲ။ မျက်လုံးကယားလို့ ပွတ်ထားလို့ နီနေတာ"ဟု မာလာက ခပ်မြူးမြူး ပြန်ပြောလိုက်၏။ သို့ဖြင့် မာလာသည် စကားကို လှိုးလွှဲပြောဆိုလျက် ရှိလေ၏။

ပေါက်ယုသည် သူဝတ်နေကျ မြေခွေးမွေးကုတ်၊ နဂါးရုပ် ရွှေချည်ထိုးသည့် အနီရောင် လေးသည်တော်ကိုယ်ကျပ်အင်္ကျီကို ဝတ်ထားပြီး အပေါ်တွင် စိမ်းပြာရောင် မြွေပါမွေးဝတ်ရုံကို ဝတ်ထား၏။

"မာလာတို့အိမ်ကို လာမှာမို့လို့ ဒီအဝတ်အစားတွေကိုလဲလာတာတော့ မဟုတ်ပါဘူးနော်။ ဘယ်သွားမလို့လဲလို့ မမေးလိုက်ကြဘူးလား"

"အစ်ကိုကြီး ချန်တို့အိမ်ကို ဇာတ်ပွဲကြည့်ဖို့ ထွက်လာတာ"

မာလာက ခေါင်းညိတ်လိုက်လျက်

"ဒီလိုဆိုယင် ဒီမှာခဏနေပြီး သခင်လေး ပြန်တော့နော်။ မာလာတို့အိမ်က သခင်လေး လာဖို့ကောင်းတဲ့ နေရာမဟုတ်ဘူး"

"မာလာ စံအိမ်ကိုပြန်လိုက်ခဲ့ပါ။ ဟိုမှာ မာလာဖို့ ပေးစရာ တစ်ခုရှိတယ်"

ပေါက်ယုက ချော့မော့သံဖြင့် ပြောလေ၏။ မာလာက လေသံကလေးဖြင့်

"သခင်လေး ဒီလိုမပြောနဲ့လေ။ တခြား လူ တွေ ကြား ယင် တစ်မျိုးထင်ကုန်မယ်"

မာလာသည် ပေါက်ယုလည်တွင်ဆွဲထားသည့် ကျောက်စိမ်းတုံးဆွဲကြိုးကို ဖြုတ်ယူလိုက်ပြီးနောက် သူ့ ညီမ ဝမ်း ကွဲ များ ဘက် သို့ လှည့်ကာ

"ဒီမှာ ညည်းတို့ ပြောပြောနေတဲ့ ကျောက် စိမ်း တုံး လေ။ ညည်းတို့ မြင်ဖူးချင်တယ်ဆို။ ကုံတုန်းလာကြည့်လှည့်ကြ။ ကျောက်စိမ်းတုံးက ဘာမှတော့ မထူးခြားပါဘူး။ ရိုးရိုးပါပဲ"

မာလာသည် ပေါက်ယု၏ ကျောက် စိမ်း တုံး လည် ဆွဲ ကြိုးကို တစ်ယောက်တစ်လှည့်စီ လိုက်ပြပြီးနောက် ပေါက်ယု၏လည်တွင် ပြန်ဆွဲပေးလိုက်၏။ ထို့နောက် ပေါက်ယုအား သန်လျင်းတစ်စင်းဖြစ်စေ၊ ရထားတစ်စင်းဖြစ်စေ ငှားပြီးလိုက်ပို့ပေးရန် ပြော၏။

"ကိစ္စမရှိပါဘူး။ မြင်းနဲ့ပဲ လိုက်ပို့လိုက်မှာပေါ့"ဟု ဟွာဇုဖန်က ပြော၏။

"မြင်းနဲ့လိုက်ပို့လို့ မဖြစ်ဘူးလေ။ တော်တော်ကြာ လူကြီးတွေ မြင်သွားလိမ့်မယ်"

ဟွာဇုဖန်သည် သန်လျင်းတစ်စင်းကို သွားရှာငှား၏။ ထို့နောက် မာလာသည် ပေါက်ယုကို သူတို့အိမ်တွင် ကြာရှည်မထားရဲသည့်အတွက် မြန်မြန်လိုက်ပို့ရန် စီစဉ်ရ၏။ မင်ယန်းအားလည်း သွား ရည် စာ နှင့် ဗျောက်အိုးဝယ်ရန် ပိုက်ဆံပေးပြီးလျှင် ထိုအကြောင်းကို မည်သူ့မျှ မပြောရန်၊ ပြောလျှင် ဒုက္ခရောက်မည်ဖြစ်ကြောင်း မှာလိုက်၏။ မာလာသည် ပေါက်ယုကို ဝင်းဝရောက်အောင် လိုက်ပို့ကာ သန်လျင်းပေါ်သို့ တက်စေပြီးနောက် ကန့်လန့်ကာများကို ချပေး၏။ ဟွာ ဇု ဖန် နှင့် မင်ယန်းတို့က နောက်မှ မြင်းဖြင့် လိုက်သွားကြလေ၏။

နန်စံအိမ်ကြီးနားသို့ ရောက်သည့်အခါတွင် မင်ယန်းက သန်လျင်းကို အရပ်ခိုင်းပြီးနောက်

"စံအိမ်ကို တိုက်ရိုက်ပြန်လို့ မဖြစ်သေးဘူးဗျ။ ဒီကို ခဏဝင်ရဦးမယ်။ တော်တော်ကြာ လူတွေမြင်သွားယင် လျှောက်လည်နေတယ်လို့ ထင်လိမ့်မယ်"ဟု ဟွာဇုဖန်ကို ပြောလေ၏။





ဟွာဇုဖန်သည် ပေါက်ယုကို သန်လျင်းပေါ်မှချကာ မြင်းပေါ်သို့ တင်ပေးလေ၏။ ပေါက်ယုက သူတို့အား ဒုက္ခပေးမိသည့်အတွက် တောင်းပန်၏။ ထို့နောက် သူတို့နှစ်ယောက်သည် နောက်ဖေးဝင်းပေါက်မှ နေ၍ အထဲသို့ ဝင်ရောက်ပျောက်ကွယ်သွားကြလေ၏။ သူတို့အကြောင်းကိုမူ ဤတွင် တော်ဦးစို့။

ပေါက်ယု မရှိသည့်အချိန်၌ သူ့အဆောင်တွင် ကျန်ရစ်ခဲ့သည့် အစေတော်များသည် ပဆစ်ပစ်သူပစ်၊ ကြွေအန်စာ ကစားသူ ကစား၊ မှိုက်သူရိုက်ဖြင့် စိတ်ထင်တိုင်း ဖြစ်နေကြလေ၏။ ကြမ်းပြင်ပေါ်တွင်လည်း ကွာစေ့အခွံများ ပြန့်ကျဲလျက်ရှိလေ၏။ ထိုအချိန်တွင် အထိန်းတော်ကြီး လီသည် ပေါက်ယုကိုကြည့်ရန် ကြိမ်တစ်ချောင်းကို ကိုင်၍ ရောက်လာလေရာ ခန်းဆောင်တွင်းတွင် ဖြစ်ချင်တိုင်း ဖြစ်နေသည်ကို မြင်သည့်အခါ၌ ခေါင်းကိုယမ်းကာ အစေတော်များကို ဆူပူကြိမ်းမောင်းလျက် ရှိလေ၏။

"ဟဲ့ ကောင်မတွေ။ နင်တို့ချည်းပဲဆိုယင် ဒီလိုပဲဖြစ်ချင်တိုင်း ဖြစ်နေတာပဲ။ ဒီပြင်အထိန်းတော်တွေကတော့ နင်တို့ကို ဘာမှမပြောရဲလို့ ကြည့်နေရတာ။ ဒါကို နင်တို့က လုပ်ချင်တိုင်း လုပ်နေကြတာပေါ့။ သခင်လေးဆိုတာကလဲ မပြောနဲ့တော့။ သူ့ ကို ကြည့် ရ တာ ဆယ်ပေပီးတိုင် ကျနေတာပဲ။ သူများတွေအပေါ်မှာတော့ အလင်းရောင် ပေးပါရဲ့။ သူ့ကိုယ်သူကျတော့ ဘာအလင်းရောင်မှ မရှိဘူး။ သူများတွေကျတော့ ညစ်ပတ်သလေး ဘာလေးနဲ့ သူကပြောပြီး သူ့ခန်းဆောင်ထဲက နင်တို့ကိုကျတော့ ဘာမှမပြောဘူး။ လုပ်ချင်ရာ လုပ်နေတာကိုလဲ ဒီအတိုင်းကြည့်နေတာပဲ။ တော်တော်သောက်ရှက်နည်းတဲ့ ကောင်မတွေ"

သူတို့ ဘယ်လိုနေနေ ပေါက်ယုသည် မည်သို့မျှပြောမည်မဟုတ်ကြောင်းကို အစေတော်များ ကောင်းကောင်းသိကြ၏။ အထိန်းတော်လီသည် သူ့အချိန်စေ့၍ အိမ်သို့ပြန်သွားလေပြီ။ ထို့ကြောင့် အထိန်းတော် လီကိုလည်း ကြောက်စရာမလိုတော့။ သို့ဖြင့် သူတို့သည် ခန်း

ဆောင်ထဲတွင် ဖြစ်ခင်တိုင်း ဖြစ်နေကြ၏။ ပေါက်ယု ဘယ်အချိန် အိပ်၍ ဘယ်အချိန်တွင် ထမင်းစားသည်ကို မေးသည့်အခါတွင်လည်း တစ်ယောက်တစ်ပေါက် ဖြေလျက်ရှိကြ၏။

"အဘွားကြီးက ရှည်ကိုရှည်တယ်"ဟု တစ်ယောက်က မကြား တကြား ပြော၏။

"ဟိုဟာက ဘာလဲ။ ဒိန်ခဲချိုလား၊ ငါ့ဆီကို ဘာဖြစ်လို့မပို့ကြ တာလဲ။ သခင်လေးက ဒါမျိုးကို ကြိုက်မှမကြိုက်တာ။ မှန်းမေ်း၊ ငါ မြည်းကြည့်စမ်းမယ်"ဟု ဆိုကာ အထိန်းတော်လီသည် အချိုခွက်ကို ကောက်၍စားနေ၏။

"မစားနဲ့လေ အထိန်းတော်ကြီးရဲ့၊ အဲဒါက မာလာဖို့ဆိုပြီး သခင်လေး ထမင်းချန်ထားတာ။ တော်တော်ကြာ ပြန်လာလို့မတွေ့ယင် ဒေါသကုမ္မာရမင်းသားက ဒေါ်တွေပွလို့ အားလုံး ပြေးပေါက်မှားနေ ဦးမယ်"ဟု အစေတော်တစ်ယောက်က ပြော၏။

အထိန်းတော်လီမှာ ရှက်လည်းရှက်၊ အနည်းငယ်လည်း စိတ်တို သွားသည့်အလျောက်

"မသိပါဘူးအေ၊ သူ့ဘာသာသူ ဘယ်သူ့ဖို့ချန်ချန်၊ သူ့ဒိန်ခဲ လေးတစ်ခွက်က ဘာများတန်ဖိုးရှိလို့လဲ။ ငါစားသွားတယ်လို့ပြောလိုက်။ ဒီလောက်ဟာကလေးများ ငါ့ကို တွန့်တိုနေရသေးသတဲ့လား။ ဒီထက် မက တန်တာတောင် ငါ့ကို ဘာသဝန်တိုစရာရှိသလဲ။ ဒီက ကောင်မတ သူ့ကို ကြီးပြင်းအောင် နို့တိုက်ကျွေးခဲ့ရတဲ့ကောင်မ။ ငါ့ထက်တော် မာလာဆိုတဲ့ကောင်မကို သဒ္ဓါသေးသတဲ့လား။ အခုတော့ ငါ့ကျေးဇူး တွေကို မေ့ပြီပေါ့။ သူ့ကို ငါ့နှလုံးသွေးက ညှစ်ထုတ်ခဲ့ရတဲ့ နို့ရည်နဲ့ ကြီးပြင်းအောင် မွေးခဲ့ရတာ။ သူက သူ့ဒိန်ခဲတစ်ခွက် သောက်တာနဲ့ စိတ်ဆိုးချင်ယင်လဲ ဆိုးပစေပေါ့အေ။ ပြောလိုက်၊ ငါ သောက်သွား တယ်လို့။ သူဘာလုပ်သလဲဆိုတာ ကြည့်ရဦးမှာပေါ့။ ညည်းတို့က မာ လာဆိုတဲ့ ကောင်မအတွက် ချန်ထားတာကိုများ အရေးလုပ်ပြီး ပြော





နေရသေးတယ်။ ဒီကောင်မက ဘာကောင်မ မို့လို့လဲ။ ကျွန်မစုတ်လို ကောင်မမျိုးများ စကားထဲထည့်ပြောလို့။ ဒီကောင်မလေးအကြောင်း ငါသိပါတယ်။ ငါ့လက်အောက်က ထွက်သွားတာတွေပါ"

ထိုသို့ ပြောဆိုပြီးနောက် အထိန်းတော်လီသည် ဒိန်ခွက်ကို အကုန်သောက်ချလိုက်၏။ အစေတော်တစ်ယောက်က လေပျော့ကလေး ဖြင့်

"မာလာတို့က အောက်တန်းစားကလာတော့ ဘာမှနားမလည် ဘူးလား အထိန်းတော်ကြီးရဲ့။ သခင်လေးကတော့ အထိန်းတော်ကြီး ကို ချစ်ရှာပါတယ်။ လက်ဆောင်တို့ ဘာတွဆိုယင်လဲ မကြာခဏ ပို့ပေးတတ်တယ် မဟုတ်လား။ အထိန်းတော်ကြီး သောက်သွားတယ် လို့ပြောယင် သခင်လေးက စိတ်ဆိုးမှာ မဟုတ်ပါဘူး"

"အမယ်လေး ငါ့ကို လော်ပြည်ထိုးမနေနဲ့။ သူ့ဘာသာသူ ဘယ်လိုနေနေ ငါ သောက်သွားတယ်လို့သာပြောလိုက်။ လက်ဖက် ရည်ကလေးတစ်ခွက်သောက်မိလို့ ကျင်စွေ့ဆိုတဲ့ကောင်မ အထုတ်ခံ လိုက်ရတာလဲ ငါသိတယ်။ ကောင်းပြီ။ မနက်ဖြန်ကျယင် ငါ လာခဲ့ မယ်။ ဒီတော့ သူတို့ပေးချင်တဲ့အပြစ် ပေးပေါ့အေ။ ကြည့်ရသေးတာ ပေါ့"

အထိန်းတော်လီသည် ဒေါကြီး မောကြီးနှင့် ပြောဆိုပြီးနောက် ပြန်ထွက်သွား၏။

ခဏကြာလျှင် ပေါက်ယုသည် အိမ်သို့ပြန်ရောက်လာကာ မဒလာ ကို ပြန်၍ အခေါ်ခိုင်းလိုက်၏။ အိပ်ရာပေါ်တွင် မလှုပ်မယှက်လှဲနေ သည့် အစေတော်ချင်ဝမ်းကို မြင်၏။

"ဘာဖြစ်လို့လဲ။ နေမကောင်းလို့လား။ ဖဲရှုံးလို့လား"

"မရှုံးဘူး သခင်လေးရဲ့၊ နိုင်တယ်။ စောစောက နိုင်နေတာ။ အထိန်းတော်ကြီးလီ ပေါက်လာပြီး ဆူပူသွားတာနဲ့ စိတ်ညစ်ပြီး ပြန် ရှုံးသွားတာ။ ခုတော့ စိတ်ကောက်နေလေရဲ့"

ချူဝမ်းက ပြော၏။

ပေါက်ယုက ပြုံးလိုက်ကာ

"အထိန်းတော်ကြီးလိ ပြောတာကိုတော့ ဗွေယူမနေပါနဲ့ဟာ။ သူက သူပြောချင်ရာ ပြောတာပဲ"

ထိုစဉ် မာလာပြန်ရောက်လာသဖြင့် ပေါက်ယုသည် မာလာနှင့် စကားပြောလျက်ရှိ၏။ မာလာက ပေါက်ယုအား မည်သည့်အချိန်တွင် ပြန်ရောက်၍ မည်သည့်နေရာတွင် ထမင်းစားခဲ့ကြောင်းကို မေးမြန်းပြီးနောက် သူ့အမေက အစေတော်များအား နှုတ်ဆက်လိုက်ကြောင်းကို ပြောပြလျက်ရှိလေ၏။ မာလာက အပြင်ထွက်လျှင် ဝတ်သည့် အဝတ်အစားများကို လဲလှယ်ပြီးနောက် ပြန်ဝင်လာစဉ် ပေါက်ယုသည် မာလာ့အတွက် ချန်ထားခဲ့သည့် ဒိန်ခဲခွက်ကိုယူလာရန် ပြောလိုက်၏။

"မရှိတော့ဘူး သခင်လေး၊ အထိန်းတော်ကြီးလိ အကုန်သောက်သွားပြီ"ဟု အစေတော်များက ပြောကြ၏။ ပေါက်ယုက တစ်စုံတစ်ရာ ပြောတော့မည်ပြုစဉ် မာလာက ပြုံးလိုက်လျက်

"ဩော် မာလာ့ဖို့ချန်ထားတာလား သခင်လေး၊ ကျေးဇူးပါပဲရှင်။ တစ်နေ့ကတွင် မာလာစားခဲ့သေးတယ်။ ဒါပေမယ့် မာလာနဲ့ မတည့်ဘူး သခင်လေးရဲ့။ အဲဒီ ဒိန်ချဉ်ကိုစားပြီး ဗိုက်နာနေလို့။ ခုတော့ အထိန်းတော်ကြီး စားသွားတယ်ဆိုတော့ အတော်ပဲပေါ့။ နို့မို့ယင် မာလာလဲ စားနိုင်မှာ မဟုတ်တော့ နှမြောစရာကြီး၊ အလကားဖြစ်ကုန်မှာ။ သစ်ချသီးလေးစားရယင်တော့ အကောင်းသား သခင်လေးရဲ့။ မာလာစားစေချင်တယ်ဆိုယင် သခင်လေး အခွံနွှာထားနှင့်လေ။ မာလာ သခင်လေးဖို့ အိပ်ရာသွားပြင်ချည်ဦးမယ်"

ပေါက်ယုသည် မာလာ့စကားကို အဟုတ်မှတ်ကာ မည်သို့မျှ ပြောဆိုခြင်းမပြုတော့ဘဲ မီးအိမ်အနီးတွင်ထိုင်၍ သစ်ချသီးများကို အခွံနွှာနေ၏။ ထိုအချိန်တွင် ခန်းဆောင်ထဲ၌ သူတို့နှစ်ယောက်တည်းသာ ကျန်ခဲ့သည့် အခါတွင် ပေါက်ယုက ပြုံးလိုက်လျက်

"ညနေက အင်္ကျီနီနဲ့ကောင်မလေးက ဘယ်သူလဲဟင်"

"မာလာ့အစ်မရဲ့ သမီးလေ။ မာလာနဲ့ဆိုယင် ညီအစ်မတစ်ဝမ်းကွဲပေါ့"





ပေါက်ယုက သက်ပြင်းချလိုက်၏။

"ဘာဖြစ်လို့ သက်ပြင်းချတာလဲ။ သခင်လေးစိတ်ထဲမှာ ဘယ်လိုဖြစ်နေတယ်ဆိုတာ မာလာသိတယ်နော်။ အင်္ကျီနီနဲ့ မတန်ဘူးလို့ ထင်လို့လား"

"မဟုတ်ရပါဘူးကွယ်။ ဒီလို မိန်းကလေးမျိုးမှာ အင်္ကျီနီနဲ့ မတန်ဘူးဆိုယင် ဘယ်မိန်းကလေးမျိုး တန်ဦးမှာလဲ။ ကောင်မလေးက ချစ်စရာကောင်းတယ်နော်။ ပေါက်ယုတို့စံအိမ်မှ လာနေနိုင်ယင် သိပ်ကောင်းမှာပဲ"

"ဩော် ကောင်းမှယ်ဟုတ်လား။ ဒီမှာလာပြီး ကျွန်ဖြစ်ရတာ ကောင်းတယ်လို့ သခင်လေးက ဆိုနိုင်တယ်ပေါ့"

ပေါက်ယုက ပြုံးလိုက်ရင်း

"ဒီလောက်လဲ စိတ်မတိုပါနဲ့ဦးလေ။ ပေါက်ယုတို့အိမ်မှာ လာနေသူတိုင်းဟာ ကျွန်ဖြစ်မှ နေရတာ မဟုတ်ပါဘူး။ ပေါက်ယုတို့ အမျိုးထဲကို ရောက်လာယင်ကော မဖြစ်နိုင်တော့ဘူးတဲ့လား"

"မာလာတို့က သခင်လေးတို့အမျိုးထဲကို ဘယ့်နှယ်လုပ်ရောက်နိုင်မှာလဲ သခင်လေးရယ်။ မာလာတို့အမျိုးက အောက်တန်းစားအမျိုးတွေပဲဟာ"

ပေါက်ယုသည် ဘာမျှမပြောတော့ဘဲ သစ်ချသီးများကို အခွံနွှာလျက်ရှိ၏။ မာလာက ရယ်လိုက်ရာမှ

"မဟုတ်ဘူးလား၊ ပြောလေ။ ဒီလိုပြောလိုက်လို့ သခင်လေး စိတ်ထိခိုက်သွားသလား။ ရပါတယ် သခင်လေးရယ်။ သခင်လေး ဒီလောက်တောင် လိုချင်တယ်ဆိုယင် မနက်ဖြန်ကျယင် သူ့ကိုငွေစကလေး နည်းနည်းပေးပြီး ဝယ်လိုက်ယင် ရပါတယ်"

"ပေါက်ယုက ဒီလိုပြောတာ မဟုတ်ပါဘူးကွယ်။ ပေါက်ယုပြောတာက မနေ့ကတွေ့ခဲ့တဲ့ မိန်းကလေးဟာ ဒီစံအိမ်ကြီးမှာ မွေးတဲ့ မိန်းကလေး တစ်ယောက်နဲ့ တူတယ်လို့ ပြောတာပါ။ သူ့အသွေးအမွေးက ဒီစံအိမ်မှာရှိတဲ့ တချို့ လူတွေထက်တောင် ပြောင်လက်နေသေးတယ်"

"သခင်လေးတို့လို ရွှေဘုံပေါ်မှာတော့ မနေရ ရှာ ဘူး ပေါ့။ ဒါပေမယ့် သူ့မိဘတွေက သူ့ကိုသိပ်ချစ်ကြတာ။ အသည်းစွဲ ဆိုပါတော့။ ခုဆိုယင် ဆယ့်ခုနစ်နှစ်ပြည့်တော့မယ်။ စေ့စပ်ပြီးပြီ။ နောင်နှစ်ဆိုယင် လက်ထပ်တော့မှာ"

လက်ထပ်တော့မည် ဆိုသည့် စကားကြောင့် ပေါက်ယုသည် အကြီးအကျယ် စိတ်ပျက်သွားကာ ငြိမ်သက်သွား၏။

မာလာက သက်ပြင်းချလိုက်လျက်

"မာလာ ဒီစံအိမ်ကြီးကိုရောက်ကတည်းကညီအစ်မဝမ်းကွဲတွေနဲ့ သိပ်မတွေ့ဖြစ်တော့ဘူး။ မကြာခင် မာလာ အိမ်ပြန်ရောက်သွားယင်လဲ သူတို့က ရှိကြတော့မှာ မဟုတ်တော့ဘူး"

ပေါက်ယုသည် မာလာ့စကားကြောင့် အလန့်တကြားဖြစ်သွားကာ သစ်ချသီးကို လက်မှလွှတ်ချလိုက်လျက်

"ဘာဖြစ်တယ်၊ မာလာ အိမ်ကို ပြန်တော့မယ် ဟုတ်လား"

"ဒီနေ့ပဲ မာလာ့အမေနဲ့ အစ်ကိုတို့ တိုင်ပင်နေသံကို မာလာကြားခဲ့ရတယ်။ သူတို့က မာလာ့ကို ဒီစံအိမ်မှာ တစ်နှစ်လောက် အောင့်အည်း သည်းခံ နေပါဦးတဲ့။ နောက် တစ်နှစ်လောက် ဆိုယင် မာလာ့ကို ပြန်ရွေးနိုင်တော့မှာပါတဲ့"

"ဟင် ဘာဖြစ်လို့ ပြန်ရွေးမှာတဲ့လဲ"ဟု ပေါက်ယုက အလန့်တကြားမေး၏။

"ဩော် မေးမှမေးရက်ပလေ သခင်လေးရယ်။ မာလာဟာ သခင်လေးတို့ အိမ်ကောင်စုထဲမှာ တစ်သက်လုံးကျွန်ခံဖို့ မွေးလာတာမှ မဟုတ်ဘဲ သခင်လေးရဲ့။ မာလာ့မှာလဲ အပြင်မှာ ဆွေမျိုးသားချင်းတွေ ရှိသေးတာပေါ့။ သခင်လေးတို့အိမ်ကြီးထဲမှာ မာလာ တစ်သက်လုံး ဘယ့်နှယ်လုပ် နေသွားနိုင်ပါ့မလဲ။ ဒီလိုနဲ့ မာလာ့ဘဝ အညွန့်တုံးတော့မှာလား"

"တကယ်လို့ ပေါက်ယုတို့က သွားခွင့်မပြုဘူး ဆိုယင်ကော"





"ဒီလိုတော့လဲ ဘယ်ဖြစ်မလဲ သခင်လေးရယ်။ ရွှေနန်းတော်ကြီးထဲမှာတောင် အပျိုတော်တို့၊ ရံရွှေတော်တို့ကို နှစ်တိုင်း လူသစ်ရွေးရသေးတာပဲ။ လူဟောင်းချည်းထားလို့ ဘယ်ဖြစ်ပါ့မလဲ။ ဒီတော့ သခင်လေးတို့လဲ ဘယ်မှာထားနိုင်ပါ့မလဲ"

စဉ်းစားကြည့်လိုက်သည့် အခါတွင် မာလာ့စကားသည် အမှန်ဖြစ်သည်ကို တွေ့ရလေ၏။ သို့ရာတွင် ပေါက်ယုက မကျေနပ်နိုင်သေးဘဲ

"တကယ်လို့ မယ်မယ်က ပြန်ခွင့်မပြုဘူးဆိုယင်ကော"

"မယ်မယ်ကလဲ ဘာဖြစ်လို့ ပြန်ခွင့်မပြုရမှာလဲ။ တကယ်လို့ မာလာက သူများထက် အစစအရာရာသာလို့ သူတို့က မာလာကို သိပ်သဘောကျသွားတယ်ဆိုယင် မယ်မယ်တို့၊ သခင်မဝမ်တို့မှာလဲ မာလာ မရှိယင် မဖြစ်သလောက် ဖြစ်နေတယ် ဆိုယင်တော့ မာလာ့ကို ငွေစနောက်ထပ်နည်းနည်းပေးပြီး ထပ်ဝယ်မှာပေါ့။ ဒါပေမယ့် မာလာက သူများထက် ဘာသာတာမှတ်လို့။ သူလို ကိုယ်လိုပဲ ဥစ္စာ။ ဘယ်မှာ ပိုပေးပါ့မလဲ။ မာလာထက် သာတာတွေ ပြည့်လို့။ ဒီစံအိမ်ကြီးကို မာလာရောက်လာတုန်းက ငယ်ငယ်ကလေးပဲရှိသေးတယ်။ အဲဒီတုန်းက မယ်မယ်နဲ့နေရတယ်။ ပြီးတော့ သခင်မဝမ်အနားမှာနေရတယ်။ သခင်လေးအနားမှာ နေရတယ်။ တကယ်လို့သာ မာလာ့ မိဘ ဆွေမျိုးများက မာလာကို လာရွေးကြတယ်ဆိုယင် သခင်လေးတို့ စံအိမ်က လူကြီးတွေကလဲ ပြန်လွှတ်ရတော့မှာပေါ့။ ပြန်ရွေးတဲ့ပိုက်ဆံကိုတောင် လက်မခံဘဲ ဒီအတိုင်း ပြန်လွှတ်ချင်လွှတ်လိုက်လိမ့်ဦးမယ်။ မာလာဟာ သခင်လေးကို ကောင်းကောင်း ပြုစုတယ်လို့ သခင်လေးထင်ယင်ပဲ အတွက် မာလာ့ကို အထူး ကျေးဇူးတင်စရာ မလိုပါဘူး။ ဒါဟာ မာလာ့ အလုပ်ပဲ မဟုတ်လား။ နောက်ကျယင် မာလာ့လိုပဲ သခင်လေးအပါးမှာ ပြုစုဖို့ မိန်းကလေးတစ်ယောက် ရောက်လာဦးမှာပေါ့။ မာလာရှိမှဖြစ်မှာ မဟုတ်ပါဘူး။ မရှိလဲဖြစ်ပါတယ်"

မာလာ့ဘက်မှ ကြည့်လျှင် မိမိတို့ စံအိမ်ကြီးတွင် နေစရာ အကြောင်းမရှိတော့ကြောင်း၊ မာလာသည် သူပြောသည့်အတိုင်းတကယ်ပင် အိမ်ပြန်တော့မည်ဖြစ်ကြောင်းကို ပေါက်ယု ကောင်းစွာ သဘောပေါက်လိုက်လေပြီ။ သို့တိုင်အောင် ပေါက်ယုက အတင်းအကျပ်ဖြင့်

"မရဘူးကွာ၊ မာလာကိုမလွှတ်ဘူး။ မာလာ့အမေကို ပိုက်ဆံတွေ တောင်းသလောက် ပေးလိုက်စမ်းပါလို့ မယ်မယ့်ကို ပေါက်ယုပူဆာမယ်။ မရ ရအောင်ပြောမယ်"

"မယ်မယ်က အတင်းပြောယင်တော့ မာလာ့အမေနဲ့ ငြင်းရမှာ မဟုတ်ဘူးပေါ့လေ။ ပိုက်ဆံ တစ်ပြားမှမပေးတဲ့ အော်ဒေါက် လွှတ်လိုက်ယင်လဲ ခံရမှာပါပဲ။ ဘာမှပြောမှာ မဟုတ်ပါဘူး။ သခင်လေးတို့က ဒီမှာဆက်ထားမယ်ဆိုယင် အမေ ဘာပြောရမှာလဲ။ ဒါပေမယ့် သခင်လေးတို့ မိသားစုဟာ ဒီလိုကိစ္စမျိုးမှာ ဘယ်တော့မှအတင်းအကျပ် မလုပ်ဘူး။ ကိုယ်ကြိုက်တဲ့ပစ္စည်းမို့လို့ တန်ဖိုးထက် ဆယ်ဆပေးမယ်ဆိုလို့လဲ ဖြစ်တဲ့ကိစ္စမျိုး မဟုတ်ဘူးလေ။ ကာယကံရှင်က သူရောင်းချင်မှဖြစ်တာကိုး။ ပြီးတော့ ဒီမှာ အကြောင်းကိစ္စမရှိဘဲနဲ့ မာလာကို ဆက်ထားဦးမယ်ဆိုယင်လဲ သခင်လေးတို့အတွက်လဲ မကောင်းဘူး။ မာလာ့မိသားစုမှာလဲ ဖရိုဖရဲဖြစ်မယ်။ မယ်မယ်နဲ့ သခင်မကြီးဝမ်တို့ဟာ ဘယ်တော့မှ ဒီလိုအဖြစ်မျိုးကို အဖြစ်ခံမှာမဟုတ်ဘူး"

ပေါက်ယုသည် ဘာမျှမပြောဘဲ အတန်ကြာမျှ တိတ်ဆိတ်စွာ စဉ်းစားလျက်ရှိ၏။

"ဒါဖြင့်ယင် ဘယ်လိုပဲဖြစ်ဖြစ် မာလာ အိမ်ကို ပြန်တော့မယ်ပေါ့"

"ဟုတ်တယ်"

"မာလာဟာ တော်တော်ရက်စက်နိုင်တယ်နော်" ဟု စိတ်ထဲတွင် တွေးနေမိလေ၏။ ထို့နောက် သက်ပြင်းကြီးတစ်ချက်ကို ချလိုက်ကာ





"တကယ်လို့သာ မာလာဟာ တစ်နေ့မှာ အိမ်ကိုပြန်သွားမယ်မှန်းသိယင် မာလာနဲ့ ဒီလို ရင်းရင်းနှီးနှီး နေခဲ့မိမှာ မဟုတ်ဘူး။ ခုတော့ ပေါက်ယုမှာ တစ်ယောက်တည်း ကျန်ရစ်ခဲ့တော့မှာ" ဟု ပြောကာ စိတ်မကြည်မသာဖြင့် အိပ်ရာသို့ ဝင်ခဲ့လေ၏။

ထိုအချိန်မှစ၍ မာလာသည် အိမ်သို့ပြန်ရောက်၍ သူ့အစ်ကို ပြန်ရွေးရန် သူ့အမေနှင့် အစ်ကိုတို့ ပြောနေသံကို ကြားသည့်အခါတိုင်း ပေါက်ယုရှိနေသမျှ သူ့ကို ပြန်လွှတ်မည် မဟုတ်ကြောင်းဖြင့် ပြောပြ၏။

"အမေတို့မှာ စားရမဲ့ သောက်ရမဲ့ဖြစ်ပြီး ကျွန်မကိုရောင်းမှ ပြိုးပြိုးပြက်ပြက်ကလေး ရမယ်ဆိုယင်တော့ ကျွန်မ ဘာမှမပြောလိုပါဘူး။ အမေတို့ ရွေးယူချင်ယူပေါ့။ ဘယ်သမီးဖြစ်ဖြစ် ကိုယ့်မိဘ ငတ်သေမှာကိုတော့ မကြည့်ရက်ပါဘူး။ ကျွန်မကို ဒီစံအိမ်ကြီးက ဝယ်သွားတာဟာ ကျွန်မဖို့တော့ ကံကောင်းတယ်လို့ ဆိုရမှာပဲ။ အဲဒီရောက်တော့ ကျွန်မမှာ ကောင်းကောင်းစားရတယ်။ အိမ်သူအိမ်သားလို သမီးတစ်ယောက်လို ကောင်းကောင်းဝတ်ရတယ်။ တစ်နေ့လုံး အရိုက်ခံရပြီး တစ်ညလုံး အဆဲအဆိုခံရတဲ့ ဘဝမျိုးနဲ့ မကြုံရဘူး။ ပြီးတော့ အမေတို့ကြည့်လိုက်ယင်လဲ အဖေမရှိတော့သည့်တိုင် အမေတို့မှာ ကိုယ့်ခြေထောက်ပေါ်မှာ ကိုယ်ရပ်နိုင်ပြီး ဓါတိုင်းလိုပဲ ချောင်ချောင်လည်လည်ရှိနေပြီ။ အမေတို့မှာ ကျပ်တည်းနေတယ်ဆိုယင်တော့ ကျွန်မ ဘာမှမပြောလိုပါဘူး။ ကျွန်မကို ပြန်ရွေးပြီး အမြတ်ရတဲ့နေရာမှာ ရောင်းနိုင်ပါတယ်။ ဒါပေမယ့် အမေတို့မှာ ကျပ်ကျပ်တည်းတည်းမှ မဟုတ်တာ။ ဘာဖြစ်လို့ ပြန်ရွေးပြီး ရောင်းနေဦးမှာလဲ။ ဒီတော့ အမေတို့ ကျွန်မကို ပြန်ရွေးဖို့ စိတ်ကူးမနေပါနဲ့တော့။ ကျွန်မ သေပြီလို့ပဲ အောက်မေ့လိုက်ပါတော့"

မာလာသည် ရှိုက်ကြီးတငင်ငိုကြွေးကာ စိတ်ထဲတွင်ရှိသမျှကို ဖွင့်အန်ချလိုက်၏။ မာလာ၏စကားများကို ကြားသည့်အခါ၌ မာလာသည် ထိုစံအိမ်ကြီးမှ ဘယ်တော့မျှ ပြန်ထွက်မည် မဟုတ်ကြောင်းကို

အမေနှင့် အစ်ကိုတို့ ရိပ်မိလိုက်လေပြီ။ စင်စစ်တွင် သူတို့သည် မာလာကို အပြီးအပိုင် ရောင်းခဲ့ကြခြင်းဖြစ်၏။ အကယ်၍ မြန်ရွေးသည်ဆိုလျှင် ကျိမိသားစုများသည် မာလာကို အဖိုးအခမယူတော့ဘဲ ပြန်လွှတ်လိုက်မည်ဖြစ်ကြောင်းကို သူတို့သိ၏။ သို့ရာတွင် ကျိမိသားစုမှ အစေတော်များသည် အခွင့်အရေး အများကြီးရကာ သခင်များကလည်း နိုင်ထက်ကလူ မပြုကြဘဲ ကြင်ကြင်နာနာ ဆက်ဆံကြသည်ကိုလည်း သူတို့ကောင်းကောင်းသိကြ၏။ ကျိမိသားစု၏ စံအိမ်သို့ရောက်သည့် အစေတော်မှန်သမျှသည် ကြီးသည်ငယ်သည်မဟူ အခြားသောစံအိမ်များမှ အစေတော်များထက် မျက်နှာသာရကြောင်းကိုလည်း ကောင်းကောင်းသိကြ၏။ အမှန်အားဖြင့်ဆိုလျှင် ထိုစံအိမ်ကြီးမှ အစေတော်များသည် အခြား လက်လုပ်လက်စား ဆင်းရဲသားများ၏ သားသမီးများထက် အဆများစွာ သာကြ၏။ ထို့ကြောင့် မာလာ၏ အမေနှင့် အစ်ကိုတို့သည် ပြန်ရွေးရန်ကိစ္စကို အတင်းအကျပ် မပြောကြတော့ချေ။

ပေါက်ယု သူတို့အိမ်သို့ အမှတ်မထင် အလည်ရောက်လာပုံ၊ သခင်နှင့် အစေတော်ကြားတွင် ရင်းနှီးကျွမ်းဝင်ဟန်ရှိပုံတို့ကို မြင်လိုက်သည့်အခါတွင် သူတို့လည်း အမြင်တစ်မျိုးပြောင်းသွားကြကာ စိတ်ချသွားကြ၏။ ပေါက်ယုနှင့် မာလာတို့၏ ဆက်ဆံရေးမှာ သူတို့ မျှော်လင့်သည်ထက် ရင်းနှီးနေကြောင်းကို တွေ့ရ၏။ သို့ဖြင့် နောက်ဆုံးတွင် မာလာတို့အမေနှင့် အစ်ကိုသည် မာလာအား ပြန်ရွေးရန်အကြံကို စွန့်လွှတ်လိုက်ကြလေ၏။

မာလာအနေဖြင့် ကြည့်လျှင်လည်း ပေါက်ယုသည် သာမန်ိလူငယ်တစ်ဦးနှင့်မတူဘဲ ထက်ထက်မြက်မြက်ရှိရုံမက လုပ်မိလျှင် တစ်ဇွတ်ထိုးလုပ်တတ်ကြောင်း၊ ထင်မိပြီဆိုလျှင် စိုက်လိုက်မတ်တတ် ဖြစ်စေတတ်ကြောင်းကို ထိုစံအိမ်ကြီးတွင် နေထိုင်ခဲ့သည့် ကာလတစ်လျှောက်တွင် တွေ့ခဲ့ရပြီးဖြစ်၏။ ယခုတလောတွင်မူကား မယ်မယ်ကိုယ်တိုင်က အလိုလိုက်ထားသည့်အတွက် သူ့မိဘများမှာ ပေါက်ယုကို ထိန်း၍မရတော့ဘဲ ထုံးတမ်းစဉ်လာ စသည်တို့ကို လျစ်လျူပြုကာ ထင်မိထင်ရာကို လုပ်





တတ်လျက်ရှိ၏။ ထို့ကြောင့် ပေါက်ယုကို လူကြီးမိဘစကား နားထောင်ရန် ပြောချင်နေသည်မှာ ကြာခဲ့လေပြီ။ သို့ရာတွင် သူ့စကားကို နားထောင်မည် မဟုတ်သည့်အတွက် မပြောဖြစ်ခဲ့ချေ။

တစ်နေ့တွင်မူ အခွင့်ကြုံလာသဖြင့် သူ့သဘောကို တီးခေါက်ကြည့်ကာ သူ့စိတ်ထဲတွင် ရှိသည်တို့ကို ပြောလိုက်ရလေပြီ။ အိပ်ရာသို့ တိတ်ဆိတ်စွာ ဝင်သွားသည်ကိုတောက်လျှင် ပေါက်ယုသည် သူ့စကားများကို နားဝင်သွားကာ စိတ်ထိခိုက်သွားကြောင်း သိလိုက်ရလေပြီ။

တစ်ခါက လက်ဖက်ရည်ကို ယူသောက်မိသဖြင့် ကျင်စွေ့အား အလုပ်မှ ထုတ်ပစ်ခဲ့ဖူးရာ ယခုလည်း ဒိန်ချဉ်ကိစ္စကြောင့် မလိုလားအပ်သော အဖြစ်အပျက်တို့ ပေါ်ပေါက်မည်စိုးသည့်အတွက် သစ်ချသီးများကို တမင်အန္တာခိုင်းကာ ပေါက်ယု မေ့မေ့ပျောက်ပျောက် ဖြစ်သွားအောင် လုပ်ခဲ့ခြင်းဖြစ်၏။

ထို့ကြောင့် မာလာသည် သစ်ချသီးများကို အခြားအစေတော်များကို ပေးခဲ့ပြီး ပေါက်ယုအနီးသို့လာကာ ပေါက်ယုကို ချော့နေ၏။ ပေါက်ယု၏ပါးပြင်တွင် မျက်ရည်တွေ ရွှဲနေသည်ကို မြင်ရ၏။

"ဘာဖြစ်လို့ ငိုနေရပြန်တာလဲ သခင်လေးရယ်။ ကဲ တိတ်ပါတော့၊ သခင်လေးက မသွားစေချင်ယင် မာလာ မသွားတော့ပါဘူး"

ပေါက်ယုက မာလာ၏သဘောကို ချက်ချင်း ရိပ်မိလိုက်ကာ

"ကဲ ဒါဖြင့် ပေါက်ယုကိုပြော။ ဒီအိမ်မှာ မာလာ ဆက်နေရအောင် ပေါက်ယု ဘာလုပ်ပေးရမလဲ။ ပေါက်ယုကလဲ မာလာကို ကိုယ့်ဘက်ပါလာအောင် မပြောတတ်တော့ ခက်တာပဲ"

"မာလာတို့ ပေါက်ယုတို့ ကိစ္စကိုတော့ ထားပါတော့။ ဒါပေမယ့် ဒီမှာ မာလာ ဆက်နေရေး မနေရေးကိစ္စကို ပြောချင်တယ်။ မာလာ ဒီမှာဆက်နေချင်ယင် သခင်လေးဆီက တောင်းဆိုချင်တာ နှစ်ချက် သုံးချက်တော့ ရှိတယ်။ အဲဒီ အချက်တွေကို လိုက်လျောမယ်ဆိုယင်တော့ မာလာ ဒီမှာဆက်နေစေချင်သေးလို့ပဲ ဖြစ်

မှာပဲ။ အဲဒီအချက်တွေကိုသာ သခင်လေးလိုက်လျှောမယ်ဆိုယင်တော့ မာလာ့လည်ပင်းကို ဓားဟင်ပြီး ဒီအိမ်က အထွက်ခိုင်းတောင်မှ မာလာ မှသွားဘူး”

ပေါက်ယု၏မျက်နှာသည် လင်းထိန်သွား၏။

“ကဲ ဒါဖြင့်ယင်ပြော။ မာလာ့တောင်းဆိုချက်တွေက ဘာတွေလဲ။ မာလာတောင်းဆိုချက်တွေကို ပေါက်ယုလိုက်လျှောမယ်။ သုံးချက်မပြောနဲ့။ အချက်သုံးရာ တောင်းမလား။ လိုက်လျှောမယ်။ ပေါက်ယု လိုချင်တာကတော့ တစ်ချက်တည်းပဲ။ ပေါက်ယု သေ သည် အ ထိ ပေါက်ယုဟာ သေလို့ ပြာမှုန့်လေးတွေ ဖြစ်သွားတဲ့အထိ မာလာ ပေါက်ယုအနားမှာ နေရမယ်။ ပေါက်ယုကို စောင့်ရှောက်ပြုစုရမယ်။ အို ပြာမှုန့်လေးတွေ မဟုတ်ပါဘူးလေ။ ပြာမှုန့်ဆိုတာ ကိုင်လို့ဆုပ်လို့ ရသေးတယ်။ ကိုင်လို့ဆုပ်လို့မရတော့ဘဲ သေတဲ့အခါမှာ ပေါက်ယုရဲ့ ခန္ဓာကိုမီးရှို့ကြတော့ အဲဒီပြာမှုန့်တွေတောင် မကျန်တော့ဘဲ မီးခိုးတန်း ကလေးတွေ ဖြစ်သွားသည်အထိ ပေါက်ယုအနားမှာ နေစေချင်တာ တစ်ခုပဲရှိတယ်။ အဲဒီလို ပေါက်ယုရဲ့ခန္ဓာကိုယ်ဟာ မီးခိုးတန်းကလေး တွေဖြစ်ပြီး လေမှာလွင့်သွားပြီဆိုတဲ့အခါကျတော့မှ မာလာ သွားချင်ရာကို သွားတော့။ ပေါက်ယုကို ပြုစုစောင့်ရှောက်ဖို့ မလိုတော့ဘူး။ အဲဒီအခါကျတော့ မာလာကြိုက်ရာကို သွားပေတော့။ ပေါက်ယု မတားတော့ဘူး”

မာလာက ပေါက်ယု၏ပါးစပ်ကို လှမ်းပိတ်လိုက်ပြီး

“တော်ပါကွယ်။ ဒါတွေမပြောပါနဲ့တော့။ နမိတ်မရှိနမာမရှိ။ အဲဒါကြောင့် ခက်တာပေါ့။ မာလာက သခင်လေး စကားပြောတာ ဆိုတာတွေက အလွန်အကျွံတွေ ဖြစ်တတ်လွန်းလို့ သတိပေးသလိုလုပ်နေမှ ခု ဒီစကားမျိုးတွေကို ပြောနေပြန်ပြီ။ သိပ်စိတ်ညစ်တာပဲ”

“ကောင်းပြီ။ ဒါဖြင့် နောက်ကျယင် ဒီလိုစကားမပြောတော့ဘူး။ ကတိပေးတယ်”

“ဒီတော့ သခင်လေး ပထမဆုံးပြင်ရမယ့် အချက်က နောင်ကို စကားအပြောအဆို ဆင်ခြင်ပါ”





“ကဲ ပေးတယ်။ နောက်တစ်ခါ ဒီလိုစကားမျိုး အပြောအဆို မဆင်ခြင်ယင် ပေါက်ယုနှုတ်ခမ်းကို အပ်နဲ့ပေါက်ပစ်။ ပြီးတော့ကော”

“ဒုတိယအချက်ကတော့ ဒီလို။ ခု သခင်လေးဟာ ပျော်သည် ဖြစ်စေ၊ မပျော်သည်ဖြစ်စေ၊ ကြိုက်သည်ဖြစ်စေ၊ မကြိုက်သည်ဖြစ်စေ စာပေတွေကို လေ့လာသင်ကြားနေရတယ်။ ဒီတော့ စာပေတွေကို မလေ့လာသင်ကြားဖို့ မလိုဘူး ဘာဘူးဆိုတဲ့ စကားမျိုးကို သခင်ကြီး ကျိချိန်ရှေ့မှာရော တခြားလူတွေရှေ့မှာရော သိပ်မပြောပါနဲ့။ စာမသင် ချင်ယင်တောင်မှ စာပေကို ကြိုးစားပြီး သင်ချင်ယောင် ဆောင်ပါ။ ဒါမှ သခင်ကြီး စိတ်ချမ်းသာမယ်။ သခင်လေးအကြောင်းကို လူတွေ ရှေ့မှာ အကောင်းပြောမယ်။ သခင်ကြီးထင်နေတာက သူတို့မိသားစုဟာ ဆွေစဉ်မျိုးဆက် ပညာတတ်တွေချည်းပဲ ပေါ်ထွက်ခဲ့တယ်။ ခုတော့ ဒီသားကြောင့် သူ အရှက်ကွဲတော့မယ်၊ စိတ်ညစ်ရတော့မယ်လို့ ထင် နေတယ်။ ဒီသားဟာ စာပေကျမ်းဂန်တွေကိုလဲ အရေးမထားဘူး။ ဒါတွင်မကဘူး၊ လူရှေ့သူရှေ့မရှောင် ပြောချင်ရာကို စွတ်ပြောတယ်။ စာပေကျမ်းဂန်ကို လေ့လာတဲ့လူတွေကို အရူးတွေ၊ ကိုယ်ကျိုးရှာသမား တွေ၊ ရာထူးအခွင့်အရေးလိုချင်လို့ လုပ်နေတဲ့လူတွေလို့ ပြောတယ်။ ဒါကို သခင်ကြီးမကြိုက်ဘူး။ ဒါတွင် မကသေးဘူး။ ကွန်ဖြူဇီရေးတဲ့ ‘မဟာပညာဋီကာကျမ်း’က လွဲယင် ကျန်တဲ့ စာပေကျမ်းဂန်တွေဟာ အလကားစာတွေချည်းပဲလို့ သခင်လေးလျှောက်ပြောနေတယ်။ ကျန်တဲ့ ကျမ်းဂန်တွေဟာ ကွန်ဖြူဇီကိုနားမလည်ဘဲ အရူးတွေ၊ လူမိုက်တွေက ရေးထားတာတွေလို့ ပြောနေတယ်။ ဒီတော့ သခင်ကြီးက သခင်လေးကို စိတ်မဆိုးဘဲ ဘယ်နေပါတော့မလဲ။ ဒါကြောင့် သခင်လေးမှာ ခဏခဏ အပြစ်ပေးခံနေရတာပေါ့။ ဒီတော့ ဒီလိုဖြစ်ရတာဟာ လူ မြင် လို့ မကောင်းဘူး”

ပေါက်ယုက ရယ်လိုက်လျက်

“ဟုတ်ပါတယ်။ အဲဒီတုန်းကတော့ ပေါက်ယုက ငယ်လဲငယ် သေးတော့ ပြောချင်ရာကို စွတ်ပြောတာကိုး။ ခုကြီးလာမှတော့ ဒီစကား

မျိုးတွေ သိပ်မပြောတော့ပါဘူး။ ဆိုပါဦး။ နောက်တောင်းဆိုချက်ကရော”

“နောက်တစ်ခုက ဘာသာတရားကို ကိုင်းရှိုင်းရမယ်။ ဘာသာတရားနဲ့ပတ်သက်လို့ ဂိုဏ်းမလွတ်တဲ့စကားတွေကို မပြောရဘူး။ ပြီးတော့ တခြားမိန်းကလေးတွေနဲ့ သိပ်မရောရဘူး။ အဆိုးဆုံးကတော့ မိန်းကလေးတွေရဲ့ နှုတ်ခမ်းပေါ်က ဆေးနီတွေကို မနမ်းရဘူး။ သခင်လေးဟာ ဘာဖြစ်လို့မှန်း မသိဘူး။ အနီရောင်ဆိုယင် အရူးအမူး ဆိပ်ဖြစ်တာပဲ။ ဒီတော့ ဒါတွေကို ရပ်ရမယ်”

“အင်း ပြီးတော့ကော။ ကဲ ပြောစမ်းပါ၊ မြန်မြန်’

“ဒီလောက်ပါပဲ။ အထူးပြောချင်တာကတော့ ဘာကိုပဲဖြစ်ဖြစ် သတိထားပါ။ ဂရုစိုက်ပါ။ စိတ်ကူးပေါက်တိုင်း စိတ်ထင်တိုင်း ကောက်မလုပ်ပါနဲ့။ စဉ်းစားပြီးမှလုပ်ပါ။ စိတ်အလိုကို မလိုက်ပါနဲ့။ မာလာပြောတာတွေကို လိုက်နာမယ်ဆိုယင် မာလာ ဘယ်တော့မှ သခင်လေးအပါးက မခွာဘူး။ အမြဲရှိမယ်။ တတ်နိုင်လို့ လူရှစ်ယောက်ထမ်းတဲ့ ရွှေဒဝါနဲ့ လာခေါ်ဦး၊ ဘယ်တော့မှ မသွားဘူး”

ပေါက်ယုက တခစ်ခစ်ရယ်လိုက်လျက်

“ဒီစံအိမ်မှာ ကြာကြာနေယင်လဲ တစ်နေ့မှာ လူရှစ်ယောက်ထမ်းတဲ့ ရွှေဝေါကြီးကို စီးရမှာပါ”

မာလာက မဲ့ရွဲ့၍ ပြုံးလိုက်ရင်း

“အမယ်လေး၊ ဒီလောက်လဲ မမျှော်မှန်းပါဘူး။ ကိုယ်နဲ့မထိုက်တာကိုလဲ မစီးချင်ပါဘူး”

ထိုအခိုက်တွင် အစေတော်တစ်ယောက်ဖြစ်သည့် ချူဝမ်းရောက်လာကာ

“ညဥ့်နက်လှပြီ။ မအိပ်ကြသေးဘူးလား။ ခုတွင် မယ်မယ်က လူလွှတ်ပြီး အမေးခိုင်းလိုက်တယ်။ သခင်လေးတော့ အိပ်နေပြီလို့ပြောလိုက်တယ်”





ပေါက်ယုက နာရီကို တောင်း၍ကြည့်လိုက်သည့် အခါတွင် ညဆယ့်နှစ်ချက်တီး ထိုးနေကြောင်းကိုတွေ့ရ၏။ ပေါက်ယုသည် ပလုတ်ကျင်း၍ ကိုယ်လက်သန့်စင်ပြီးနောက် အဝတ်အစားလဲကာ အိပ်ရာသို့ ဝင်လေ၏။

နောက်တစ်နေ့မနက် မာလာ အိပ်ရာမှနိုးလာသည့် အခါတွင် တစ်ကိုယ်လုံး လေးလျက်ရှိကာ မအီမသာဖြစ်လျက်ရှိသည်ကို တွေ့ရ၏။ ခေါင်းက တစစ်စစ်ကိုက်ခဲလျက်ရှိပြီး မျက်လုံးများကလည်း ပူလောင်လျက်ရှိရာ တစ်ကိုယ်လုံး ခြစ်ခြစ်တောက်လျက်ရှိလေ၏။ အစတွင်ထုံးစံအတိုင်း လုပ်စရာရှိသည်တို့ကို ကြိုးစား၍ လုပ်သည့်တိုင် ဆက်မလုပ်နိုင်တော့သဖြင့် ခုတင်မီးဖိုပေါ်တွင် အသာလှဲနေရ၏။ ပေါက်ယုက မယ်မယ်ကို သွားပြောသည့်အတွက် သမားတော် တစ်ယောက်ကို ချက်ချင်းအပင့်ခိုင်းကာ လူနာကိုပြလေ၏။

“ကိစ္စမရှိပါဘူး။ အအေးမိတာပါ။ ဆေးနည်းနည်းသောက်လိုက်ယင် အစာလဲ ကြေသွားမှာပါ။ အဖျားလဲ ပျောက်သွားမှာပါ”

သမားတော်သည် ဆေးညွှန်းကိုရေးပေးပြီးနောက် ပြန်ကြွသွားလေ၏။ ဆေးတိုက်ပြီးနောက် ပေါက်ယုသည် ချွေးထွက်အောင်ဟုဆိုကာ မာလာတစ်ကိုယ်လုံးကို စောင်ဖြင့် ခြုံပေးခဲ့ပြီးနောက် ထိုက်ယုတို့၏ ခန်းဆောင်ဘက်သို့ ထွက်လာခဲ့လေ၏။

ထိုက်ယုမှာ နေ့လယ်နေ့ခင်း တစ်ရေးအိပ်လျက်ရှိပြီး အစေတော်များမှာလည်း ကိုယ့်အလုပ်နှင့်ကိုယ် မအားလပ်အောင် ရှိနေကြသဖြင့် ထိုက်ယု၏ ခန်းဆောင်ထဲတွင် လူသူရှင်းလျက် ရှိလေ၏။ ပေါက်ယုသည် ရွှေချည်ထိုး ကန့်လန့်ကာကိုလှပ်၍ ခန်းဆောင်သို့ဝင်လာသည်တွင် အိပ်ပျော်နေသော ထိုက်ယုကို တွေ့ရ၏။

ပေါက်ယုက အသာအယာကိုင်လှုပ်၍

“မလေး မလေး၊ ဒီအချိန်ကြီး အိပ်မနေနဲ့လေ။ အချိန်မဟုတ်”

ထိုက်ယုနိုးလာကာ ပေါက်ယုကို မြင်သည့်အခါတွင်

"ဟင် အပြင်မသွားဘူးလား၊ ထိပ်ထားကြွလာတုန်းက တည်းက အိပ်ရေးပျက်တာ။ ခုထက်ထိ အိပ်လို့ကိုမဝဘဲဖြစ်နေတယ်။ တစ်ကိုယ်လုံးလဲ ကိုက်နေတာပဲ"

"နည်းနည်းပါးပါး ကိုက်တာခဲတာလောက်ကတော့ ကိစ္စမရှိပါဘူး။ ဒါပေမယ့် ခုလို အိပ်လိုက်တော့မှ ပိုဆိုးသွားပြီး နေထိုင်မကောင်း ဖြစ်သွားမှာ။ ကဲပါ ထပါ။ မောင်နဲ့ စကားပြောရအောင်။ အဲဒီတော့ အိပ်ချင်ပြေသွားမှာပေါ့"

ထိုက်ယုက မျက်လုံးများကို မှိတ်လိုက်ပြီးနောက်

"သိပ်တော့ မအိပ်ချင်တော့ပါဘူး။ နည်းနည်း နားချင်တာပါ။ သွားစားချည်ဦး မောင်လေးရယ်၊ ခဏနေမှ လာခဲ့"

ပေါက်ယုက ထိုက်ယုကို ကိုယ်လုံးဖြင့် ဝင်တိုက်လိုက်ကာ

"ဘယ် သွားစားရမှာလဲဗျ မလေးကလဲ။ ဒီပြင်လူတွေနဲ့မှ မနေချင်တာ"

ထိုက်ယုက ရယ်လိုက်ရင်း

"ကဲပါရှင်၊ မသွားဘူးဆိုယင်လဲ ဟိုမှာထိုင်တော်မူ။ မလေးနဲ့ စကားပြောမယ်"

"ဟင့်အင်း၊ မထိုင်ချင်ဘူး၊ ကျွန်တော်လဲ ဒီနားမှာ လှဲနေချင်တယ်"

အနီးတွင် ခေါင်းအုံးအပိုလည်းမရှိသည်ကို မြင်သဖြင့်

"ဟိုဘက်တိုး။ မလေးခေါင်းအုံးမှာပဲ အတူတူ အုံးမယ်"

"အို၊ မလုပ်နဲ့လေ။ မကောင်းဘူး။ ပြင်ဘက် ခန်းဆောင်မှာ ခေါင်းအုံးအပိုတွေ ရှိတယ်ထင်တယ်။ သွား မောင်လေးဘာသာ တစ်လုံးယူခဲ့"

ပေါက်ယုသည် အပြင်သို့ထွက်သွားပြီးနောက် ပြန်လာကာ

"ဟင့်အင်း အဲဒီခေါင်းအုံးတွေကို မအုံးချင်ဘူး။ ညစောင့်တဲ့ အစေတော် အဘွားကြီးတွေ အုံးချင်အုံးထားမှာ"

ထိုက်ယုက မျက်လုံးများကို ဖွင့်ကြည့်၍ ရယ်ကာ ထထိုင်လိုက်ရင်း





"မောင်လေးဟာ တော်တော်ဆိုးတယ်။ တကယ်ပဲ။ ကဲ ကြွတော်မူပါရှင့်။ ကြွတော်မူပါ"ဟုဆိုကာ ပေါက်ယုဘက်သို့ခေါင်းအုံးတစ်ခြမ်းကို ထိုးပေးလိုက်ပြီး တစ်ပိုင်းကို သူအုံးထားလေ၏။ သူတို့နှစ်ယောက်သည် မျက်နှာချင်းဆိုင်၍ လှဲနေကြလေ၏။ ပေါက်ယု၏ လက်ဝဲဘက်ပါးပေါ်တွင် ကြယ်စေ့လောက်ရှိသည့် သွေးကွက်တစ်ကွက်ကို မြင်သည့်အခါ ထိုက်ယုသည် ထထိုင်၍ ငုံ့ကြည့်ကာ လက်ဖြင့်တို့ကြည့်လေ၏။

"ပြောစမ်း။ ဒီတစ်ခါတော့ ဘယ်သူ့လက်သည်းရာလဲ။ ဘယ်သူ ကုတ်လှတ်လိုက်တာလဲ"

ပေါက်ယုက မျက်နှာကိုဖယ်ကာ ရယ်လျက်

"ကုတ်ရာမဟုတ်ပါဘူးဗျ မလေးကလဲ။ အစေတော် ကောင်မလေးတွေဖို့ နှုတ်ခမ်းဆိုးဆေးစပ်ပေးတုန်းက ဆိုးဆေးတွေ စဉ်ထားတာပါ"

ပေါက်ယုက ဆေးစွန်းကိုသုတ်ပစ်ရန် လက်ကိုင်ပဝါကို ရှာနေစဉ် ထိုက်ယုက သူ၏ သန့်ရှင်းသည့် လက်ကိုင်ပဝါကို ထုတ်၍ သုတ်ပေးရင်း

"မောင်လေးလုပ်လိုက်ယင် ဒီလိုချည်းပဲ။ ဘယ်တော့မှသပ်သပ်ရပ်ရပ် မရှိဘူး။ တစ်ခုခုတော့ ဖြစ်ကျန်ရစ်ခဲ့တာပဲ။ ပါးမှာ နှုတ်ခမ်းဆိုးဆေးတွေ ပေနေတာကို ဦးကြီးကျိချိန် မမြင်ယင်တောင် ဘေးလူတွေ ပြောစရာဖြစ်မှာပေါ့။ တချို့ကလဲ ဦးကြီးကျိချိန်တို့၊ မယ်မယ်တို့ကို မျက်နှာလိုအားရဖြစ်လုပ်ချင်လို့ သွား မပြောကြပေဘူးလား။ ဦးကြီးကျိချိန်သိသွားယင် မလေးတို့ရော မောင်လေးရော အားလုံးဒုက္ခရောက်ကုန်မှာ"

ပေါက်ယုသည် သူ့စကားများကို နားသာ ထောင်နေရသော်လည်း၊ တစ်လုံးမျှမကြားမိချေ။ ထိုက်ယု၏ကိုယ်မှ မွှေးကြိုင် သင်းပျံ့သောရနံ့သည် ထွက်လျက်ရှိလေရာ ထိုရနံ့ကြောင့် တစ်ကိုယ်လုံးယစ်

မူးကာ ရှိးတွင်းခြင်ဆိတေ့ အရည်ပျော်ကုန်သည်ဟု ထင်မှတ်မိ၏။ ပေါက်ယုသည် ထိုက်ယု၏ အင်္ကျီလက်ဖျားကို ဖမ်းဆွဲလိုက်ကာ လက်ဖျားတွင် မည်သည့်နံ့သာခဲ ထည့်ထားသနည်းဟု မေးကြည့်၏။

"ကြုံကြီးစည်ရာ။ ဆောင်းတွင်းကြီးမှာ ဘယ်သူ အမွှေးနံ့သာ လိမ်းပါမလဲ"

"ဒါဖြင့်ယင် ဒီအမွှေးနံ့က ဘယ်ကလာတာလဲ"

"ဒါတော့ မလေးလဲ ဘယ်သိပါမလဲ။ မလေးရဲ့ အဝတ်ဗီရိုထဲကလာတာဟုတ်ယင်ဟုတ်၊ မဟုတ်ယင် မလေးရဲ့ ဝတ်ရုံအင်္ကျီမှာပါလာတဲ့အနံ့ဖြစ်မှာပေါ့"

ပေါက်ယုက ခေါင်းကိုယမ်းလိုက်ရင်း

"မဖြစ်နိုင်ဘူး။ ဒီအနံ့က တော်တော်ထူးခြားတဲ့အနံ့။ နံ့သာခဲတို့၊ ပန်းပေါင်းအိတ်တို့၊ အမွှေးတုံးတို့ကထွက်လာတဲ့အနံ့မျိုး မဟုတ်ဘူး"

ထိုက်ယုက မျက်ခုံးကို ပင့်လိုက်ပြီးလျှင်

"ဩ ဒါဖြင့် မလေးက မိုးပေါ်ကကျလာတဲ့ နတ်သမီးလေးမို့လို့ မလေးကိုယ်က လာတယ်လို့ထင်သပေါ့။ တော်စမ်းပါ။ မလေးမှာ ဒီလောက်မွှေးတဲ့ နံ့သာမျိုးလဲ မရှိပါဘူး။ ပန်းပေါင်းဖော်နည်းရှိတောင်မှ မလေးတို့မှာ ပန်းဝတ်မှုန်တွေ၊ ပန်းဖူးတွေ၊ နှင်းရည်တွေ၊ နှင်းပွင့်တွေနဲ့ ဒီလိုနံ့သာရည်မျိုးကို တယုတယစပ်ပေးမယ့် မောင်တွေ မရှိပါဘူး။ မလေးတို့သုံးတဲ့ နံ့သာမျိုးက သာမန်အညတရပါ"

ပေါက်ယုက ပြုံးကာ

"ဟော ဟော ဒါလေးပြောလိုက်တာနဲ့ စိတ်ကောက်နေပြီ။ ဒကာကဲ ဒီလောက်တောင်စိတ်ကောက်တတ်တဲ့ မလေး။ သေပေတော့။ ဒဏ်ပေးရမယ်"

ပေါက်ယုသည် ထိုင်ရာမှ အိပ်ရာပေါ်တွင် ဒူးထောက်၍ထကာ လက်ခေါက်မှုတ်လိုက်ပြီးလျှင် ထိုက်ယု၏ ခါးနှင့်ချိုင်းကို ကလိထိုးလျက်ရှိလေ၏။





ထိုက်ယုမှာ နဂိုကမှ ယားတတ်သူဖြစ်ရာ ယခုကဲ့သို့ ပေါက်ယုက ရုတ်တရက်ထ၍ ကလိထိုးလိုက်သည့်အခါတွင် သီးမတတ်ဖြစ်လျက်ရှိလေသည်။

"မောင်လေးရယ် မလုပ်ပါနဲ့၊ တော်ပါတော့။ ရှိကြီးခိုးပါရဲ့။ တော်ပါတော့"

ထိုအခါကျမှ ပေါက်ယုက ရပ်တန့်သလို အနားပေးထားလိုက်ကာ

"ဒါဖြင့် နောက် ဒီလို သူများမခံချင်အောင် စကားနာထိုးဦးမှာလား"

ထိုက်ယုက ပြေကျနေသည့်ဆံပင်များကို သပ်ရပ်အောင်ပြင်လိုက်ရင်း

"တော်ပါပြီ။ နောက် မပြောတော့ပါဘူး။ မောင်လေးက ပြောတော့ မလေးမှာ ထူးခြားတဲ့အနံ့မျိုး ရှိတယ်ဆို။ ဒါဖြင့် မောင်လေးမှာ အပူနံ့ရှိသလား"

"ဘာ အပူနံ့ ဟုတ်လား"

ပေါက်ယုက နားမလည်ဟန်ဖြင့် မေးလေ၏။ ထိုက်ယုက ခေါင်းကိုယမ်း၍ သက်ပြင်းတစ်ချက် ချလိုက်ရင်း

"မောင်လေးက တော်တော် အ,တာကိုး။ မောင်လေးမှာ ကျောက်စိမ်းတုံးရှိတယ် မဟုတ်လား။ ဒီလိုဆိုယင် တခြားတစ်ယောက်မှာ ဒါနဲ့လိုက်ဖက်အောင် ရွှေရှိရတယ်။ အဲဒါမျိုးကိုပြောတာ။ ဒီတော့ မလေးရဲ့ အအေးနံ့နဲ့ လိုက်ဖက်တဲ့ အပူနံ့ မောင်လေးမှာ ရှိရဲ့လား"

ပေါက်ယုက သူပြောသည့် အဓိပ္ပာယ်ကို သဘောပေါက်သွားကာ

"လာပြန်ပြီလား။ စောစောကတော့ ကြောက် ပါပြီ ဆို။ နောက် မပြောတော့ပါဘူးဆို"ဟု ဆိုကာ ကလိထိုးရန် ပြင်လိုက်လေ၏။

"မလုပ်ပါနဲ့ မောင်လေးရယ်။ ရှိကြီးခိုးပါရဲ့။ နောက်မစတော့ပါဘူး။ တကယ်ပါ"

"ကောင်းပြီ။ ဒါဖြင့်ယင် မလေးရဲ့ အင်္ကျီလက်ဖျားကို တစ်ခါ နမ်းခွင့်ပေးရမယ်။ ဒီလိုဆိုယင် ဆက်မလုပ်တော့ဘူး"

ပြောပြောဆိုဆို ပေါက်ယုသည် ဝဲကျနေသော ထိုက်ယုံ၏ အင်္ကျီလက်ဖျားဖြင့် သူ့မျက်နှာကို ဖုံးပစ်လိုက်အာ တရှုပ်ရှုပ်ဖြင့် နမ်းလျက်ရှိလေ၏။ ထိုက်ယုက သူ့လက်ကို ပြန်၍ရုပ်လိုက်ပြီးနောက်

"ကဲ မောင်လေး ပြန်ဖို့အချိန်တော်ပြီထင်တယ်"

"ဟင့်အင်း မပြန်ဘူး။ အေးအေးဆေးဆေးလှဲပြီး နှစ်ယောက် စကားပြောကြမယ်။ တကယ်ပါ။ မစပါဘူး"

ပေါက်ယုက လှဲအိပ်လိုက်လေ၏။ ထိုက်ယုလည်း လှဲလိုက်ကာ မျက်နှာကို လက်ကိုင်ပဝါဖြင့် အုပ်ထားရာမှ သူ့မေးခွန်းများကို မကြားချင်ယောင်ပြုလျက် ရှိလေ၏။ ရွှေမြို့တော်သို့ ထိုက်ယု ရောက်လာစဉ်က အသက်ဘယ်လောက်ရှိပြီလဲ။ လမ်းခရီးတွင် မည်သည့်ရှုခင်းများကို တွေ့ခဲ့ရသလဲ။ ယန်ကျိူ့တွင် ရာဇဝင်နှင့်ပတ်သက်သည့် စိတ်ဝင်စားစရာ မည်သည့်အဆောက်အအုံတွေ ရှိသလဲ။ ယံန်ကျိူ့က ထိုးစံ ဓလေ့တွေက ဘယ်လိုလဲ စသည်ဖြင့် မေးမြန်းလျက်ရှိလေ၏။ ထိုက်ယုက မည်သို့မျှမဖြေဘဲ အိပ်ချင်ယောင် ဆောင်နေ၏။ အိပ်ပျော်လျှင် အစာမကြေဖြစ်မည် စိုးသည့်အတွက် ပေါက်ယုက တစ်မျိုးလှည့်ပတ်ကာ

"ဪ သတိရပြီ မလေးတို့ ယန်ကျိူ့မြို့နားမှာဖြစ်ခဲ့တဲ့ အဖြစ်အပျက်တစ်ခုအကြောင်းကို မကြားမိဘူးလား" ဟု မေး၏။

ပေါက်ယုက မျက်နှာထားတည်တည်၊ အသံတည်တည်ဖြင့် မေးလိုက်သည့်အတွက် ထိုက်ယုက အကျိုးအကြောင်းကိုမေး၏။ ပေါက်ယုကလည်း ကြံဖန်၍

"ယန်ကျိူ့မှာ ထိုက်တောင်တန်းဆိုတာရှိတယ်။ အဲဒီမှာ လင်းဥမင်ဆိုတာ ရှိသတဲ့"

"မကြားဖူးပေါင်။ ထိုက်တောင်တန်းလဲ မရှိဘူး၊ လင်းဥမင်ဆိုတာလဲ မရှိဘူး"





"တောင်တွေ၊ စမ်းချောင်းတွေကို မလေး ဘယ်အကုန်သိနိုင်မှာလဲ မောင်ပြောတာကို နားထောင်စမ်းပါဦး။ ကြားဖြတ်ပြီး မေးမေး မနေပါနဲ့"

"အင်း ဒါဖြင့်ပြော"

ပေါက်ယုက ဆက်လက်၍

"အဲဒီလင်းဥမင်ထဲမှာ ကြွက်နိုင်ငံကြီးတစ်နိုင်ငံရှိသတဲ့။ ဒသမလ လဆန်း ၇ ရက်နေ့ကျတော့ ကြွက်ဘုရင်ကြီးက နန်းတက်ပြီး သူ့မှူးမတ်တွေကို အစည်းအဝေးခေါ်သတဲ့၊ ခေါ်ပြီးတော့ မနက်ဖြန်ဆိုယင် လူတွေဟာ ဆောင်းဦးတစ္ဆေပွဲကျင်းပပြီး ထမနဲတွေ ယာဂုတွေကျိုကြလိမ့်မယ်၊ ခု ငါတို့မှာ သစ်သီးတို့ စားရေရိက္ခာတို့လဲ ပြတ်လတ်ခါနီးနေပြီ။ ဒီတော့ မင်းတို့ သွားရှာချည်ကြလို့ပြောပြီး သန်မာဖျတ်လတ်တဲ့ ကြွက်ပျိုလေးတစ်ကောင်ကို လေးနဲ့မြားနဲ့ပေးပြီး လွှတ်လိုက်သတဲ့။

"ခဏကြာတော့ အဲဒီကြွက်ပျိုကလေးဟာလဲ ပြန်လာပြီး မှန်လှပါ၊ ကျွန်တော်မျိုး နေရာအနှံ့ လိုက်လို့ရှာခဲ့ပြီးပါပြီ၊ အကောင်းဆုံးသီးနှံတွေနဲ့ စားရေရိက္ခာတွေဟာ ကျွန်တော်မျိုးတို့တောင်ခြေရင်းမှာ ရှိပါတယ်လို့ ပြောသတဲ့။

"ဒါဖြင့် တို့တောင်ခြေရင်းမှာ ဘယ်လိုကောက်နှံ့ မျိုးတွေ ရှိသလဲ။ သယ်လိုသစ်သီးမျိုးတွေ ရှိသလဲလို့မေးသတဲ့။

"မှန်လှပါ၊ ဆန်တွေလဲ ရှိပါတယ်။ မရေမတွက်နိုင်အောင် များပြားတဲ့ ပဲအမျိုးမျိုးလဲ ရှိပါတယ်။ သစ်သီးခြောက် ငါးမျိုးလဲ ရှိပါတယ်။ စွန်ပလွံ၊ သစ်ချ၊ မြေပဲ၊ ကန့်စွန်းဥ၊ ပိန်းဥစတဲ့ အသီးတွေ ဖြစ်ပါတယ်။

"ဒီတော့ ကြွက်ဘုရင်ကြီးလဲ ဝမ်းသာအားရနဲ့ ဒါဖြင့် အဲဒီ ရိက္ခာတွေကို သွားပြီးသယ်ချည်ကြလို့ ကြွက်တွေကိုခေါ်ပြီး လေးနဲ့ မြားကိုပေးပြီး ကဲ ဆန်ကို ဘယ်သူယူမလဲလို့မေးတယ်။ ဒီတော့ ကြွက်တစ်ကောင်က လေးနဲ့မြားကိုယူပြီး ထွက်သွားသတဲ့။ ပဲတွေကိုဘော ဘယ်သူယူမလဲလို့မေးတော့ နောက်ထပ်ကြွက်တစ်ကောင်က သူသွားယူမယ်ဆိုပြီး ထွက်သွားပြန်သတဲ့။ ဒါနဲ့ ကြွက်တစ်ကောင်ပြီး တစ်ကောင်

တာဝန်ယူပြီး ထွက်သွားလိုက်တာ နောက်ဆုံးတော့ ပိန်းဥတွေကိုယူဖို့ တာဝန်ပဲ ကျန်တော့သတဲ့။ ဒီတော့ ကြွက်ဘုရင်ကြီးက လေးနဲ့မြားကို မြှုပြီး ပိန်းဥကို ဘယ်သူသွားယူမလဲလို့ မေးသတဲ့။ ဒီတော့ ကြွက်သေးသေးကလေးတစ်ကောင် ထွက်လာပြီး ကျွန်တော်မျိုး သွားယူပါ့မယ်လို့ ပြောသတဲ့။

"ကြွက် သေးသေးလိုလိုကလေးဆိုတော့ ကြွက်ဘုရင်ကြီးရော ကျန်တဲ့ကြွက်တွေရော သူ့စကားကိုသိပ်မယုံကြဘဲ မကြားချင်ယောင် ဆောင်နေကြသတဲ့။ ဒါပေမယ့် ကြွက်လေးကတော့ ကျွန်တော်ဟာ သေးကွေးအားနည်းတာ မှန်ပေမယ့် ကျွန်တော့်မှာ နည်းတွေ ရှိပါတယ်။ ကျွန်တော့်မှာ စကားပြောလဲကောင်း၊ ကြံရည်ဖန်ရည်လဲရှိတော့ ကျွန်တော်ယူနိုင်ပါတယ်လို့ ပြောသတဲ့။ ကောင်းပြီ၊ ဒါဖြင့် ဘယ်လို ယူမလဲလို့မေးတော့ ကျွန်တော်က သူများလို ပြောင်မပဘူး။ ကျွန်တော့် ကိုယ်ကို ကျွန်တော် ပိန်းဥကလေးတစ်လုံးအသွင် ပြောင်းလိုက်မယ်။ ပြီးတော့ ဒီပြင်ပိန်းဥတွေနဲ့ ရောနေလိုက်မယ်။ ဒါမှ သူတို့က ကျွန်တော့်ကို မသိဘဲ နေမယ်။ ပြီးတော့မှ အဲဒီပိန်းဥတွေကို တစ်ဥပြီး တစ်ဥ သယ်လာမယ်လို့ ပြောသတဲ့။ ခုလိုသယ်ယင် ပြောင်ယူရတာထက် မလွယ် ပေဘူးလားလို့ ပြောသတဲ့။

"ဒီတော့ တခြားကြွက်တွေက ဟုတ်တော့ဟုတ်ပါပြီ။ ဒါပေ မယ့် ပိန်းဥလိုဖြစ်အောင် ဘယ်လိုအသွင်ပြောင်းမှာလဲလို့ မေးသတဲ့။ ကြည့်ဆိုပြီး ကိုယ်ကို ကြွက်ကလေးက ရယ်ပြီး လွယ်ပါတယ်ဗျာ။ ကြည့်ဆိုပြီး ကိုယ်ကို လှုပ်ချလိုက်တာ ချက်ချင်း အင်မတန်ချောတဲ့ မိန်းမပျိုကလေး တစ်ယောက် ဖြစ်သွားရောတဲ့။ ဒီတော့ တခြားကြွက်တွေကရယ်ပြီး ဟဲ မင်းအသွင်ပြောင်းတာက ပိန်းဥအသွင်ပြောင်းတာမဟုတ်ဘဲ မိန်းမပျိုကလေးတစ်ယောက်ရဲ့ အသွင်ပြောင်းတာပဲလို့ ဝိုင်းပြောကြသတဲ့။

"ဒီတော့ ကြွက်ကလေးက ခင်ဗျားတို့ တော်တော်အသေးတဲ့ ကြွက်တွေပဲ။ ခင်ဗျားတို့က ပိန်းဥလောက်ပဲ သိတာကိုး။ ဆားခွန်တော် အမတ်ကြီး လင်းထိုက်ယုရဲ့သမီးကတော့ ပိန်းဥထက် ချိုတယ်ဗျလို့ ပြန် ပြောသတဲ့"





(မှတ်ချက်။ ။ပိန်းဥကို တရုတ်ဘာသာဖြင့် ယုဟုခေါ်ရာ ဤနေရာ တွင် ထိုက်ယု၏ အမည်တွင်ပါသည့် ယုနှင့် အသံထွက် ချင်း အတူဖြစ်သည်။)

ထိုက်ယုသည် အိပ်ရာပေါ်သို့တက်လာစဉ်

"ကြည့်စမ်း ကြည့်စမ်း၊ မောင်လေး သိပ်ဆိုးတာပဲ။ ဒီကတော့ အဟုတ်မှတ်ပြီး နားထောင်နေတာ။ ကဲ နောက်ဦး၊ နောက်ဦး"ဟု ဆိုကာ လိမ်ဆွဲလျက် ရှိလေ၏။ ပေါက်ယုက တောင်းပန်သည့်အခါ တွင်မှ ရပ်လိုက်ပြီး

"ကဲ တော်ပါတော့ မလေးရယ်။ နောက်ကို မောင် မစတော့ ပါဘူး။ တကယ်ပါ။ မလေးရဲ့အနားက မွှေးနေတော့ ဒီပုံပြင်ကလေး ကို သွားပြီးအမှတ်ရမိလို့ ပြောမိတာပါ"

"ဘာပုံပြင်လဲ တော်စမ်းပါ"

ထိုစဉ် ပေါက်ကြည်သည် ဝင်းထိန်သောမျက်နှာဖြင့် ဝင်ရောက် လာကာ

"ဘာပုံပြင်လဲ ပေါက်ကြည်လဲ နားထောင်ချင်တယ်"

ထိုက်ယုက ပေါက်ကြည်ကို နေရာထိုင်ခင်းပေးရင်း

"အလကားကွယ်။ မလေးကို လာလာပြီး စနေတယ်"

"မောင့်ကိုတော့ ပြောမနေနဲ့။ သူ့မှာ ပုံပြင်တွေ၊ ဥပမာတွေ ကလဲ အများကြီးပဲ။ ဒါပေမယ့် အရေးထဲကျယင် သူ့ခေါင်းထဲက အဲဒီပုံပြင်တွေ၊ ဥပမာတွေက ထွက်မလာတော့ဘူး။ တကယ်ဆိုယင် မနေ့ညက စာစပ်ကြတုန်းက ငှက်ပျောရွက်ကို တင်စားထားတဲ့ ဥပမာ ကို ဘာဖြစ်လို့မေ့နေရတာလဲ။ ပြီးတော့ တကယ့်အရေးကြီးတာကိုမှ မေ့နေတယ်။ လူတိုင်း ချမ်းနေတဲ့အချိန်မှာ သူ့မှာ ချွေးတွေပြန်လို့။ စဉ်းစားလိုက်ရတာ။ ခုကျတော့လဲ သူ့မှတ်ဉာဏ်က ပြန်ကောင်းနေ ပြန်ရော"

"အမိဒ္ဓဗုဒ္ဓ မြတ်စွာဘုရား"ဟု ထိုက်ယုက အာလုန့်တကြား အော်လိုက်ပြီးလျှင်

"ဟုတ်တယ်၊ ပေါက်ကြည်ပြောတာ မှန်တယ်။ ပေါက်ကြည် သူနဲ့မှ လိုက်ဖက်တာ။ ခုတွင်က မလေးကို စနေတာ၊ ခု ပေါက်ကြည် ကျတော့ ဝပ်နေပြီမဟုတ်လား။ ကာလဝီဘက် နောက်ပိုးတက်ဆိုတာ အဲဒါပေါ့"

ထိုစဉ် ပေါက်ယု၏ ခန်းဆောင်ဘက်ဆီမှ ဒေါသတကြီးဖြစ် အော်ဟစ်နေသံများကို ကြားရ၏။ မည် သို့ ဖြစ် သည် ကို မူ နောက် တစ်ခန်းတွင် ဖော်ပြပါအံ့။







အခန်း ၂၀

နတ်ငှက်မယ်သည် မနာလိုသော မိန်းမတစ်ယောက်ကို အပြစ်တင်ခြင်း။
ထိုက်ယုသည် ကလေးဆန်သော မိန်းကလေးတစ်ယောက်ကို
လျှောင်ပြောင်ခြင်း။

ပေါက်ယုသည် ထိုက်ယုအား ကြွက်ပုံပြင်ကို ပြောပြနေစဉ် ပေါက်ကြည် ရောက်လာတော မီးထွန်းပွဲတော်ညက စာစပ်ပွဲ၌ 'ဖယောင်းစိမ်း' ဆိုသည့် ဥပမာစကားလုံးကို မေ့ခဲ့သည်နှင့်ပတ်သက်၍ ပေါက်ယုအား နောက်ပြောင် ကျီစယ်ခဲ့ပုံကို ဖော်ပြခဲ့လေပြီ။ နေ့လယ်စာစားပြီး အိပ်လျှင် ထိုက်ယုတစ်ယောက် အစာမကြေဖြစ်ခြင်း၊ ညတွင် အိပ်မပျော်ဖြစ်ခြင်း တို့ကြောင့် ကျန်းမာရေးထိခိုက်မည်ကို စိုးရိမ်သည့်အတွက် သူဝင်၍ နောက်ပြောင် ကျီစယ်ခဲ့ခြင်းဖြစ်ရာ ယခုကဲ့သို့ ရယ်မောပြောဆို နောက်ပြောင်လိုက်ရသည့်အတွက် ပေါက်ယုမှာ စိတ်သက်သာရာရသွား၏။ ပေါက်ယုရောက်လာခြင်းနှင့် ပေါက်ကြည်ရောက်လာပြီး စကားပြောဆိုလိုက်ကြသည့်အတွက် ထိုက်ယုမှာလည်း အိပ်ချင်စိတ်များလည်းပျောက်သွားခဲ့လေပြီ။

ထိုအခိုက် ပေါက်ယု၏အခန်းဘက်ဆီမှ ဆူဆူညံညံအသံများကို ကြားလိုက်ရသဖြင့် သုံးယောက်သား နားစွင့်ထားလိုက်မိကြ၏။

ထိုက်ယုက

"မောင်လေး အထိန်းတော်ကြီးက မာလာကို ဆူနေတာ ထင်တယ်။ အမှန်ကတော့ မာလာမှာ ဘာမှပြောစရာမရှိရှာပါဘူး။ အထိန်းတော်ကြီးက သက်သက် အပြစ်ရှာနေတာ။ အဘွားကြီးက အသက်ကြီးလာတော့ သိပ်ဇာနဘယမျှားတာပဲ"

ပေါက်ယုက ခန်းဆောင်ဘက်သို့ ထွက်ကြည့်မည် အပြုတွင် ပေါက်ကြည်က လက်မောင်းကို လှမ်းဆွဲလိုက်ရင်း

"အဘွားကြီးနဲ့ ရန်ဖြစ်မနေပါနဲ့ မောင်လေးရယ်။ အဘွားကြီးက ပစိပစပ်မျှားတော့ သည်းခံမှပေါ့"

"မောင်သိပါတယ်"ဟု ဆိုကာ ပေါက်ယုသည် အခန်းဆီသို့ ပြေးထွက်သွား၏။

သူ့ခန်းဆောင်သို့ ပြန်ရောက်သည့်အခါ၌ အထိန်းတော်ကြီး လီသည် အခန်းလယ်တွင် ကြိမ်တုတ်ကိုကိုင်၍ရပ်ရင်း မာလာကို ဆူပူ ကြိမ်းမောင်းလျက် ရှိ၏။

"အလကား ကောင်မ၊ ကျေးဇူးကန်းတဲ့ ဖာသည်မ။ ညည်း ဒီဘဝရောက်လာတာ ငါ့ကြောင့်အေ။ ခုတော့ သူက ခုတင်ကြီးပေါ် မိန့်မိန့်ကြီးလှဲလို့။ ညည်းက သခင်လေးကို မျက်နှာလိုအားရ လုပ်ပြ လောက်ပဲ အကွက်ရှာနေတာ။ ကပ်ချွဲနေတာ။ ခုဆို ငါ့တောင် ဂရု မစိုက်တော့ဘူး။ ငါ့စကားလဲ မအောင်တော့ဘူး။ ညည်းပြောမှပဲ အဟုတ်ထင်တော့တယ်။ ရာရာစစ၊ ငွေစမဖြစ်စလောက်နဲ့ ဝယ်လာတဲ့ ကျွန်စုတ်မက ဒီရောက်တော့ ကျွန်ဝါးဝလို့။ ဟင်း၊ နေရာတကာလိုက် ရှုပ်နေတယ်။ ပြောလိုက်ပါပေရဲ့။ ညည်း သတိကောင်းကောင်းထားနေ ပါ။ ဒီအချိုးအတိုင်း နေလို့ကတော့ စံအိမ်ထဲကဆွဲထုတ်ပြီး လင်ပေး စားပစ်လိုက်မယ်။ နောက်သခင်လေးကိုလဲ ပြိတိတိ သွားလုပ်မနေနဲ့ ဒါပဲ"

မိမိအိပ်ရာပေါ်တွင် လှဲနေသည့်အတွက် အထိန်းတော်ကြီးလီ စိတ်ဆိုးသည်ထင်သဖြင့် မာလာက





"ကျွန်မက ဖျားနေလို့ ချွေးထွက်အောင် ချွေးအောင်းနေတာ ပါ အကြီးရယ်၊ စောင်ခေါင်းမြီးခြုံထားတော့ အကြီးလာတာကို မမြင် လိုက်လို့ပါ"ဟု ရှင်းပြ၏။

သို့ရာတွင် အထိန်းတော်ကြီးက မိမိအား ပေါက်ယုကို ပရောပရိ လုပ်နေသည်။ ယောကျ်ားပေးစားပစ်မည်ဟု ကြိမ်းမောင်းနေသည့်အခါ တွင်မူ မာလာမှာ မချုပ်တည်းနိုင်တော့ဘဲ မျက်ရည်တွေ စီးကျလာ၏။

ပေါက်ယုသည် အထိန်းတော်ကြီး ဆူပူကြိမ်းမောင်းနေသည်ကို ကြားသော်လည်း မာလာ နေထိုင်မကောင်းသဖြင့် ဤသို့ နေရခြင်းဖြစ် ကြောင်း ရှင်းပြရုံမှအပ အခြား ဘာမျှ မတတ်နိုင်ချေ။

"တကယ်ပြောတာပါ အကြီးရဲ့။ မယုံယင် ဒီပြင် အစေတော် တွေကို မေးကြည့်"

သို့ရာတွင် ထိုသို့ပြောမှ ပို၍ဆိုးလာချေသေး၏။

"သခင်လေးရဲ့ကောင်မတွေဘက်က ကျပ်ကျပ်ကာကွယ်။ ဒီက ကောင်မကို သခင်လေး မှတ်မိသေးရဲ့လား။ ဒီကကောင်မဘက်ကတော့ တစ်ယောက်မှ ရှိမှာ မဟုတ်ပါဘူး။ သူတို့အားလုံးက သခင်လေးဘက် ကချည်း နေကြမှာပါ။ ဒီကောင်မတွေကလဲ မာလာဆိုတဲ့ကောင်မ ကြီးကိုင်တာကို ခံနေရတဲ့ ကောင်မတွေကိုး။ ဒီမှာ ဘာတွေဖြစ်နေ သလဲဆိုတာ ကျုပ်အကုန်သိတယ်။ အကုန်လုံး မယ်မယ်နဲ့ သခင်မကြီး ဝမ်ကို ဖွင့်ပြောလိုက်မယ်။ ဒီကကောင်မက သခင်လေးကို နို့တိုက်ခဲ့ ရတဲ့ကောင်မ။ ရွှေပန်းစုတ်ခဲ့ရတဲ့ကောင်မ။ ဟုတ်ပါတယ်။ ခုတော့ ဒီကကောင်မရဲ့ နို့မရှိယင်လဲ ဖြစ်နေပြီကိုး။ ကျုပ်ကို ဘေးဖယ်ပြီး သခင်လေးကောင်မတွေ စော်ကားချင်တိုင်း စော်ကားတာကို ကြည့်နေ တော့မှာပေါ့"

အထိန်းတော်ကြီးလီသည် ဒေါသထွက်ကာ ရှိုက်ကြီးတငင်ငို လျက် ရှိလေ၏။

ထိုစဉ် ထိုက်ယုနှင့် ပေါက်ကြည်တို့လည်း ရောက်လာကြကာ အထိန်းတော်ကြီးကို ချော့မော့နှစ်သိမ့်လျက် ရှိကြ၏။

"သူတို့လဲ နည်းနည်းပါးပါး ပျော်ပါစေ အထိန်းတော်ကြီးရယ်၊ ဒီလောက်လဲ မတင်းကျပ်ပါနဲ့"

ဤတွင် အထိန်းတော်ကြီးလီသည် သူ့ မကျေနပ်ချက်များကို ဖွင့်ပြောလေ၏။ လက်ဖက်ရည်တစ်ခွက်သောက်မိသည့်အတွက် ကျင်စွေ့အလုပ်ထုတ်ခံရပုံ၊ မနေ့က ဒိန်ချဉ်ကိစ္စဖြစ်ပုံတို့ကို ပြောပြ၏။ သို့ရာတွင် သူ ဒေါသ ဤမျှကြီးရသည့် အကြောင်းကိုမူ နားမလည်နိုင်အောင်ဖြစ်လျက်ရှိကြ၏။

ထိုအချိန်၌ နတ်ငှက်မယ်သည် မယ်မယ်၏ အခန်းထဲတွင် ရောက်လျက်ရှိကာ ဖဲကစားပြီး၍ အမှတ်များကို ပေါင်းလျက်ရှိ၏။ ဆူဆူညံညံ အသံများကို ကြားသည်၌ အထိန်းတော်ကြီးလီသည် ယနေ့ဖဲရှုံးသဖြင့် ပေါက်ယု၏ အစေတော်များကို မဲ၍ ကြိမ်းမောင်းနေခြင်း ဖြစ်ကြောင်းကို သိလိုက်လေပြီ။ နတ်ငှက်မယ်သည် ခန်းဆောင်ထဲသို့ ကူးလာကာ အထိန်းတော်ကြီးကို ဆွဲခေါ်ရင်း ပြုံးလျက်

"စိတ်မဆိုးပါနဲ့ အကြီးရယ်။ ပွဲတော်ကြီးပြီးခါစ ( ..)င်မယ် စိတ်ကြည်ကြည်လင်လင်ရှိတုန်းမှာ ကလေးတွေနဲ့တူပြီး ရန်ဖြစ်လို့ မကောင်းပါဘူး။ တခြားလူဖြစ်ယင်တောင် ကိုယ်က ဖျောင်းဖျရမယ့် အရွယ်။ ဒီတော့ ကိုယ့်ကိုယ်ကိုသတိထားပါ။ တော်တော်ကြာ အကြီးကြောင့် မယ်မယ် စိတ်မကောင်းဖြစ်ရယင် ဘယ်ကောင်းပါမလဲ။ ကဲ ပြောစမ်း။ အထိန်းတော်ကြီး ဘာဖြစ်လို့ ဒီလောက် စိတ်တိုနေရသလဲ။ အထိန်းတော်ကြီးကို စိတ်အနှောင့်အယှက်ဖြစ်အောင် လုပ်တဲ့လူကို ငှက်မယ်ရိုက်ခိုင်းလိုက်မယ်။ သွားသွား စားဖိုဆောင်ထဲမှာ ရစ်ကင်တစ်ကောင်ရှိတယ်၊ ကျပ်တင်ထားတယ်။ လာ ငှက်မယ်နဲ့ သွားစားချည်ရအောင်"

နတ်ငှက်မယ်သည် အထိန်းတော်ကြီးကို ဆွဲခေါ် သွားရာမှ နောက်သို့ မြန်လှည့်ကြည့်လိုက်ရင်း

"ဟဲ့ ဖုန်အဲ့ရေ အကြီးရဲ့ကြိမ်တုတ်ကို ကောက်ခဲ့စမ်း။ ပြီးတော့ လက်ကိုင်ပဝါတစ်ထည်လဲ ပေးလိုက်စမ်းပါ။ မျက်ရည်တွေကို သုတ်ရအောင်"





အထိန်းတော်ကြီးလီသည် နတ်ငှက်မယ်ဆွဲခေါ်ရာသို့ ပါသွားရင်း

"ကျွန်မလဲ အသက်ကြီးပါပြီ ငှက်မယ်သခင်မလေးရယ်။ ဒါတွေကို သိပ်မပါချင်တော့ပါဘူး။ ဒါပေမယ့် ဒီမာလာဆိုတဲ့ကောင်မ စော်ကားတာ များလွန်းလို့ပါ"

ပေါက်ကြည်နှင့်ထိုက်ယုတို့သည် ပြဿနာကို နတ်ငှက်မယ် ကိုင်တွယ်သွားပုံကိုကြည့်၍ သဘောကျလျက်ရှိကြ၏။ သူတို့ထွက်သွားသည့်အခါတွင် လှက်ခုပ်လက်ဝါးတီးကာ

"တော်ပါသေးရဲ့၊ လေမုန်တိုင်း တိုက်လာပြီး အဘွားကြီးကို သယ်သွားလို့"

ပေါက်ယုက ခေါင်းညိတ်၍ သက်ပြင်းချကာ

"ဒီအဘွားကြီးဟာ တော်တော်ခက်တာပဲ။ ကိုယ့်လက်အောက်မှာ ကိုယ်လုပ်တိုင်း ခံရမယ့်လူတွေကို အနိုင် ကျင့်ချင်တယ်။ ကြည့်ရတာက မနေ့က ကောင်မလေးတစ်ယောက်နဲ့ စိတ်ဆိုးလာပြီး ဒီနေ့ကျတော့ နိုင်တဲ့လူကို မဲတာထင်တာပဲ"

ပေါက်ယုက ထိုသို့ပြောလိုက်သည့်အခါတွင် ကျင်ဝမ်းက ရယ်လိုက်လျက်

"ကျွန်မတို့လဲ အရှုးတွေမှမဟုတ်ဘဲ သခင်လေးရယ်။ သူ့ကိုဘာဖြစ်လို့ စိတ်တိုအောင် သွားလုပ်ပါမလဲ။ တကယ်လို့ ကျွန်မတို့ကြောင့်ဖြစ်တယ်ဆိုယင်လဲ ကျွန်မတို့အပြစ်ကို ကျွန်မတို့ဘာသာခံမှာပေါ့၊ ဘယ်သူ့ကိုမှ ပုံမချပါဘူး"

မာလာသည် ပေါက်ယု၏လက်ကိုဆွဲကာ ငိုရှိုက်လျက်

"သခင်လေး မာလာကြောင့် သခင်လေးရဲ့ ကျေးဇူးရှင်အထိန်းတော်ကြီးကို တလွဲထင်မိပြီနော်။ ပြီးတော့ ခုလဲ မာလာ့ကြောင့် တခြား အစေတော်တွေကို တလွဲထင်ပြန်ပြီ။ သူတို့နဲ့ ဘာမှ မဆိုင်ပါဘူး သခင်လေးရယ်။ မာလာ့အပြစ်နဲ့ မာလာဖြစ်တာပါ"

မာလာမှာ နေထိုင်မကောင်းရသည့်အထဲတွင် စိတ်ထိခိုက်လျက်ရှိသဖြင့် ပေါက်ယုသည် ဘာမျှမပြောတော့ဘဲ သူ့စကားများကိုအသာနားထောင်လျက်ရှိ၏။ ပေါက်ယုသည် မာလာအား အိပ်ရာပေါ်တွင် ငြိမ်ငြိမ်နေ၍ ချွေးအောင်းရန်ပြော၏။ မာလာမှာ ခြစ်ခြစ်တောက်ပူလျက်ရှိ၏။ ပေါက်ယုသည် မာလာကို အိပ်ရာပေါ်သို့လှဲစေကာ

"ကိုယ့်ကျန်းမာရေးကို ဂရုစိုက်ပါမာလာ။ ဒီလို အသေးအဖွဲ့ကလေးတွေကို ဂရုစိုက်မနေစမ်းပါနဲ့"

မာလာက နာကြည်းစွာပြုံးလိုက်လျက်

"အသေးအဖွဲ့ ကလေးတွေကို မာလာ ဂရုမစိုက်ဘူး သခင်လေးရယ်။ အသေးအဖွဲ့ကလေးတွေကြောင့်သာ စိတ် ထိခိုက်ရမယ်ဆိုယင် မာလာ ဒီခန်းဆောင်ထဲမှာ တစ်ဗိုဇနာတောင် ဘယ်မှာနေနိုင်ပါ့မလဲ။ ဒါပေမယ့် တစ်နေ့လဲမဟုတ်၊ နှစ်နေ့လဲမဟုတ် ဒီလိုနေ့တိုင်းဖြစ်နေတဲ့ အခါကျတော့ မာလာတို့ ဘာလုပ်ရမလဲ။ မာလာတို့အတွက် တခြားလူတွေကို ဆူပူကြိမ်းမောင်းခြင်း မပြုပါနဲ့။ တခြားလူတွေစိတ်ထိခိုက်အောင် မလုပ်ပါနဲ့လို့ မာလာ သခင်လေးကို မကြာခဏ တောင်းပန်ခဲ့ဖူးသားပဲ။ သခင်လေးကတော့ မာလာတို့မှန်တယ်ထင်လို့ မာလာတို့ဘက်က ကာကွယ်ပေးတာပဲ။ ဒါပေမယ့် သူတို့က ကေးမှတ်ထားတယ်။ အချက်ကောင်းပေါ်တာနဲ့ သွားပုပ်လေလွင့်တွေကို လျှောက်ပြောတော့တာပဲ။ သခင်လေးလုပ်တာနဲ့ မာလာတို့အနေရခက်ကုန်ပြီ"

မာလာသည် မချုပ်တည်းနိုင်တော့ဘဲ အားရပါးရငိုလျက်ရှိ၏။ သို့ရာတွင် သူငိုလျှင် ပေါက်ယု စိတ်ထိခိုက်မည်ကို သတိရသွားသဖြင့် ချက်ချင်း ချုပ်တည်းလိုက်၏။

ထိုစဉ် လက်တိုလက်တောင်းခိုင်းသည့် မိန်းမတစ်ယောက်သည် မာလာကိုတိုက်ရန် ဆေးယူလာ၏။ ချွေးထွက်လုနီး ဖြစ်သည့်အတွက် ပေါက်ယုသည် မာလာကို ထထိုင်ခွင့်မပေးဘဲ ဆေးခွက်ကို သူကိုယ်တိုင်ယူလာပြီးလျှင် မာလာကို ခေါင်းအုံးပေါ်သို့တွဲထူပေးကာ သူကိုယ်တိုင်ဆေးတိုက်၏။ ထို့နောက် သူ့ခုတင်မီးဖိုကြီးကိုပြင်ခင်းရန် အစေတော်တစ်ယောက်ကို အမိန့်ပေးလိုက်၏။





"သခင်လေး ဒီနားမှာ ထမင်း စားမလို့လား။ မစားနဲ့လေ။ မယ်မယ်တို့ သခင်မကြီးတို့ဆီကို သွားလိုက်ဦး။ ပြီးတော့ သခင်မလေးတို့နဲ့လဲ ခဏနေလိုက်ဦး။ တော်တော်ကြာ ပြောစရာဖြစ်နေလိမ့်မယ်။ ပြီးတော့မှလာခဲ့။ မာလာလဲ ခဏလောက်အိပ်လိုက်ရယင် နေကောင်းသွားတော့မှာပါ"

ပေါက်ယုသည် မာလာ၏ ဆံညှပ်မျှားနှင့် လက်ကောက်များကိုချွတ်ပေးခဲ့ပြီးနောက် သူ့ကို အသာ လှဲပေးခဲ့ပြီးလျှင် မယ်မယ်၏အဆောင်ဆီသို့ လာခဲ့၏။

ထမင်းစားပြီးသည့်အခါတွင် မယ်မယ်က ဖဲကစားချင်သည်ဆိုသဖြင့် ပစ္စည်းထိန်းတို့၏ ဇနီးများကို ခေါ်ခိုင်း၏။ ပေါက်ယုသည် မာလာကို စိတ်မချသဖြင့် ပြန်လာခဲ့ရာ ငိုက်မျဉ်းနေသော မာလာကိုတွေ့ရ၏။ အိပ်ရာဝင်ရန်မှာလည်း စောနေလေ၏။ သို့ရာတွင် ကျင်ဝမ်း၊ ယီဆိုင်၊ ဝိဟင်းစသည့် အစေတော်တို့မှာ ယုန်ယမ်း၊ ယုပိုစသည်တို့နှင့်သွား၍ ကစားနေကြသည့်အတွက် ခန်းဆောင်ထဲတွင် ရှိယွေ့ တစ်ယောက်တည်းသာလျှင် မီးအိမ်အနီး၌ ဖဲဗေဒင်ကစားလျက်ရှိ၏။

"နင်ကော တခြားအစေတော်တွေနဲ့ သွားပြီး မကစားဘူးလား"

"ကျွန်မမှာ ပိုက်ဆံမရှိလို့ သခင်လေးရဲ့"

"သွား၊ ငါ့ ခေါင်းအုံးအောက်မှာ ပိုက်ဆံအိတ်ရှိတယ်။ ဒီလောက်ဆိုယင် ရှုံးလို့ရပြီပေါ့"

"ကျွန်မတို့အားလုံး သွားနေယင် ဒီမှာ ဘယ်သူရှိတော့မလဲ သခင်လေးရဲ့။ မာလာလဲ နေကောင်းတာ မဟုတ်ဘူး။ မီး ထင်း ကိစ္စရှိယင် ဘယ့်နှယ်လုပ်မလဲ။ အစေတော် အဘွားကြီးတွေလဲ ညဆိုယင် ပန်းကြပြီပေါ့။ နားချင်တော့မှာပေါ့။ ကျွန်မတို့ ငယ်ငယ်ရွယ်ရွယ်တွေကလဲ ကစားချင်ကြတာပေါ့။ ဒါနဲ့ ညည်းတို့ကစားချင်ယင် ကစားချည်ကြဆိုပြီး လွှတ်လိုက်တာ။ ဒီမှာ ကျွန်မ စောင့်နေခဲ့တာ"

သူလည်း မာလာလို တာဝန်သိတတ်၍ ကိုယ်ကျိုးမကြည့်တတ်သည့် အစေတော်တစ်ယောက်ဟု ပေါက်ယု တွေးမိ၏။

"ဒီမှာ ငါစောင့်နေလိုက်ပါ့မယ်ဟာ။ နင်သွားချင်ယင် သွားပါ။ ရပါတယ်"

"သခင်လေးရှိယင် ကျွန်မမှာ သာလို့တောင် သွားမဖြစ်သေးတယ်။ ရပါတယ်။ ဒီမှာတွင် သခင်လေးနဲ့ထိုင်ပြီး စကားပြောနေမှာပေါ့"

"နှစ်ယောက်တည်းစကားပြောရတာ ပျင်းစရာကြီးဟာ။ ဩော် ငါ သတိရပြီ။ မနက်က နင့်ခေါင်းတွေ ယားတယ်လို့ပြောတယ် မဟုတ်လား။ ဘာမှ အလုပ်လုပ်စရာမရှိတဲ့အတူတူ ငါ သန်းချပေးမယ်"

"သဘောပဲလေ"

ရှိယွေ့သည် သူ့မှန်တင်ခုံကိုသွားကာ ဆံညှပ်များကို ဖြုတ်လိုက်ပြီးနောက် ဆံပင်ကို ဖြေချလိုက်၏။ ပေါက်ယုက ဆံပင်ကို ဘီးဖြင့် ဖြီးချပေးနေစဉ် ကျင်ဝမ်းသည် ပိုက်ဆံကုန်သဖြင့် ပိုက်ဆံယူရန် အခန်းထဲသို့ ဝင်လာလေ၏။ သူတို့နှစ်ယောက်ကို မြင်သည့်အခါတွင် ကျင်ဝမ်းက ရယ်လိုက်ရင်း

"ဩော် သခင်လေးတို့များ ဖြစ်မှ ဖြစ်ရပလေ။ မိန်းမမှ မရသေးဘူး။ ခေါင်းဖြီးပေးနေရပြီနော်"

ပေါက်ယုက ရယ်လိုက်၏။

"လာ နင့်ကိုရော ငါ ဖြီးပေးမယ်"

"အမယ်လေး ကျွန်မတို့က ဒီလောက် ကံမကောင်းပါဘူး"

ကျင်ဝမ်းသည် ပိုက်ဆံကိုယူပြီးနောက် တံခါးပိတ်၍ ပြန်ထွက်သွား၏။

ရှိယွေ့မှာ မှန်တင်ခုံတွင် ထိုင်လျက်ရှိပြီး ပေါက်ယုက နောက်မှ ရပ်၍ သူ့ခေါင်းကို ဖြီးပေးနေ၏။ မှန်ထဲတွင် တစ်ယောက်မျက်နှာကို တစ်ယောက် လှမ်းကြည့်မိကြသည်တွင် ပေါက်ယုက ပြုံးလိုက်၏။

"အစေတော်တွေထဲမှာ ကျင်ဝမ်းက တော်တော်စွာတယ်နော်"

ရှိယွေ့က နှုတ်ခမ်းတွင် လက်ညှိုးကပ်၍ထောင်ပြစဉ် ကျင်ဝမ်းသည် အခန်းထဲသို့ ပြန်ဝင်လာကာ

"သခင်လေးစကားကဘာလဲ။ ဘာပြောတာလဲ"





ရှိယွေ့က ရယ်လိုက်လျက်

"ကျင်ဝမ်းကလဲဟယ်။ သွားစမ်းပါ။ ဒါလေးပြောတာပဲ"

"ဩော် ညည်းကတော့ သခင်လေးဘက်က ကာကွယ်မှာပေါ့။ ညည်းအကွက်တွေကို ငါသိတယ်နော်။ အေး နေနှင့်ဦး။ ငါရှုံးနေသေးလို့။ ညည်းနဲ့ စာရင်းမရှင်းအားသေးဘူး။ ပြန်လာမှရှင်းမယ်"

ထိုသို့ ပြောဆိုပြီးနောက် ကျင်ဝမ်းသည် အပြင်သို့ ထွက်သွားလေ၏။

ရှိယွေ့၏ခေါင်းကို ဖြီးပေးသည့်အခါ၌ ပေါက်ယုသည် မာလာ မသိအောင် သူ့ကို အိပ်ခန်းသို့လိုက်ပို့ရန် ရှိယွေ့ကိုပြော၏။

ထိုညနေပိုင်းမှာ တစ်စုံတစ်ရာ ထူးခြားမှုမရှိဘဲ ကုန်လွန်ခဲ့လေ၏။

နောက်တစ်နေ့မနက်တွင် မာလာမှာ ချွေးစို့ကာ နေကောင်းနေလေပြီ။ ယာဂုအနည်းငယ်ကို သောက်ပြီးနောက် အိပ်ရာထဲတွင် လှဲလျက်ရှိလေ၏။ မနက်စာ စားပြီးသည့်အခါ၌ ပေါက်ယုသည် အနည်းငယ် စိတ်သက်သာရာ ရသွားသည့်အတွက် ဒေါ်လေးဆွေ့တို့ အဆောင်ဘက်သို့ လာခဲ့လေ၏။

အချိန်မှာ နှစ်ဦး ပထမလဖြစ်သည့်အတွက် ကျောင်းများပိတ်ထားပြီး အမျိုးသမီးများမှာလည်း အချုပ်အလုပ်မလုပ်ရသဲ့ ရှောင်ရသည့်ကာလ ဖြစ်သည့်အတွက် အားလပ်လျက်ရှိကြ၏။ ကျိဟုန်မှာလည်း ပျင်းပျင်းရှိသည်နှင့် ပေါက်ကြည်၊ ယင်လင်း၊ ယင်အဲတို့နှင့်အတူ လာ၍ အန်စာပစ်လျက်ရှိ၏။ ပေါက်ယုလည်း အန်စာဝိုင်းတွင် ဝင်ထိုင်လိုက်၏။

ပေါက်ကြည်သည် ကျိဟုန်ကိုလည်း ပေါက်ယုကို ဆက်ဆံသည့်နှယ် ရင်းရင်းနှီးနှီး ဆက်ဆံသည့်အတွက် ကျိဟုန်အား မိမိဘေးတွင် အထိုင်ခိုင်း၏။ သူတို့အားလုံးမှာ တစ်ဝိုင်းကို ဆယ်ပြားကြေးဖြင့် ပစ်လျက်ရှိရာ ကျိဟုန်မှာ တစ်ဝိုင်းနိုင်သွားသည့်အတွက် စကားများလျက်ရှိ၏။ သို့ရာတွင် ဆက်ပစ်၍ ဆက်တိုက်ရှုံးလာသည့်အခါတွင်မူ ကျိဟုန်မှာ ပျာယာခတ်၍ လာခဲ့လေပြီ။

နောက်တစ်ဝိုင်းသို့ ရောက်သည့်အခါတွင် ကျိုဟုန်မှာ နိုင်ရန် ခြောက်မှတ်သာ လိုတော့လျက် ယင်အဲမှာ သုံးမှတ်သာကျန်တော့၏။ ကျိုဟုန်သည် ခွက်ထဲမှအန်စာတုံးနှစ်တုံးကို နာနာခေါက်လျက်ရှိလေ၏။ အန်စာတစ်လုံးမှာ ငါးကျပြီး တစ်လုံးမှာ လိမ့်နေ၏။ ယင်အဲက လက်ခုပ်တီးလျက်'တစ်'ဟုအော်နေစဉ် ကျိုဟုန်သည် အန်စာတုံးကို သေချာစွာလိုက်ကြည့်လျက်ရှိရာမှ 'ခြောက်၊ ခုနစ်၊ ရှစ်'ဟု အော်လျက်ရှိ၏။ နောက်ဆုံး အန်စာသည် လိမ့်ရာမှရပ်သွားကာ တစ် ကျလေ၏။ ကျိုဟုန်သည် အန်စာနှစ်လုံးနှင့် လောင်းကြေးများကို သိမ်းကျုံးယူလိုက်ကာ သူ ခြောက်ဂဏန်းကျ၍ နိုင်ပြီဟု ပြောဆိုလျက်ရှိ၏။

"ဘယ်က ခြောက်ဂဏန်းကျရမှာလဲ။ တစ်ဂဏန်းကြီးကျတာ အားလုံး မြင်သားပဲ"ဟ ယင်အဲကပြောလေ၏။

ကျိုဟုန် စိတ်လှုပ်ရှားနေသည်ကို မြင်သည့်အခါ၌ ပေါက်ကြည်သည် ယင်အဲကို မျက်စောင်းထိုး၍ ကြည့်လိုက်ကာ

"နင်က တော်တော် အငြင်းသန်တယ်။ ကျိုဟုန်က နင့်ကို ဘာဖြစ်လို့ ညစ်ရမှာလဲ၊ လုပ်၊ နင်လောင်းထားတာတွေ ပေးလိုက်။ နင်ရှုံးတာပဲ"ဟု ပြော၏။

ယင်အဲမှာ ပေါက်ကြည်က တစ်ဖက်သတ်အနိုင်ကျင့်ကာ ကျိုဟုန်ဘက်သို့ လိုက်သည်ကို မြင်သည့်အခါတွင် မကျေနပ်နိုင်ဘဲ အကြီးအကျယ် ဒေါပွလျက်ရှိသော်လည်း မည်သို့မျှမပြောရဲချေ။ ယင်အဲသည် ဆောင့်ကြီး အောင့်ကြီးဖြင့် ပိုက်ဆံကိုပစ်ပေးလိုက်ကာ

"အေးပါ ညစ်ကြပေါ့။ ကျွန်မက ပိုက်ဆံကလေး မဖြစ်စလောက်နဲ့ ပြောမနေချင်ပါဘူး။ အယင်တစ်ခါတုန်းက သခင်လေး ပေါက်ယုနဲ့ကစားတာ၊ သူ ပိုက်ဆံအများကြီး ရှုံးသွားပေမယ့် ဘာ တစ်ခွန်းမှ မပြောဘူး။ ကျွန်တော့်ပိုက်ဆံကို ဝိုင်းလုယူလိုက်တာတော ဘာမှ မပြောဘူး။ ရယ်နေတယ်"

ယင်အဲက တတွတ်တွတ်နှင့် ဆက်ပြောနေစဉ် ပေါက်ကြည်က စကားမပြောရန် အော်လိုက်၏။ ကျိုဟုန်က





"ပေါက်ယုနဲ့ သွားပြီးယှဉ်လို့တော့ ဘယ်ဖြစ်မလဲ။ ခင်ဗျားတို့က သူ့ကိုအလိုလိုက်ပြီး သူ့ကို မျက်နှာလုပ်နေကြတာကိုး။ ကျွန်တော်ကတော့ အငယ်အနှောင်းကမွေးတာဆိုတော့ ကျွန်တော့်ကို အနိုင်ကျင့်ကြတာပေါ့"

"ဒီလိုမပြောပါနဲ့ မောင်လေးရယ်။ တော်တော်ကြာ လူတွေကြားယင် မကောင်းပါဘူး။ မင်းကို ဝိုင်းလှောင်ကြမှာပေါ့"ဟု ပေါက်ကြည်က ပြော၏။

ပေါက်ယု ရောက်လာသည့်အခါတွင် ပေါက်ကြည်သည် ယင်အဲကို ဆူပူကြိမ်းမောင်းလျက် ရှိ၏။ ပေါက်ယုက အကျိုးအကြောင်းကို စုံစမ်းသည့်အခါတွင် ကျိုဟုန်မှာ မပြောရဲဘဲဖြစ်လျက် ရှိ၏။

ပေါက်ကြည်သည် ကျိမိသားစု၏ ထုံး တမ်း စဉ် လာ များ ကို ကောင်းစွာသိရှိပြီး ဖြစ်၏။ ထိုသို့ မိသားစုထုံးစံမှာ ငယ်သူက ကြီးသူကို အရိုအသေ ပေး ရ မြဲ ဖြစ်၏။ သို့ရာတွင် ပေါက်ယုသည် သူ့အား အကြောင်းမဲ့ ကြောက်ရွံ့ကြသည်ကို နှစ်မြို့ခြင်း မရှိကြောင်းကိုမူ ပေါက်ကြည် မသိချေ။ ပေါက်ယုက မိမိတို့တွင် ဆုံးမပဲ့ပြင်မည့်လူကြီးမိဘများရှိသည်။ ထို့ကြောင့် မိမိအနေဖြင့် အငယ်များ၏ ကိစ္စကို ဝင်ရောက်စွက်ဖက်ဟန့်တားခြင်း မပြုအပ်ဟု ပေါက်ယုက မကြာခဏ ပြောတတ်၏။ မိမိမှာ မယားကြီး၏သားဖြစ်၍ ကျိုဟုန် စသူတို့မှာ အငယ်အနှောင်းမှမွေးသော သားများဖြစ်ရာ ဘာမျှမလုပ်ဘဲနှင့်ပင် အနိုင်ကျင့်သည်ဟု ပြောတတ်ကြလေရာ ယခုကဲ့သို့ ပြောဆိုဆုံးမလျှင် ပေးက ပိုပြောစရာဖြစ်တော့မည်။ ထို့ကြောင့် ဘာမျှ မ ပြော ဟု ပေါက်ယု မကြာခဏပြောလေ့ ရှိပေ၏။

ထိုမျှမက ပေါက်ယုတွင် ထို့ထက်ဆန်းကြယ်သည့် စိတ်တစ်မျိုး ရှိသေး၏။ မည်သို့ဆန်းကြယ်သည်ကိုမူ အဆွေစာဖတ်သူတို့ သိကောင်းမှ သိပေလိမ့်မည်။ ပေါက်ယုသည် မိမိ၏အစ်မရင်းများဖြစ်သော ယွမ်ချွန်းနှင့် တန်ချွန်း၊ မိမိ၏ အစ်မဝမ်းကွဲများဖြစ်သော ယင်ချွန်းနှင့် ထိုချွန်း၊ အမေ့ဘက်မှ ဝမ်းကွဲအစ်မများဖြစ်ကြသော ဆိုင်ယွန်း၊ထိုက်ယုံ၊ ပေါက်ကြည် စသည့် မိန်းကလေးများကြားတွင် ကြီးပြင်းလူလား

မြောက်ခဲ့ရသူဖြစ်ရာ လောက တွင် လူသည် အမြတ်ဆုံး သတ္တဝါဖြစ် ပိန်းမဟုသည် သဘာဝတွင် အကောင်းဆုံး၊ အလှပဆုံးသော သာရတို့ စုဝေးရာဖြစ်ပြီး ပုရိသယောကျ်ားတို့မှာမူ အနည်အမှုန် သာဖြစ်ကြသည်ဟု ပေါက်ယု ယူဆ၏။ ထို့ကြောင့် ပုရိသယောကျ်ာ မည်သည် ညစ်ညမ်းသည့်သတ္တဝါများသာဖြစ်သည်ဟု ယူဆ၏။ ဦးလေးနှင့် အစ်ကိုတို့ကို ရှိသေလေးစားရမည်ဟူသော ကွန် ဖြူ အဆုံးအမကြောင့်သာလျှင် ပေါက်ယုသည် မိမိ၏အစ်ကိုများ၊ ညီအစ်ကိုများနှင့် ပေါင်းသင်း၍ဖြစ်နေခြင်း ဖြစ်၏။ မိမိသည် အခြ လူငယ်များ၏ စံနမူနာအဖြစ် နေ ပြ အပ် သည် ဟု လည်း ပေါ မထင်မှတ်ချေ။ ထို့ကြောင့်ပင် ကျိဟုန်စသည့် အငယ် များ ပေါက်ယုကို ရှိသေခန့်ညားခြင်း မရှိကြချေ။ မယ်မယ့်ကို ကြေ သဖြင့်သာ ပေါက်ယုစကားကို အထိုက်အလျောက် နားထောင်ကြ ဖြစ်၏။

ကျိဟုန်အား ပေါက်ယုက ဆူပူခြင်းပြုလျှင် ကျိဟုန်ကလ ခံမည်မဟုတ်သည့်အတွက် အခြေအနေ ဆိုးလာတော့မည်ကို ပေ ကြည် ရိပ်မိလိုက်၏။ ထို့ကြောင့် ပေါက်ကြည်သည် ကျိဟုန် ကာကယ်ပေးနေခြင်း ဖြစ်၏။

"ဒီမှာ ကျိဟုန်၊ မင်္ဂလာနှစ်ဦးမှာ ဒီလိုစကားများဖို့ မကော ပါဘူးကွာ။ မင်း ဒီနေရာမှာ မကစားချင်ဘူးဆိုယင် တခြားကို သွ ကစားချည်ပေါ့။ မင်းဟာက ပညာတွေသာ သင်နေတယ်။ တစ် တခြား ပိုတောင် ဆိုးလာပါသေးလား။ ဒီတစ်ခုက မကောင်းဘူ တခြားတစ်ခုက ကောင်းတယ်လို့ထင်ယင် အဲဒီကောင်းတဲ့ဆီကို သွ ပေါ့။ မင်း မကောင်းဘူးထင်တာကို ဘာဖြစ်လို့ ဖက် တွယ် ထား ပြ စကားများနေမလဲ။ ဒီလိုလုပ်ရုံနဲ့ ကောင်းလာမှာတဲ့လား။ မင်း ဒီကိုလာပြီး အပျင်းပြေကစားတယ်။ ကစားတော့ အပျင်းမပြေ မခံချော်ဘူး။ ဒီလိုဆိုယင် ဒီမှာဘာဖြစ်လို့ ဆက်ကစားနေဦးမလဲ။ တခြ ကို သွားကစားပေါ့။ ရှင်းရှင်းကလေးပဲ။ သွား၊ တခြားမှာ သွ ကစားချည်"





ကျိဟုန်သည် သခင်ကြီးကျိချိန်၏ အမြောင်မယားဖြစ်သည့် သူ့အမေချောထံ ပြန်သွား၏။

မျက်နှာမသာမယာသော မျက်နှာဖြင့် ပြန်လာသည့် သား ကျိဟုန်ကိုမြင်လျှင်

"ငါ့သား ဘာဖြစ်လာပြန်ပလဲ။ သားကို ဘယ်သူစော်ကား လွှတ်လိုက်ပြန်ပြီလဲ"

ကျိဟုန်က အဖြေမပေးသည့်အခါတွင် သူ့အမေသည် ထိုမေး ခွန်းကို ထပ်မေးပြန်၏။

"ကျွန်တော်က မလေး ပေါက်ကြည်နဲ့ အန်စာ ပစ်နေတာ။ ကိုလေးပေါက်ယုရောက်လာပြီး ကျွန်တော့်ကို နှင်ထုတ်တယ်"

ကျိဟုန်၏ အမေသည် တွ ခနဲ တံတွေးတစ်ချက် ထွေးလိုက်၏။

"နင်ကိုက သောက်ရှက်မှမရှိဘဲ။ အဲဒီအထဲကို သွားသွားပြီး မကစားပါနဲ့လို့ ငါ ဘယ်နှစ်ခါပြောရမလဲဟင်။ တခြားမှာ ကစားစရာ မရှိတော့ဘူးလား။ နေရာတကာမှာ နင်လိုက်ပြီးဂိုဟ်မွှေနေတာပဲ"

အနီးမှဖြတ်သွားသော နတ်ငှက်မယ်သည် သားအမိနှစ်ယောက် ရန်ဖြစ်နေသံကို ကြားသဖြင့် ပြတင်းဝတွင်ရပ်ကာ အထဲသို့လှမ်းကြည့် လိုက်ရင်း

"ဥပုသ်ရက်ကြီးမှာ သားအမိနှစ်ယောက် ဘာတွေဖြစ်နေကြ တာလဲဟင်။ ဒီလောက်လဲ မဆူပါနဲ့ချောရယ်။ ကျိဟုန်ဟာ ကလေးပဲ ရှိသေးတာ။ ကလေးတစ်ခုခုမှားယင် မှန်အောင်ပြင်ပေးမှပေါ့။ ဆူပူ ကြိမ်းမောင်းနေလို့ ဘယ်အကျိုးထူးပါ့မလဲ။ ဒီစံအိမ်ဝင်းထဲမှာ သူ ကြိုက်တဲ့နေရာ သွားကစားပါစေ။ မချုပ်ချယ်ပါနဲ့။ သူမှားယင် မယ်မယ်တို့၊ ဦးလေးကျိချိန်တို့က ဆုံးမမှာပေါ့။ ခုတော့ ကလေးကို ဗီလောက် ဆူနေလို့ ဘယ်ကောင်းပါ့မလဲ။ သူလဲပဲ ဦးလေးကျိချိန်ရဲ့ သား၊ ဒီအိမ်မှာ သူလဲ သခင်လေးတစ်ယောက်ပဲ။ သူ မတော်တာလုပ် ယင် ပြင်မယ့်လူတွေတစ်ပုံကြီး။ ကလေးကို ဒီလိုမဆူပါနဲ့။ လာ မောင် လေး ကျိဟုန်၊ မမနဲ့ လာကစားလှည့်"

ကျိုဟုန်သည် သခင်မကြီးဝမ်ကို ကြောက်သည်ထက် နတ်ငှက်မယ်ကို ပို၍ကြောက်၏။ ထို့ကြောင့် ဘာမျှမပြောရဲတော့ဘဲ နတ်ငှက်မယ်နောက်သို့ လိုက်သွားလေရာ မီးခင်လုပ်သူမှာလည်း မည်သို့မျှမပြောရဲတော့ချေ။

နတ်ငှက်မယ်က

"ဒီမှာ မောင်လေးကျိုဟုန်။ မင်းဟာ တော်တော်အမှတ်သညာမရှိတဲ့ ကောင်လေးပဲ။ ဒီစံအိမ်ဝင်းကြီးထဲမှာ မင်းကြိုက်တာကို စားနိုင်သောက်နိုင်တယ်၊ မင်းကြိုက်တဲ့နေရာကို သွားနိုင်တယ်၊ မင်းကစားချင်တဲ့ လူနဲ့ ကစားနိုင်တယ်လို့ မမ ခဏခဏ ပြောဖူးတယ် မဟုတ်လား။ ခုတော့ မမပြောတာကို မင်းနားမထောင်ဘူး။ မကောင်းတဲ့အတုတွေသင်၊ မကောင်းတဲ့အတတ်တွေတတ်၊ ဒီလိုသာ ကိုယ့်ကိုယ်ကို မနေတတ်မထိုင်တတ်ယင် မင်း လူ့အောက်ကျမယ် သိရဲ့လား။ ကစားဝိုင်းမှာ ညစ်တော့ မင်းကညစ်တယ်။ ပြီးတော့ သူများက အနိုင်ကျင့်တယ်လို့ မင်းလျှောက်တိုင်တယ်။ ဒီလိုလုပ်တာ ဘယ်ကောင်းမလဲ။ ဒီလိုလုပ်ရအောင် အန်စာဝိုင်းမှာ ဘယ်လောက်များ ရှုံးလာလို့လဲ"

"နှစ်ရာလောက် ရှုံးလာတယ်ခင်ဗျ" ဟု ခပ်တိုးတိုးဖြေ၏။

"အင်း ငွေလေး နှစ်ရာလောက်ရှုံးတာကို ဒီလောက်ဖြစ်နေရသလားကွယ်။ မင်းလဲ သခင်လေးတစ်ယောက်ပဲဟာ"

နတ်ငှက်မယ်သည် အစေတော် ဖုန်အဲကို လှမ်းခေါ်လိုက်ပြီးနောက်

"ပိုက်ဆံတစ်ထုပ်လောက် သွားယူချေစမ်း။ ပြီးတော့ သူ့ကို ပေါက်ကြည်တို့ ကစားတဲ့ဆီကို လိုက်ပို့လိုက်။ ကစားယင် မညစ်နဲ့။ နောက်တစ်ခါ ဒီလိုညစ်တယ်လို့ကြားယင် မမကိုယ်တိုင် မင်းကို အရိုက်ပဲ။ ပြီးတော့ မင်းဆရာကိုလဲ တိုင်မယ်။ မင်းဒီလိုညစ်လို့ မင်းအစ်ကိုကျိုလျံက မင်းကို မချစ်ဘဲ ရိုက်မှယ်လို့ လုပ်တာပေါ့။ ခုလဲ ဒီသတင်းကြားယင် မင်းကို အရေဆုတ်ပစ်မှာ။ ကဲ သွားတော့။ ကောင်းကောင်းကစားချည်"





"ဟုတ်ကဲ့ မမ" ဟု ဆိုကာ ကျိုဟုန်သည် ဖုန်အဲနှင့်အတူ ပိုက်ဆံထုပ်ကို ကိုင်၍ထွက်သွား၏။ ထိုနောက် ယင်ချွန်းတို့နှင့် ကစားနေလေ၏။ သူ့အကြောင်းကို ဤတွင် တော်လောက်ပြီ။

ပေါက်ယု အကြောင်းကို ပြန်ကောက်ကြဦးစို့။ ပေါက်ယုသည် ပေါက်ကြည်နှင့် ရယ်စရာ မောစရာများကို ပြောဆိုနေကြစဉ် "သခင်မလေး ရှိစမ်းယဉ် လာပါတယ်" ဟု လာရောက်ပြော၏။

ပေါက်ယုသည် ထိုင်ရာမှ ထလာကာ ရှိစမ်းယဉ်ကို ကြိုဆိုရန် ထွက်လာခဲ့၏။

"နေဦးလေ။ ပေါက်ကြည်ပါလိုက်မယ်"

ပေါက်ကြည်သည် ခုတင်မီးဖိုပေါ်မှ ဆင်းလာကာ ပေါက်ယုနှင့်အတူ မယ်မယ်၏ ခန်းဆောင်ဘက်ဆီသို့ လာခဲ့၏။ မယ်မယ်၏ မြေးမတစ်ယောက်ဖြစ်သော ရှိစမ်းယဉ်သည် မယ်မယ်နှင့် ရယ်မောစကားပြောလျက်ရှိ၏။ နှုတ်ဆက်ကြပြီးနောက် ထိုနေရာတွင်ရောက်နေသည့် ထိုက်ယုက ပေါက်ယု ဘယ်ရောက်နေသနည်းဟု မေး၏။

"မမပေါက်ကြည်တို့ဘက်မှာ ရောက်နေတာ"

ထိုက်ယုက ဆောင့်အင့်အင့်အသံဖြင့်

"ထင်သားပဲ အပျင်းဖြေစရာ အဖော်ရနေလို့ တော်ပေသေးတာပေါ့။ နို့မို့ယင် ခုလောက်ဆို မောင်လေးတို့ ဒီမှာတောင် ရှိတော့မှာ မဟုတ်တော့ဘူး"

ပေါက်ယုက ပြုံးလိုက်လျက်

"ဒါကတော့ ဒီလိုပေါ့ မလေးရယ်။ ပေါက်ယုမှာလဲ မလေးတစ်ယောက်တည်းနဲ့ ကစားနေလို့မှ မဖြစ်တာ။ အပေါင်းအဖော်ဆိုတာ ရှိရတာပေါ့။ သူ့ဆီကို တစ်ခေါက်တလေလေး သွားတာကို မလေးက သိပ်ပုံကြီးချဲ့မနေပါနဲ့"

"အမယ်လေး၊ မချဲ့ပါဘူး၊ မချဲ့ပါဘူး၊ အဝေးကြီးပါ။ မောင်လေး ဘာသာ တစ်ခေါက်မကလို့ အခေါက်တစ်ရာပဲ သွားသွား၊ ကိုယ်နဲ့မဆိုင်ပါဘူး။ မလေးကိုလဲ လာပြီးအပျင်းဖြေလှည့်ပါလို့ မခေါ်ဖူးပါဘူးနော်။ ကဲ မလာခဲ့ပါနဲ့။ ကောင်းပါတယ်"

ထိုက်ယုသည် အခန်းထဲမှ ခြေဆောင့်၍ ထွက်သွားလေ၏။ ပေါက်ယုက နောက်မှလိုက်သွားကာ

"မလေးက တော်တော်ဧကတာပဲ။ ဘာဖြစ်လို့ အဓိပ္ပာယ်မရှိ စိတ်ထောက်နေရတာလဲ။ လူတွေရှေ့မှာ ခုလို စိတ်ကောက်ပြီး ထွက်သွားတာ ဘယ်ကောင်းပါ့မလဲ။ တကယ်လို့ ပေါက်ယုက စကားမှား ယင်တောင် အဲဒီမှာထိုင်ပြီး စကားစမြည် ပြောနေဖို့တော့ ကောင်းတာပေါ့"

"အို ကိုယ့်ဘာသာကိုယ် ထသွားတာ မောင်လေးနဲ့ မဆိုင်ပါဘူး။ အနေသာကြီးပါ"

"ဟုတ်ပါတယ်လေ။ ပေါက်ယုနဲ့တော့ ဘာမှ မဆိုင်ပါဘူး။ ဒါပေမယ့် ဒီလိုလုပ်တာ ဘယ်ကောင်းမလဲ။ ပြီးတော့ မလေး ကျန်းမာရေးကို စိုးရိမ်လို့ပြောတာပါ"

"အိုး မပူပါနဲ့။ မကျန်းမာလို့ သေသွားတော့ကော မောင်လေးအပူ တစ်ပြားသား မရှိပါဘူး။ အနေသာကြီးပါ"

"နှစ်ဦးမှာ သေစကား ရှင်စကားတွေ မပြောကောင်းပါဘူး မလေးရယ်။ မပြောပါနဲ့"

"ပြောရမယ်။ ဒီက သေချင်နေတာ ကြာလှပြီ။ ဒါကြောင့် ပြောတာ။ မောင်လေးအနေနဲ့ သေမှာ ကြောက်ယင်တော့ အသက်တစ်ရာပြည့်အောင် နေပေါ့။ ဒီကတော့ မနေပါဘူး။ သေရမှာလဲ မကြောက်ပါဘူး"

ပေါက်ယုက ပြုံးလိုက်လျက်

"မလေး ဒီလို စိတ်ဆိုးပြီးသုန်မှုန်နေတာကို အမြဲ တွေ့နေရမယ်ဆိုယင် ပေါက်ယုလဲ သေရမှာကို မကြောက်ပါဘူး။ ဒီလို မြင်ရတာထက်စာတော့ သေရတာကတောင် ပိုကောင်းပါသေးတယ်"

"တကယ်လား။ ဒီလိုသုန်မှုန်နေတာကို မြင်ရတာထက် သေရတာက ပိုကောင်းတယ်ဟုတ်လား" ဟု ထိုက်ယုက စိတ်အားထက်သန်စွာ မေး၏။





"ပေါက်ယုအတွက် သေသွားတာက ပိုကောင်းတယ်လို့ ပြောတာနော်။ စကား အထအန မကောက်နဲ့၊ မလေးကိုပြောတာ မဟုတ်ဘူး။ ကိုယ့်ကိုယ်ကိုပြောတာ"

သူတို့နှစ်ယောက် ငြင်းခုံနေကြစဉ် ပေါက်ကြည် ရောက်လာကာ

"မလေး ရှိစမ်းယဉ်က မေးနေတယ်"

ပေါက်ကြည်သည် ပေါက်ယုကို ဆွဲခေါ်သွားလေ၏။

ဤရှုခင်းကိုမြင်လျှင် ထိုက်ယုရင်ထဲတွင် ပို၍ ဗလောင်ဆူလျက်ရှိကာ ပြုတင်းပေါက်တွင်ထိုင်ရင်း အားရပါးရ ငိုရှိုက်လျက်ရှိ၏။

သို့ရာတွင် လက်ဖက်ရည်နှစ်ခွက်သောက်၍ မကုန့်တကုန် အချိန်လောက်တွင် ပေါက်ယုသည် ပြန်ရောက်လာ၏။ ထိုက်ယုသည်ပေါက်ယုကို မြင်လိုက်သည့်အခါတွင် ပို၍ စိတ်ထိခိုက်သွားပြန်ကာ ရှိုက်ကြီးတငင် ငိုလျက်ရှိ၏။ ထိုက်ယုသည် စိတ်ကြီးသူဖြစ်ရာ သူ့ကို တော်တော်နှင့်ချော့၍ ရမည်မဟုတ်ကြောင်း သိသည့်အတွက် ပေါက်ယုသည် ပူတတ်နိုင်သလောက် ချော့မော့ရန် ပြန်ဝင်လာခဲ့ခြင်းဖြစ်၏။ သို့ရာတွင် ပေါက်ယုက မည်သို့မျှမပြောရသေးမီ ထိုက်ယုက

"သွားပါ၊ ဘာဖြစ်လို့ ပြန်လာရသေးသလဲ။ မောင်လေးမှာ ကစားဖော် အသစ်တစ်ယောက် တွေ့နေပြီ မဟုတ်လား။ မလေးထက် စာဖတ်လဲတော်၊ စာရေးလဲတော်၊ ကဗျာစပ်လဲတော်၊ စကားပြောလဲ တော်တဲ့သူနဲ့ သွားနေပေါ့။ မောင်လေးနဲ့များဆိုယင် စကားပြောလိုက်တာကလဲ သဲ့သဲ့ သဲ့သဲ့နဲ့။ ရယ်လိုက်တာကလဲ တဟာင့်ဟင့်နဲ့။ ပြီးတော့ မောင်လေး စိတ်ကောက်မှာစိုးလို့ ဆွဲခေါ် သွားလိုက်တာ တော်တော်လဲ အလိုက်သိတယ်နော်။ သွားလေ။ သူနဲ့သွားကစားချည်ပေါ့။ မလေးဘာသာ တစ်ယောက်တည်း အေးအေးဆေးဆေး သေသွားတာ ကောင်းပါတယ်"

ပေါက်ယုက သူ့အနီးတွင်ရပ်လိုက်လျက် ချိုသာသည့် အသံဖြင့်

"မလေးလဲ စဉ်းစားဉာဏ်ရှိတဲ့ မိန်းကလေး တစ်ယောက်ပဲ။ အနီးက ဆွေမျိုးတွေကြားထဲမှာ အဝေးကဆွေမျိုး ကြားဝင်လို့ မရပါဘူး မလေးရယ်။ ပြီးတော့ မိတ်ဆွေသူငယ်ချင်းဟောင်းကို မိတ်ဆွေ

သူငယ်ချင်းသစ်နဲ့ အစားထိုးလို့လဲ မရပါဘူး။ ဒါကို မလေးသိသင့်ပါတယ်။ ပေါက်ယုဟာ လူအတစ်ယောက် ဖြစ်ပေမယ့် ဒီလောက်တော့ သိပါတယ်။ ကြည့်စမ်း။ မလေးဟာ ပေါက်ယုအဖေရဲ့ ညီမရဲ့သမီး။ ပေါက်ကြည်ဆိုတာက အမေ့ဘက်ကတော်တဲ့ ဝမ်းကွဲပါ။ မလေးဟာ ပေါက်ကြည်ဘက် ပိုပြီး သွေး ရင်း တာ ပေါ့။ ပြီး တော့ မလေး က ပေါက်ယုတို့စံအိမ်ကြီးကို အလယ်ရောက်တဲ့ လူ။ ထမင်းကို တစ်စားပွဲတည်းစားပြီး ကစ်အိပ်ရာတည်း အိပ်ခဲ့ကြသူ။ ငယ်ငယ်ကလေးတည်းက အတူတူ ကြီးပြင်းခဲ့ကြသူ။ ပေါက်ကြည်ဆိုတာက မနေ့ တစ်နေ့ကမှ ရောက်လာတာ။ သူ့ကြောင့် မလေးကို ပေါက်ယု အခင်အမင် ပျက်ပါ့မလား။ မလေးအပေါ်မှာ ရင်းနှီးမှု လျော့သွားပါ့မလား''

''မလေးက သူ့ကိုလဲ ရင်းနှီးမှုလျော့ရမယ်လို့ မပြောဘူးနော်။ မောင်လေး တလွဲမကောက်နဲ့။ ဒါကြောင့်မို့ မလေး စိတ်ထိခိုက်ရတာ''

''ပေါက်ယုအဖို့ သူ စိတ်ထိခိုက်တာက အရေး မကြီးပါဘူး။ မလေး စိတ်ထိခိုက်တာက အရေးကြီးပါတယ်။ မလေးက မလေး စိတ်ကိုပဲသိပြီး ပေါက်ယုစိတ်ထဲမှာ ဘာတွေဖြစ်နေတယ် ဆိုတာကိုတော့ မသိဘူးနော်''

ထိုက်ယုသည် ဘာမျှမပြောတော့ဘဲ ခေါင်းကို ငုံ့ထားလေ၏။ အတန်ကြာမှ

''သူများကျတော့ အပြစ် ရှာတတ်လိုက်တာ၊ ပြောတတ်လိုက်တာ၊ သူ့အပြစ်ကျတော့ သူမမြင်ဘူး။ ကြည့်ပါဦး၊ ဒီလောက်အေးရချမ်းရတဲ့အကထဲမှာ ဘာဖြစ်လို့ မြေခွေးမွေး ဝတ်ရုံကို ဝတ်မလာသလဲ''

ပေါက်ယုက ရယ်လိုက်၏။

''စောစောတုန်းကတော့ ဝတ်ထားတာပဲ။ ဒါပေမယ့် မလေး စိတ်ဆိုးတာကိုမြင်တော့ လူလဲ ထူပူလာပြီး ချွတ်ပစ်လိုက်မိတာ''

''ကဲ ဝတ်တော်မူရှင့်။ တော်တော်ကြာ အအေးမိလို့ ဟုတ်ပေ့ရှိနေလိမ့်မယ်''





ထိုစဉ် ရှီစမ်းယဉ် ရောက်လာ၏။ ရှီစမ်းယဉ်က အားရ ဝမ်းသာဖြင့်

''အေ့ * မောင်လေးနဲ့ မမတို့က နေ့တိုင်း တွေ့ရတာပါ။ စမ်းယဉ်မှာ တစ်ခါတလေမှ တွေ့ရတာ။ ဒါတောင် စကားပြောဖော် မရကြဘူး''

ထိုက်ယုက ရယ်လိုက်လျက်

''မ စကားအိုးရဲ့။ စကားကိုလဲ ပီအောင်ပြောပါ။ 'အေ'နဲ့ 'အား'ကို ပီအောင်ပြောပါ။ အန်စာပစ်ယင် သူ ဘယ်လိုအော်မလဲ မသိဘူး။ တစ်၊ အချစ်၊ သုံး၊ လေး၊ ငါးလို့များ အော်နေမလား မသိဘူး''

''အမယ် သူ့အတုလိုက်ခိုးပြီး ပြောနေယင် တော်တော်ကြာ မလေးလဲ ယောင်ပြီး စကားမပီဘဲ ဖြစ်သွားလိမ့်မယ်''

''ကြည့် သူများ စကားမပီတာကိုပဲ လိုက်ပြောင်နေကြတယ်။ သူများကို ဒီလို မပြောင်ကြနဲ့။ စမ်းယဉ်မကြိုက်ဘူး။ သိပါတယ်။ စမ်းယဉ်တို့ကိုသာ စရဲသာပါ။ တချို့လူတွေကျတော့ မစရဲပါဘူး။ သူ့ကို စရဲယင် စမ်းယဉ် အရှုံးပေးပါတယ်''

''ဘယ်သူ့ကိုလဲ''ဟု ထိုက်ယုက မေး၏။

''ပေါက်ကြည်ရယ်။ သတ္တိရှိယင် မလေး ပေါက်ကြည်ကို သွားစကြည့်ပါလား။ ဟိုက ဘယ်ခံမလဲ။ စမ်းယဉ်တို့ကတော့ မလေး ထိုက်ယုနဲ့ မယှဉ်နိုင်ရဲပါဘူး။ မလေးထိုက်ယုက မမပေါက်ကြည်နဲ့သာ ယှဉ်လောက်တာပါ''

ထိုက်ယုက မျက်နှာကို ရှုံ့လိုက်ရင်း

''အမယ်လေး ဒီက ဘယ်သူများလဲလို့။ ဒီကလဲ သူ့ကို အရေးမဝင်ပါဘူး။ ကိုယ့်အထာနဲ့ကိုယ် နေတာပါ''

ပေါက်ယုက စကားဖြတ်၍ ပြောသည့်တိုင် ရှီစမ်းယဉ်က မရပ်သေးဘဲ

"စမ်းယဉ်တို့ကတော့ မလေးထိုက်ယုနဲ့ မယှဉ်သာပါဘူးရှင်။ မလေးလဲ စမ်းယဉ်လို စကားမပီတဲ့ယောကျ်ားကို ရပါစေလို့ ဆုတောင်းပါတယ်။ ဒါမှ စကားမပီတော့ (နှစ်)ကို ပြောတာမပီဘဲ အော့*(ချစ် ချစ် ချစ်)နဲ့ တစ်နေ့လုံး ချစ်ဆိုတဲ့အသံကို ကြားနေရမှာ။ မလေးတို့ယောကျ်ားရတာကို မြင်ချင်လိုက်ပါဘိတော့။ အဓိဒ္ဓ ဗုဒ္ဓ မြတ်စွာဘုရား...."

သူ့စကားကြောင့် အားလုံး ရယ်လိုက်ကြ၏။ ရှီစမ်းယဉ်သည် ထိုသို့ပြောပြီးလျှင် အပြင်ဘက် ပြေးထွက်သွား၏။

အဆက်ကို သိလိုလျှင် နောက်တစ်ခန်းကို ဖတ်ပါလေ။

*အော့မှာ 'ချစ်'ဟု အဓိပ္ပာယ်ထွက်ပြီး 'အား'မှာ နှစ်ဟု အဓိပ္ပာယ်ထွက်သည်။





## အခန်း ၂၁

လိပ္ပာသော မာလာသည် ပေါက်ယုအား ညှင်းပျောင်းစွာ သင်ကြားပေးခြင်း။

လုပသော ပင်အဲသည် ကျိလျံအား တိတ်ဆိတ်စွာ ကယ်ဆယ်ခြင်း။

ထိုက်ယုက လိုက်၍ထုသည့်အတွက် ရှီစမ်းယဉ်သည် အခန်းထဲမှ ထွက်ပြေးစဉ် ပေါက်ယုက နောက်မှနေ၍ "စမ်းယဉ် လိမ့်ကျမယ်နော်။ မလေးက စမ်းယဉ်ကို မိအောင်မလိုက်နိုင်ပါဘူး" ဟု အော်ပြော၏။ ထို့နောက် ထိုက်ယုရှေ့မှ ဆီး၍တားလိုက်ပြီးလျှင် "ဒီတစ်ခါတော့ ချမ်းသာပေးလိုက်ပါ မလေးရယ်" ဟု ပြုံး၍ပြော၏။ ထိုက်ယုက သူ့လက်မောင်းကို ဆွဲဖယ်ရင်း

"မရဘူး။ သူ့ကိုမလုပ်ရယင် မလေးဘာသာလုပ်မယ်" ဟု ငို၍ပြော၏။

ပေါက်ယုက တံခါးဝမှ ဆီးပိတ်ထားသဖြင့် သူ့နောက်သို့ ထိုက်ယု မလိုက်နိုင်တော့သည်ကို မြင်သည့်အခါ၌ ရှီစမ်းယဉ်သည် ရပ်၍ ရယ်လျက်က

"ဒီတစ်ခါတော့ ချမ်းသာပေးပါ မလေးရယ်။ တကယ်ပြောတာပါ။ တစ်ခါတည်းပါ"

ထိုအချိန်တွင် သူတို့အနားသို့ ရှောက်လာသည့် ပေါက်ကြည်က

“ဟုတ်သားပဲ မလေးရယ်။ မောင်လေးပေါက်ယုကို ချစ်တဲ့အနေနဲ့ နှစ်ယောက်စလုံးက တော်ကြပါတော့”

“မတော်နိုင်ဘူး။ ဘာလဲ ပေါက်ကြည်တို့က မလေးကို ဝိုင်းပြီး တစ်ကျိတ်တည်း တစ်ကြံတည်း လုပ်ကြတာပေါ့။ ဟုတ်လား”

ပေါက်ယုက

“မလေးကို မစရဲပါဘူးဗျာ။ မလေးက သူ့ကို အယင်စ,တာပဲဟာ။ မလေးမစယင် သူ ဘယ်မှာစပါ့မလဲ”

သူတို့လေးယောက် စကားများနေကြစဉ် ထမင်းစားရန် လာခေါ်သဖြင့် ဆည်းဆာအမှောင်ထဲတွင် သူတို့လေးယောက်သည် မယ်မယ်၏ အဆောင်ခန်းများဆီသို့ ကူးလာခဲ့ကြ၏။ သခင်မဝမ်၊ လိဝမ်၊ နတ်ငှက်မယ်နှင့် အခြားမိန်းမပျို သုံးယောက်မှာ ရောက်နှင့်နေကြလေပြီ။ ညစာစားပြီးနောက် စကားစမြည်ပြောကာ လူစုခွဲ၍ လာခဲ့ကြ၏။ ရှိစမ်းယဉ်မှာ ထိုက်ယု၏ နေ်းဆောင်သို့ လိုက်လာခဲ့လေရာ ပေါက်ယုသည် သူတို့နှစ်ယောက်ကို လိုက်ပို့၏။ သန်းခေါင်ကျော်၍ မာလာက ပေါက်ယုအား အခန်းသို့ပြန်အိပ်ရန် တကျီကျီလာပြောသည့် အခါကျမှပင် ပေါက်ယုလည်း မိမိခန်းဆောင်သို့ ပြန်လာခဲ့၏။

နောက်တစ်နေ့ မနက်လင်းသည်နှင့် တစ်ပြိုင်နက် ပေါက်ယုသည် အဲဝတ်အစားကို ကပျာကယာလဲကာ ဖိနပ်ကို ကောက်စွပ်ပြီးလျှင် ထိုက်ယု၏ ခန်းဆောင်ဘက်သို့ လာခဲ့၏။ ထိုက်ယု၏ အစေတော်များဖြစ်သော ဇူချွန်းနှင့် စွေ့ယင်တို့ကိုလည်း မတွေ့ရချေ။ တန်ချွန်းတို့ယင်ချွန်းတို့တစ်တွေမှာလည်း အိပ်ရာမှ မထကြသေးချေ။ ထိုက်ယုသည် မျက်လုံးများကိုမှိတ်ကာ ငြိမ်သက်စွာ လှဲလျက်ရှိလေ၏။ သူ့ကိုယ်ပေါ်တွင် ဆီးသီးရောင် ပိုးစောင်ကို လွှမ်းထား၏။ ရှိစမ်းယဉ်၏ နက်မှောင်သော ဆံပင်များသည် ခေါင်းအုံးပေါ်တွင် ဝဲကျလျက်ရှိ၏။ စောင်မှာ ပခုံးအောက်သို့ လျှောကျလျက်ရှိသဖြင့် ရွှေလက်ကောက်နှစ်ကွင်းဆင့်ဝတ်ထားသည့် ဖြူဖွေးသည့် သူ့လက်တစ်ဖက်သည် စောင်ပြင်တွင် ရောက်နေ၏။ ပေါက်ယုသည် အိပ်ပျော်နေသည့် ရှိစမ်းယဉ်ကို ကြည့်လိုက်ရင်း





“အင်း အိပ်ပျော်နေတုန်းမှာတောင် ဂနာမငြိမ်ဘဲကိုး။ တော်တော်ကြာ အအေးမိယင် ခေါင်းကိုက်ပြီး ဇက်ကြီးခိုင်နေဦးမယ်”ဟု စိတ်ထဲမှဆိုကာ ရှိစမ်းယဉ်ကို ပခုံးသို့ရောက်အောင် စောင်ခြုံပေး၏။

ယခုအချိန်တွင် အိပ်ရာနိုးနေပြီဖြစ်သည့် ထိုက်ယုသည် မိမိအနားတွင် လူတစ်ယောက် ရောက်နေသည်ကို သိလိုက်ပြီး ပေါက်ယုဖြစ်ကြောင်းကို ရိပ်မိ၏။ ထိုက်ယုသည် သေချာအောင် အနီးပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက်ပြီးလျှင်

“မနက်အစောကြီး ဘာလာလုပ်နေတာလဲ”

“ဘယ်ကလာ စောရမှာလဲ။ ဘယ်အချိန်ရှိပြီလဲ ဆိုတာကိုလဲ ကြည့်ဦး”

“မလေးတို့ ထစေချင်ယင် မောင်လေးက အပြင်ထွက်နေမှပေါ့။ မောင်လေးက တော်တော်ခက်တာပဲ”

ပေါက်ယု အပြင်ခန်းသို့ ထွက်လာသည့်အခါတွင် ထိုက်ယုသည် ရှိစမ်းယဉ်ကို နှိုးလိုက်၏။ သူတို့နှစ်ယောက် အိပ်ရာမှထ၍ အဝတ်အစား လဲပြီးသည့်အချိန်ကျမှ ပေါက်ယုသည် အခန်းထဲသို့ ပြန်ဝင်လာကာ မှန်တင်ခုံအနီးတွင်ထိုင်ရင်း သူတို့နှစ်ယောက် အလှပြင်နေကြသည်ကို ကြည့်နေ၏။ အစေတော်များဖြစ်သည့် ဇူချွန်းနှင့် စွေ့ယင်တို့သည် သူတို့နှစ်ယောက်ကိုကူ၍ ပြင်ဆင်ပေးနေ၏။ ရှိစမ်းယဉ် မျက်နှာသစ်ပြီးသည့်အခါ၌ စွေ့ယင်သည် ရေကိုသွန်ပစ်ရန် ဇလုံကြီးကို အပြင်ဘက်သို့ ယူသွား၏။

“နေဦး စွေ့ယင်။ ငါလဲ တစ်ခါတည်း ဒီမှာမျက်နှာသစ်လိုက်တော့မယ်။ အခန်းကို ပြန်မသွားတော့ဘူး”

ပေါက်ယုသည် ဇလုံဆီသို့သွားကာ ကုန်း၍မျက်နှာသစ်နေ၏။ ဇူချွန်းက ဆပ်ပြာပေးသည့်အခါတွင် “ဟင့်အင်း၊ တော်ပြီ။ ဒီမှာ ဆပ်ပြာတွေအများကြီး ရှိနေတာပဲ၊ ဘာလုပ်ဖို့လဲ”ဟု ပြော၏။ ထို့နောက် မျက်နှာသုတ်ရန် မျက်နှာသုတ်ပဝါ တောင်း၏။

“ကြည့်စမ်း၊ သခင့်လေးဟာ အယင်တုန်းကလိုပဲ။ ခုထက်ထိ ကလေးစိတ် မပျောက်သေးဘူး”ဟု စွေ့ယင်က ပြော၏။

ပေါက်ယုသည် သူပြောသည့်စကားကို မကြားယောင်ပြုကာ သွားတိုက်ရန် ဆားတောင်းပြီးလျှင် ပါးစပ်ကို ကျင်း၏။ သူသွားတိုက်ပြီးသည့်အခါ၌ ရှီစမ်းယဉ်မှာ ဆံပင်ဖြင့်ပြီးနေလေပြီ။ ထို့ကြောင့် ပေါက်ယုသည် ရှီစမ်းယဉ်ထံ သွားကာ

"ပေါက်ယု ဆံပင်ကိုလဲ ဖြီးပေးစမ်းပါဦး"

"ကိုယ့်ဘာသာကိုယ် ဖြီးပါလား"

"လုပ်စမ်းပါ စမ်းယဉ်ရယ်။ အယင်တုန်းကလဲ ဖြီးပေးနေတာပဲဟာ"ဟု ပြုံး၍ နားပူနားဆာ လုပ်နေ၏။

"မောင်လေးဆံပင်ကို ဘယ်လိုထုံးရမယ်ဆိုတာ မေ့နေပြီ"

"ကိစ္စမရှိဘူးလေ။ ကျစ်ပေးလိုက်ပေါ့။ ဒီနေ့ အပြင်ထွက်မှာလို့။ ဦးထုပ်လဲ ဆောင်းမသွားချင်ဘူး"

ပေါက်ယုသည် အနားတွင်ကပ်၍ တကျီကျီလုပ်လျက်ရှိလေရာ နောက်ဆုံးတွင် ရှီစမ်းယဉ်မှာ မနေသာတော့ဘဲ ပေါက်ယု၏ခေါင်းကို ကိုင်၍ ဆံပင်ဖြီးပေးရလေ၏။ ပေါက်ယုမှာ အိမ်တွင်နေလျှင် ဦးထုပ်ဆောင်းခြင်းမရှိသည့်အတွက် ရှီစမ်းယဉ်သည် ဆံပင်တိုများကို ကျစ်ပေးလိုက်ပြီး အပေါ်တွင် သျှောင်ပေစူးကိုထုံးကာ ကြိုးတစ်ချောင်းဖြင့် စည်းပေးထားလိုက်၏။ သျှောင်ထုံးပေါ်တွင် ပုလဲဆံညှပ်လေးချောင်း ထိုးပေးပြီးနောက် ရွှေမြိတ်တစ်ခုကိုလည်း ချပေးလိုက်၏။

"ဟင် ဒီဆံညှပ်မှာ ပုလဲသုံးလုံးပဲ ရှိပါတော့လား။ တစ်လုံးက နဂိုပုလဲမှမဟုတ်ဘဲ။ နောက်ထည့်ထားတာ။ အယင်တုန်းက ပုလဲတွေအားလုံး ဆင်တူချည်းပဲ။ တစ်လုံး ဘယ်ရောက်သွားလို့လဲ"

"ပျောက်သွားလို့"

"အပြင်မှာ ကျကျန်ရစ်ခဲ့တာ ဖြစ်မှာပေါ့။ စောစောက်ရတဲ့ လူတော့ ပွတာပဲ"

အနီးတွင် လက်ဆေးနေသည့် ထိုက်ယုက လှောင်ပြုံးပြုံးလိုက်ရင်း

"ပျောက်တာလား။ ရင်ထိုးမှာတပ်ဖို့ တစ်ယောက်ယောက်ကို ပေးတာလား။ ရှင်းရှင်းလုပ်ပါနော်"





ပေါက်ယုသည် ဘာမျှမပြောတော့ဘဲ မှန်တင်ခုံပေါ်ရှိ အလှပြင် ပစ္စည်းများကို ကောက်ကိုင်ကြည့်နေ၏။ ထိုစဉ် သူ့လက်များသည် နှုတ်ခမ်းဆိုးဆေးသို့ ရောက်သွားကြလေ၏။ ပေါက်ယုသည် ရှီစမ်းယဉ် မမြင်အောင် နှုတ်ခမ်းနီဆိုးဆေးတောင့်ကိုယူကာ နှုတ်ခမ်းကို တို့ကြည့်နေစဉ် ရှီစမ်းယဉ်သည် နောက်မှနေ၍ ပေါက်ယု၏သျှောင်ကို လက်တစ်ဖက်နှင့် ကိုင်ထားရင်းက ကျန်လက်တစ်ဖက်ဖြင့် နှုတ် ခမ်း နီ ဘူး ကို လှမ်းဆွဲလိုက်ကာ

"မောင်လေး၊ ဒီလိုနောက်ရွတ်ရွတ်အကျင့်တွေကို မပျောက်သေးဘူးလားဟင်"

ထိုစဉ် မာလာသည် ခန်းဆောင်ထဲသို့ ဝင်လာ၏။ သို့ရာတွင် ပေါက်ယု ဖြီးလိမ်းပြင်ဆင်နေသည်ကို မြင်သည့်အတွက် ပြန်ထွက်သွားလေ၏။ မာလာသည် မိမိခန်းဆောင်သို့ ပြန်သွားကာ လုပ်စရာရှိသည့် အလုပ်များကို လုပ်နေစဉ် ပေါက်ကြည်ရောက်လာကာ ပေါက်ယုကို မေး၏။

"အမယ်လေး၊ ခုတလောတော့ သူ့ကိုမေးမနေနဲ့။ အိမ်မှာ ကပ်တယ်ရယ်လို့ကို မရှိဘူး"ဟု မာလာက မဲ့ရွဲ့ကာ ပြောလေ၏။

ပေါက်ကြည် နားလည်လိုက်လေပြီ။ မာလာက သက်ပြင်းချလိုက်ရင်း

"မောင်နှမဝမ်းကွဲချင်း ချစ်ကြတာ ကောင်းပါတယ်။ ဒါပေမယ့် အကန့်အသတ်တော့ ရှိဖို့ကောင်းတာပေါ့။ နေ့ရောညရော တပူးတတွဲတွဲနဲ့ ကစားနေလို့ ဘယ်ကောင်းမလဲ။ အေးလေ၊ အမှန်ကတော့ ဒါတွေက ကိုယ်နဲ့မဆိုင်ပါဘူး။ ပြောနေလို့လဲ လေကုန်ရုံပဲရှိမှာပေါ့"

သူပြောသည့်စကားကို နားထောင်ရင်း မာလာသည် အစေတော်ဖြစ်သည့်တိုင် စဉ်းစားဉာဏ်ရှိသည့် မိန်းကလေးတစ်ယောက် ဖြစ်ပေသည်ဟု ပေါက်ကြည် တွေးတောလျက်ရှိ၏။

ပေါက်ကြည်သည် ခုတင်မီးဖိုကြီးပေါ်တွင် ထိုင်ချလိုက်ကာ မာလာ၏ဇာတိကို မေးမြန်း၏။ ဟိုအကြောင်း သည်အကြောင်းကိုပြော

ဆိုနေကြရင်းမှ မာလာ ပြောပုံဆိုပုံကို နားထောင်ရင်း အထင်ကြီး သွားလေ၏။ ခဏကြာလျှင် ပေါက်ယု ပြန်ရောက်လာသည့် အတွက် ပေါက်ကြည်လည်း ပြန်လာခဲ့၏။

"မာလာတို့နှစ်ယောက် တော်တော် စကားကောင်းနေကြတာ မဟုတ်လား။ ပေါက်ယုလာတော့မှ သူက ဘာဖြစ်လို့ ထပြန်သွား တာလဲ"

မာလာက မည်သို့မျှမဖြေသည့်အတွက် ပေါက်ယုက ထပ်မေး ပြန်၏။

"ဒါတော့ မာလာဘယ်သိမလဲ။ သူ့ကို သွားမေးပေါ့။ သခင် လေးတို့နှစ်ယောက်ကြားမှာ ဘာဖြစ်တယ် ဆိုတာကို ဘေးလူက ဘယ် နှယ်လုပ် သိနိုင်ပါ့မလဲ"

မာလာသည် ခါတိုင်းနှင့်မတူ စိတ်တိုနေကြောင်းကို ပေါက်ယု သိလိုက်၏။ ထို့ကြောင့် ပေါက်ယုက လေပျော့ကလေးဖြင့်

"ဘာဖြစ်လို့ စိတ်ဆိုးနေတာလဲဟင်"

မာလာက ခပ်လှောင်လှောင် ပြုံးလိုက်လျက်

"မဆိုးပါဘူး။ ဘယ်သူ့ကို စိတ်ဆိုးစရာရှိသလဲ။ ဒါပေမယ့် မာလာ့ဆီကို သိပ်မလာယင် ကောင်းမယ်ထင်တယ်။ သခင်လေးမှာ ပြုစု စောင့်ရှောက်မယ့်သူတွေ အများကြီးရှိတာပဲ။ မာလာက အရေး မကြီး ပါဘူး။ မာလာ မယ်မယ်ကိုပဲ သွားပြီး ပြုစုစောင့်ရှောက်တော့မယ်"

မာလာသည် ခုတင်မီးဖိုကြီးပေါ်သို့ လှဲချလိုက်ကာ မျက်လုံး များကို မှိတ်ထားလိုက်လေသည်။

ပေါက်ယုသည် အလန့်တကြားဖြင့် သူ့အနီးသို့ ခပ်သုတ်သုတ် လျှောက်လာခဲ့ကာ သူ့ကို ချော့မော့ နှစ်သိမ့်လျက်ရှိ၏။ သို့ရာတွင် မာလာသည် မျက်လုံးကို မှိတ်မြဲမှိတ်ထားကာ မကြားယောင်ပြုလျက် ရှိ၏။ ထိုစဉ် ရွှေယွေ့ ဝင်လာလေ၏။

"မာလာ ဘာဖြစ်လို့လဲ"

"မသိဘူးလေ။ သခင်လေး ဘာသာ သခင်လေး မေးကြည့် ပေါ့"





ပေါက်ယုသည် မည်သို့လုပ်ရမည် မသိသဖြင့် ဘာမျှ မပြော တော့ဘဲ ထိုင်နေလေ၏။ အတန်ကြာမှ သက်ပြင်းချလိုက်ကာ

"ဟုတ်ပြီလေ။ ပေါက်ယုကိုမှ အဖယ်လုပ်ပြီး စကားမပြောတာ မြန်ပြီးအိပ်ရုံပဲ ရှိတော့တာပေါ့"

ပေါက်ယုသည် ခုတင်မီးဖိုကြီးအနီးမှ ထွက်လာကာ သူ့အိပ်ရာ ဆီသို့ လာခဲ့၏။ အတန်ကြာ၍ ပေါက်ယုထံမှ အသက်ရှူသံ မှန်မှန်ပေါ် ထွက်လာသည့်အခါတွင် မာလာသည် ထလာကာ ပေါက်ယု ကိုယ်ပေါ်သို့ ဝတ်ရုံအင်္ကျီကို ခြုံပေးလေ၏။ ခဏကြာလျှင် ဘုတ်ခနဲမြည်သံ ကြားသဖြင့် လှည့်ကြည့်လိုက်ရာ မျက်စိကိုမှိတ်၍ အိပ်ချင်ယောင်ဆောင် လျက်ရှိရင်းက ဝတ်ရုံအင်္ကျီကို လွှင့်ပစ်လိုက်ကြောင်း တွေ့ရလေ၏။ မာလာက အလိုက်တသိ ပြုံးလိုက်ပြီးနောက် ခေါင်းညိတ်လိုက်ရင်း

"စိတ်မဆိုးပါနဲ့ သခင်လေးရယ်။ ဒီနေ့ကစပြီး မာလာ အ,အ လိုနေပါတော့မယ်။ သခင်လေးအကြောင်းကို ဘာမှ မပြောတော့ပါ ဘူး။ ဘယ့်နှယ်လဲ၊ ကျေနပ်ပြီမဟုတ်လား"

ဤတွင် ပေါက်ယုသည် အိပ်ရာပေါ်တွင် ထထိုင်လိုက်လျက်

"နေစမ်းပါဦး၊ ပေါက်ယုက မာလာစိတ်ဆိုးအောင် ဘာများ လုပ်မိလို့လဲ။ ဘာဖြစ်လို့ ပေါက်ယုကို စိတ်ချောက်နေရတာလဲ။ မာလာပြောတာကို ပေါက်ယု စိတ်မှဆိုးပါဘူး။ ဒါပေမယ့်ခန်းဆောင် ထဲကို ပေါက်ယုလာတုန်းက မာလာ ဘာဖြစ်လို့အိပ်ချင်ယောင်ဆောင် နေရတာလဲ။ ပေါက်ယုနားမလည်ဘူး။ ခုတော့မာလာကပဲ ပေါက်ယု ကိုစိတ်ကောက်သလေး ဘာလေးနဲ့ပြောနေတယ်။ ပေါက်ယုမကောင်း ကြောင်း မာလာပြောတယ်လို့လဲ မကြားပါဘူး"

"ဒါကတော့ မာလာပြောစရာမလိုပါဘူး။ သခင်လေး သိပါ တယ်"

ထိုသို့ နှစ်ယောက်သား စကားများနေကြစဉ် မယ်မယ့်ထံမှ အခေါ် ရောက်လာသည့် အတွက် ပေါက်ယုလည်း လိုက်သွားရ၏။ ပေါက်ယု မယ်မယ့်ခန်းဆောင်သို့ရောက်လျှင် ထမင်းစားသော်လည်း ကောင်းကောင်းစား၍ မဖြောင့်ဘဲဖြစ်လျက်ရှိ၏။ ထမင်းပန်းကန်ဝက်

လောက်မျှသာ စားခဲ့ပြီးလျှင် မိမိခန်းဆောင်သို့ ပြန်လာခဲ့လေ၏။ ခန်းဆောင်တွင် မာလာအိပ်လျက်ရှိပြီး ရှေ့ယွေ့မှာ သူ့အနီးတွင် ဖဲဗေဒကစားလျက်ရှိသည်ကို တွေ့ရ၏။ သူတို့နှစ်ယောက်စလုံးမှာ သဘောကောင်းသည့်မိန်းကလေးများဖြစ်သည့်အတွက် ပေါက်ယုသည် ရှေ့ယွေ့ကိုလည်း စကားမပြောတော့ဘဲ ခန်းဆီးကိုမကာ သူ့အိပ်ခန်းဆောင်ထဲသို့ ဝင်ခဲ့လေ၏။ ရှေ့ယွေ့က လိုက်လာသည့်အခါတွင် ပေါက်ယုသည် ရှေ့ယွေ့ကို အခန်းပြင်သို့ တွန်းထုတ်လိုက်၏။

"တော်ပြီ၊ နင်လဲ ငါ့ဆီမလာနဲ့"

ရှေ့ယွေ့က ပြုံး၍ထွက်သွားတော့ ခပ်ငယ်ငယ်အစေတော်လေးနှစ်ယောက်ကို လွှတ်လိုက်ပြန်လေ၏။ ပေါက်ယုသည် အိပ်ရာပေါ်တွင် ခွေကာ စာအုပ်တစ်အုပ်ကို ဖတ်လျက်ရှိလေရာ လက်ဖက်ရည် သောက်ချင်သဖြင့် ခေါင်းထောင်၍ ကြည့်လိုက်သည့်အခါ၌ အခန်းဝတွင် ရပ်လျက်ရှိသော ခပ်ငယ်ငယ် အစေတော် နှစ်ယောက်ကို တွေ့ရ၏။ ယင်းတို့အနက် အကြီးမမှာ ခပ်ချောချောဖြစ်လေ၏။

"မင့်နာမည် ဘယ်လိုခေါ်သလဲ'

"ဟွာရှန်းပါ"

"ဒီနာမည်ကို ဘယ်သူပေးတာလဲ"

"အစတုန်းကတော့ ယုန်ရှန်းပါ။ ဒါပေမယ့် သခင်မဟွာကကျွန်မနာမည်ကို ဟွာရှန်းလို့ ပြောင်းလိုက်ပါတယ်"

"နင့်နာမည်က ဟွာချီလို့ ပြောင်းဖို့ကောင်းတယ်။ ဘာဖြစ်လို့ဟွာရှန်း (သဇင်)လို့ ပြောင်းရသလဲမသိဘူး။ နင်တို့ မွေးချင်းထဲမှာမိန်းကလေး ဘယ်နှစ်ယောက်ပါသလဲ"

"လေးယောက်ပါ"

"နင်က ဘယ်နှစ်ယောက်မြောက်လဲ"

"ကျွန်မက အငယ်ဆုံးပါ"





"ဒီလိုဆိုယင် နင့်နာမည်ကို စုအဲ(နံပါတ်လေး)လို့ ပြောင်းလိုက်မယ်ပါ။ သဇင်တို့ သစ်ခွတို့ဆိုတဲ့ နာမည်တွေကို တော်စမ်းပါ။ နင်တို့ကပန်းတွေနဲ့ဘာဆိုင်တာမှတ်လို့။ တခြားစိပဲဟာ။ နင်တို့က ပန်းနာမည်တွေ လိုက်မှည့်တော့ ပန်းတွေနာမည်ပျက်လှတယ်"

ထို့နောက် ပေါက်ယုသည် လက်ဖက်ရည်အယူခိုင်းလိုက်၏။ သူတို့နှစ်ယောက်ပြောနေသည့် စကားများကို အပြင်မှ နားထောင်လျက်ရှိသည့် မာလာနှင့် ရှေ့ယွေ့တို့မှာ မရယ်မိအောင် နှုတ်ခမ်းများကိုကိုက်၍ မနည်းချုပ်တည်းထားရ၏။

ထိုနေ့တစ်နေ့လုံး ပေါက်ယုသည် မိန်းကလေးများနှင့် ကစားခြင်း၊ အစေတော်များနှင့် စကားပြောခြင်း မပြုဘဲ တစ်နေ့လုံး အခန်းအောင်းကာ ငေးမောခြင်း၊ စာဖတ်ခြင်း၊ စာရေးခြင်းဖြင့် အချိန်ကုန်၏။ ခိုင်းစရာရှိလျှင်လည်း တခြားအစေတော်များကို ခေါ်မခိုင်းတော့ဘဲ စုအဲကိုသာ ခေါ်၍ခိုင်း၏။ စုအဲမှာ အကင်းပါးသည့် မိန်းကလေးတစ်ယောက်ဖြစ်သည့်အလျောက် ပေါက်ယုကျေနပ်အောင် အစွမ်းကုန်ပြုစုပေး၏။

ထမင်းစားပြီးသည့် အခါတွင် ပေါက်ယုမှာ အရက်ချိုသောက်ထားသည့်အတွက် အနည်းငယ် ယစ်လျက်ရှိလေပြီ။ ခါတိုင်းဆိုလျှင် မာလာတို့တစ်တွေနှင့် ပျော်ပါးနောက်ပြောင်နေသော်လည်း ထိုနေ့ညတွင်မူ မီးအိမ်အားတွင်ထိုင်ကာ ငေးမောလျက်ရှိ၏။ မိန်းကလေးများနှင့် သွား၍ရောလိုသည့်တိုင် ရောင့်တက်ပြီး နောင်တွင် ပြောစရာဖြစ်နေမည် စိုးသည့်အတွက်ကြောင့် တစ်ကြောင်း၊ သခင်တစ်ယောက်ဖြစ်သည့်အတွက် အနိုင်ကျင့်က ရမည် ဖြစ်သည့်တိုင် ထာစ်ဖက်သတ် ကျသည့်အတွက်ကြောင့်တစ်ကြောင်း မသွားတော့ဘဲ အခန်းထဲမှာပင် နေလိုက်မလေ၏။

"တော်ပြီ။ လောကကြီးမှာ သူတို့တစ်တွေ မရှိတော့ဘူး၊ သေပြီလို့ပဲ အောက်မေ့လိုက်တော့မယ်။ ငါဘာသာငါ ပျော်အောင်ပဲနေတော့မယ်"ဟု ပေါက်ယုတွေးမိ၏။

ထိုနောက် ပေါက်ယုသည် ချွန်ဇူကျမ်းတွင်ပါသည့် 'ဂေဟာဖျက်သူ' ဆိုသည့် အခန်းကို ဖတ်ကြည့်ရာ အောက်ပါစာပိုဒ်ကို တွေ့ရ၏။

"ပညာရှိနှင့် သူတော်ကောင်းတို့ကို ရှောင်ပါလေ၊ ထိုအခါတွင် လောဘာ၌ လူဆိုးဒမြတို့လည်း ပျောက်ကွယ်အံ့။ ကျောက်စိမ်းနှင့် ပုလဲတို့ကို ဖျက်ဆီးပါလေ၊ ထိုအခါ ခိုးဝှက်သူတို့ ရှိတော့မည်မဟုတ်။ ငွေစာရင်းများနှင့် အဆောင်အယောင် တံဆိပ်တို့ကို မီးရှို့ပါလေ၊ ထိုအခါ လူတို့သည် ပကတိရိုးသားသည့် အဖြစ်သို့ ရောက်ကြကုန်အံ့။ ချိန်ခွင်နှင့် အလေးတို့ကို ရိုက်ချိုးထုခွဲပါလေ၊ ထိုအခါ လူတို့သည် ရန်ဖြစ်ခြင်း ရှိကြတော့မည် မဟုတ်။ လောကတွင်ရှိသည့် မြင့်မြတ်သောတရားဥပဒေတို့ကို ဖျက်သိမ်းပါလေ၊ ထိုအခါတွင် လူတို့သည် စိတ်ထဲရှိသည်တို့ကို လွတ်လပ်စွာ ပြောကြပေအံ့။

"ဂီတသံစဉ်တို့ကို ရှုပ်ထွေးစေလော့။ စောင်းတို့ကို ရိုက်ခွဲလော့။ ဂီတပညာရှင်တို့၏ နားတို့ကို ဆို့လော့။ ထိုအခါ၌ ကောင်းကင်အောက်တွင် ရှိသမျှလူအပေါင်းတို့သည် သူတို့၏ ကိုယ်ပိုင်နားတို့ဖြင့်သာ ပကတိအတိုင်း နားထောင်တတ်ကြပေအံ့။ အဆင်းတန်ဆာများနှင့် ရောင်စုံခြယ်သည့် အမွှမ်းအမံတို့ကို ဖယ်ရှားလော့။ အမြင်စူးရှသူတို့၏ မျက်လုံးတို့ကို ပိတ်လော့။ ထိုအခါ၌ ကောင်းကင်အောက်တွင်ရှိသမျှလူအပေါင်းသည် ကိုယ့်မျက်စိဖြင့်ကိုယ် ကြည့်တတ်လာကြပေအံ့။ ကိုက်တံနှင့် အချိန်အတွယ်တို့ကို ဖျက်ဆီးလော့။ ကျွမ်းကျင်သော လက်မှုပညာကျော်တို့၏ လက်ချောင်းများကို ဖြတ်လော့။ ထိုအခါ၌ ကောင်းကင်အောက်တွင် ရှိသမျှ လူအပေါင်းတို့သည် သူတို့လက်ဖြင့် ကျွမ်းကျင်စွာ လုပ်တတ်လာကြပေအံ့"

ပေါက်ယုသည် ထိုစာကိုဖတ်၍ အရက်မူးသကဲ့သို့ ယစ်မူးစပြုလာ၏။ ထို့ကြောင့် စုတ်တံကိုကောက်ကာ သူ့ကိုယ်တိုင် စာတစ်ပုဒ်ဆက်ရေးကြည့်၏။





"မာလာပန်းပွင့်(ဆီရင်)နှင့် ဧကတိုး (ရှေယွေ့)တို့ကို မီးရှို့ပစ်လေ။ ကတိုး(ရှေယွေ့)ကို လွှင့်ပစ်လေ။ ထိုအခါ၌ အတွင်းဆောင်တွင်ရှိသမျှ လူအပေါင်းတို့သည် သူတို့ဘာသာသူတို့ အကြံဉာဏ်ထုတ်ကြပေအံ့။ အဖိုးတန်သော အဆင်းတန်ဆာ (ပေါက်ကြည်)၏ အလှကိုဖျက်ဆီးလေ။ ကျောက်စိမ်းနက် (ထိုက်ယု)၏ ဉာဏ်ထက်မြက်မှုကို တုံးအောင်လုပ်လေ။ ချစ်ခြင်းကိုတိုစေလော့။ ထိုအခါ အတွင်းဆောင်ထဲရှိအလှနှင့် အဆိုးတို့သည် တန်းတူဖြစ်ကြပေအံ့။ မိမိဘာသာသိမ်းဆည်းထားသည့် အကြံဉာဏ်သည် သဘောထားကွဲလွဲမှုကို ရပ်တန့်စေအံ့။ ပျက်သုဉ်းသောအလှသည် ချစ်စကို တိုစေပေအံ့။ တုံးသွားသောအသိဉာဏ်သည် ပါရမီဉာဏ်ရင့်သူတို့အား ကိုးကွယ်ဆည်းကပ်ခြင်းကို အဆုံးသတ်စေအံ့။ အဆင်းတန်ဆာ ကျောက်စိမ်း၊ ပန်းပွင့်နှင့် ကတိုးတို့သည် ကောင်းကင်အောက်ရှိ ဗိုသတ္တဝါတို့ကို ထောင်ချောက်တွင်းသို့ သက်ဆင်းစေမည့် ပိုက်ကွန်များသာ ဖြစ်ကြကုန်၏"

ထိုသို့ရေးပြီးနောက် ပေါက်ယုသည် စုတ်တံကိုပစ်ချကာ ခေါင်းအုံးပေါ်သို့ ခေါင်းချလိုက်သည်နှင့် နှစ်ခြိုက်စွာအိပ်ပျော်ခြင်းသို့ရောက်လေသတည်း။

နောက်တစ်နေ့မနက် သူအိပ်ရာမှ နိုးသည့်အခါတွင် မာလာသည် အဝတ်အစားအပြည့်အစုံဝတ်ကာ သူ့ဘေးတွင် လဲလျောင်းနေသည်ကို တွေ့ရ၏။ မနေ့က စိတ်ဆိုးခဲ့သည်များကို မေ့ပျောက်သွားကာ ပေါက်ယုသည် မာလာကို တံတောင်ဖြင့် တို့လိုက်ပြီး

"ကောင်းကောင်းအိပ်လေ မာလာ။ တော်တော်ကြာ အအေးမိနေလိမ့်မယ်"

ပေါက်ယုသည် သူ့ ဝမ်းကွဲ အစ်မများကို အနိုင်ကျင့်တတ်သူဖြစ်လေရာ ဤသည်ကိုကြည့်၍ ပေါက်ယုသည် မည်သူ့စကားကိုမျှ နားမထောင် ထင်ရာစိုင်းတတ်သူတစ်ယောက် ဖြစ်ကြောင်းကို မာလာသိခဲ့လေပြီ။ ထို့ကြောင့် သူ့ကိုအကျိုးအကြောင်း ရှင်းပြနေ၍မဖြစ်။ သူ့လိုပင် စိတ်ကောက်ပြမှ ဖြစ်တော့မည်ဟု မာလာသဘောပေါက်လာခဲ့၏။ မနေ့က ပေါက်ယုသည် တစ်နေ့လုံး သူ့အပေါ်တွင် စိတ်ကောက်

လျက်ရှိရ မာလာမှာ တစ်ညလုံးအိပ်မပျော်နိုင်ဘဲ ပေါက်ယုအကြောင်း ကိုသာ တွေးတောလျက်ရှိ၏။ ယနေ့တွင်မူ ပေါက်ယုမှာ စိတ်ကောက် ပြေသွားသည့်နှယ် ကြည်ကြည်သာသာ ရှိနေသဖြင့် မာလာသည် ထို အချက်ကို အခွင့်ကောင်းယူကာ ပေါက်ယုကို ဂရုမစိုက်ဟန်ပြုနေ၏။ ပေါက်ယုက မိမိအင်္ကျီမှ ကြယ်သီးတစ်လုံးကို ဖြုတ်၍ အင်္ကျီချွတ်ရန် ကြိုးစားနေစဉ် မာလာသည် ပေါက်ယုလက်ကို တွန်းဖယ်လိုက်ကာ ကြယ်သီးကို ပြန်တပ်နေ၏။

ပေါက်ယုက မာလာ၏လက်ကိုဖမ်းချုပ်ပြီး ချိုသာစွာဖြင့်

"ဘာဖြစ်လို့လဲဟင် မာလာ။ ပေါက်ယုကို စိတ် ကောက် မှ သလား"

မာလာက မျက်လုံးများကို မှိတ်မြဲမှိတ်ထားကာ တစ်ခွန်းမျှ ဖြေဆိုခြင်း မရှိသဖြင့် ပေါက်ယုက တတွတ်တွတ်မေးနေ၏။

"ဘာမှမဖြစ်ပါဘူး၊ အသာနေစမ်းပါ။ နိုးနေယင် ဟိုဘက် ခန်းဆောင်ထဲသွားပြီး မျက်နှာတို့ ဘာတို့ သစ်ချည်ပေါ့။ တော်တော် ကြာ မတွေ့လိုက်ဘဲ နောက်ကျနေလိမ့်မယ်"

"ဘယ်ကိုသွားလို့ နောက်ကျရမှာလဲ"

"ဒါတော့ မာလာ ဘယ်သိမလဲ။ သခင်လေး ကြိုက်တဲ့နေရာ သွားပေါ့။ မာလာတို့လဲ ရှေ့လျှောက်ပြီး ခပ်တန်းတန်းနေသွားကြယင် ကောင်းမယ်ထင်တယ်။ တော်တော်ကြာ ခုရန်ဖြစ်လိုက် ခုတည့်လိုက်နဲ့။ လူတွေမြင်ယင် မကောင်းဘူး။ မြောစရာဖြစ်လိမ့်မယ်။ ပြီး တော့ လဲ သခင်လေးအဖို့ သူတို့နဲ့ငြိငွေ့လာတယ်ဆိုယင် နောက်အချော့တော် အသစ်ကလေးတွေ ရှိသေးတာပဲ။ စုအဲတို့ ဝုအဲတို့ ရှိသားပဲ။ သူတို့ပြုစု စောင့်ရှောက် ကြ လိမ့် မယ်။ ကျန်တဲ့ မာ လာ တို့ တစ် တွေ က တော့ အလကားဟာတွေပါ။ နာမည်တွေတောင် နှမြောတယ်။ ကတိုးတို့ မာလာတို့ သဇင်တို့ဆိုတာ ပန်းနာမည်တွေ။ ပန်းတွေကိုလဲ အားနာ ပါဦးလို့ သခင်လေးပဲ ပြောခဲ့တယ်မဟုတ်လား"

ပေါက်ယုက ရယ်လိုက်ရင်း





"ဪ ဒါကြောင့် စိတ်ကောက်နေတာလား၊ မှတ်မိသေး သကိုး"

"မမှတ်မိဘဲ ရှိပါ့မလား။ အသက်တစ်ရာနေရတောင် ဒီစကား ကို မမေ့ဘူး။ မာလာက သခင်လေးလိုမဟုတ်ဘူး။ အမှတ်သည်းခြေ ကြီးတတ်တယ်။ သခင်လေးကတော့ ဒီဘက်နားက နားထောင်ပြီး ဟိုဘက်နားက ပြန်ထုတ်၊ ညကပြောတဲ့စကားကို မနက်ကျမေ့ လုပ်နိုင် တယ်။ မာလာက ဒီလိုမဟုတ်ဘူး"

မာလာ၏မျက်နှာမှာ ညိုးလျက်ရှိလေ၏။

ပေါက်ယုသည် မကြည်မသာဖြစ်လျက်ရှိသည့် မာလာ၏မျက်နှာ ကို မြင်သည့်အခါတွင် ခေါင်းအုံးဘေးမှ ကျောက် စိမ်း ဆံ ညှပ် ကို ကောက်ယူ၍ ကြမ်းပြင်တွင် ကိုင်ပေါက်လိုက်လေရာ ဆံညှပ်သည် နှစ် ပိုင်း ကျိုးသွား၏။

"နောင်မှာ မာလာ့စကားကို ပေါက်ယု နားထောင်မယ်ကွာ။ နားမထောင်ယင် ဟောဒီဆံညှပ်လို နှစ်ပိုင်းကျိုးရစေရဲ့"

မာလာက ကျိုးကျနေသည့် ဆံ ညှပ် အ ပိုင်း အ စ က လေး ကို ကောက်ကာ

"တော်ပါ၊ မနက်စောစောစီးစီး ကျိန်တွယ်မနေစမ်းပါနဲ့။ မာလာ့စကားကို နားထောင်တာ မထောင်တာက အရေးမကြီးပါဘူး။ ဘာဖြစ်လို့ ဒီဆံညှပ်ကို အလကားချိုးပစ်ရတာလဲ"

"ပေါက်ယု ဘယ်လောက်ခံစားနေရသလဲဆိုတာ မာလာ မသိ ပါဘူး"

မာလာက ပြုံးလိုက်ရင်း

"ဪ သခင်လေးမှာလဲ ခံစားတတ်တဲ့အသည်းနှလုံး ရှိသကိုး။ မာလာ ဘယ်လောက်ခံစားရသလဲဆိုတာကို တွေးကြည့်ပေါ့လေ၊ ကဲ ထပါတော့၊ အဝတ်အစားလဲရအောင်"

သူတို့နှစ်ယောက်သည် အိပ်ရာမှထကာ မျက်နှာသစ်ပြီး အဝတ် အစား လဲနေကြ၏။

ပေါက်ယုသာ မယ်မယ်ကို သွား၍ကန်တော့နေစဉ် ထိုက်ယုသည် သူ့ခန်းဆောင်သို့ ရောက်လာ၏။ ပေါက်ယုကိုလိုက်ရှာရင်း စားပွဲပေါ်တွင် တင်ထားသည့် စာအုပ်များနှင့် မနေ့ညက ပေါက်ယုဖတ်လက်စဖြင့် ချပစ်ခဲ့သည့် 'ချွန်ဇူကျမ်း'ကို သွားတွေ့လေ၏။ အောက်တွင် ပေါက်ယုလက်ရေးဖြင့် ရေးထားသော စာကြောင်းများကို တွေ့သည့်အခါ၌ ဒေါလည်းပွ၊ ရယ်လည်း ရယ်ချင်သဖြင့် ထိုက်ယုသည် အောက်ပါ လေးချိုးကလေးကို ရေးပစ်ခဲ့၏။

ချွန်ဇူကျမ်းကို၊ ပြောင်းပြန်ဆိုသည့်
စာဆိုအနွမ်း၊ လူ့ပေါက်ပန်းသည် မည်သူနည်း။
ကိုယ်စွမ်းကိုယ်စ၊ အားမရတိုင်း
သူတစ်ပါးကို၊ ဆဲဆိုသူသည် မည်သူနည်း။

ထိုက်ယုသည် ထိုကဗျာလေးကို ရေးပစ်ခဲ့ပြီးလျှင် မယ်မယ်နှင့် ဒေါ်လေးဝမ်ကို ကန်တော့ရန်အတွက် သူတို့ခန်းဆောင်များဆီသို့ ထွက်လာခဲ့၏။

ထိုအချိန်၌ ကျိုလုံ့နှင့် နတ်ငှက်မယ်တို့၏ သမီးငယ် တာချီမှာ နာမကျန်းဖြစ်လျက်ရှိသဖြင့် တစ်အိမ်လုံး ဒေါင်းတောက်လျက်ရှိကြ၏။ သမားတော်တစ်ယောက်ကို အပင့်ခိုင်းလိုက်သည့်တွင် သမားတော်လည်း ရောက်လာကာ ကလေးငယ်ကို စစ်ဆေးကြည့်ရှု၏။

"မယ်မယ် မြို့စားကတော်ကြီးနဲ့ သခင်မလေး နတ်ငှက်မယ်တို့ ဒီလောက်လဲ စိတ်ပူမနေကြပါနဲ့။ ကလေး အဖျားတက်တက်နေတာက တခြားကြောင့် မဟုတ်ဘူး။ ကျောက်ရောဂါကြောင့်ပါ"

ထိုအခါတွင် မယ်မယ်နှင့် နတ်ငှက်မယ်တို့က ကလေး သည် စိုးရိမ်ရသော အခြေအနေတွင် ရှိမရှိ မေးမြန်းကြ၏။

"ကျောက်ရောဂါဟာ ရောဂါကြီးတစ်ခုဖြစ်ပေမယ့် သူ့ထုံးစံအတိုင်း အလိုလို ပျောက်သွားမှာပါ။ ဘာမှစိတ်ပူစရာ မရှိပါဘူး။ သို့သော်လဲ ကျည်းပေါင်းရယ်၊ ကြွက်သွေးရယ်၊ ဒါမှမဟုတ် ဝက်မြီးသွေးရယ်ကိုတော့ နတ်တင်ရလိမ့်မယ်ခင်ဗျ"





နတ်ငှက်မယ်သည် အခန်းတစ်ခန်းကို ချက်ချင်း ရှင်းလင်းစေပြီးနောက် အရှင်ကြီးတင်ရန် ပြင်ဆင်စေ၏။ မိမိ၏အဆောင်တွင်းတွင် ထိန့်ကြော်သည့် အစားအသောက်ကို ချက်မစားရဟုလည်း အမိန့်ထုတ်လိုက်၏။ ထိုနောက် ကျိုလျံ၏ အိပ်ရာလိပ်နှင့် အဝတ်အစားများကိုလည်း တခြားအခန်းတစ်ခန်းသို့ ရွှေ့ခိုင်း၏။ အထိန်းတော်များ၊ အစေတော်များနှင့် အဝတ်အစားလဲပေးသော လက်ပါးစေတို့ကိုလည်း မင်္ဂလာရှိအောင်ဟုဆိုကာ အနီရောင်အဝတ်အစားများကို ထုတ်ပေး၏။ ကလေးငယ်ကို တစ်လှည့်စီစောင့်ကြည့်ရန် ပင့်ထားသည့် သမားတော်နှစ်ယောက်အတွက်လည်း သန့်ရှင်းသည့်အခန်းများကို ပြင်ဆင်စေ၏။ နတ်ငှက်မယ်သည် သမားတော်နှစ်ဦးကို ဆယ့်နှစ်ရက်တိုင်တိုင် အိမ်တွင် ပင့်ထားလေ၏။

သို့ဖြင့် ကျိုလျံသည် အပြင်ဘက်ဝင်းထဲရှိ စာကြည့်ဆောင်ထဲသို့ ပြောင်းရွှေ့လာခဲ့ရကာ နတ်ငှက်မယ်နှင့် သူ့အစေတော် ပင်အဲတို့မှာမူ နေ့စဉ် မယ်မယ်နှင့်အတူသွား၍ ကျောက်ရောဂါကုနိုင်သည့် အရှင်ကြီးကို ပူဇော်တင်မြှောက်ကြရ၏။

ကျိုလျံသည် မယားမျက်ကွယ်တွင် အလွန် မိန်းမပွေသူဖြစ်၏။ မိန်းမနှင့် ခွဲနေရသည်မှာ နှစ်ညရှိခဲ့ပြီဖြစ်ရာ ယခုကဲ့သို့ နှစ်ညလောက် ခွဲနေလိုက်ရသည်ဆိုလျှင်ပင် သူ့အဖို့ အတော်ကြာပြီဟု ထင်နေလေပြီ။

ယွန်းစံအိမ်ကြီးတွင် အရက် အလွန်အကျွံသောက်သည့် တိုးကွန့်ဆိုသော ထမင်းချက်တစ်ယောက်ရှိ၏။ တိုးကွန့်မှာ အရက်သောက်ရုံမျှမက အသုံးမကျသည့်ပြင် သူရဲဘောလည်း ကြောင်သည့်အတွက် သူ့ကို ပိုးတီဟု ခေါ်ကြ၏။ သူ့မိဘများသည် ပိုးတီငယ်ငယ်က သူ့အတွက် မိန်းမတစ်ယောက်ရှာပေးခဲ့ရာ ထိုမိန်းမမှာ ယခုအချိန်တွင် အသက်နှစ်ဆယ်ခန့် ရှိနေလေပြီ။ ထိုမိန်းကလေးမှာ ရုပ်ချောသည့်အတွက် သူ့ကို လူတိုင်းက သဘောကျကြ၏။ သို့ရာတွင် မိန်းမမှာ ရုပ်ချောသလောက် ပျံတံတံနန့်တန့်တန့်နိုင်လှပေရာ သူနှင့်မဖြစ်ဖူးသည့် ယောကျ်ားဆို၍ ယွန်းစံအိမ်ဝင်းကြီးထဲတွင် ခပ်ရှားရှားဟု ဆိုရ

မလောက်ဖြစ်၏။ ပိုးတီသည် သူ့မိန်းမအကြောင်းကိုသိသော်လည်း အရက်၊ စားစရာကောင်းကောင်းနှင့် ပိုက်ဆံရှိလျှင် လောကတွင် ဘာကိုမျှ ဂရုမစိုက်တော့ပြီ။ သို့ဖြင့် ပိုးတီ၏ မိန်းမသည် ယွန်းစံအိမ်ကြီးနှင့် နိန်စံအိမ်ကြီးထဲမှ ယောကျ်ားများနှင့် ဖြစ်ချင်တိုင်းဖြစ်လျက်ရှိ၏။ ပိုးတီ၏ မိန်းမသည် အာအိုသာဆိုရသည့်တိုင် အပျိုများကပင် အရှုံးပေးရလောက်သူဖြစ်ပြီး အမည်မှာ မတိုးဟု ခေါ်၏။

သမီးငယ် ကျောက်ပေါက်သည့်အတွက် ကျိုလျံသည် နယ်နှင်ဒဏ် အပေးခံခဲ့ရလေရာ ထိုရက်မှစ၍ ကျိုလျံမှာ ပျင်းရိခြောက်ကပ်လျက်ရှိ၏။ ကျိုလျံသည် မတိုးကို အစောကြီးကတည်းက မျက်စိကျခဲ့သော်လည်း အိမ်တွင်ရှိသည့် ဇနီးသည် နတ်ငှက်မယ်ကိုကြောက်၍တစ်ကြောင်း၊ အပြင်တွင်ရှိသည့် သူ့အချစ်တော်လေးများကို ကြောက်သည့်အတွက်ကြောင့်တစ်ကြောင်း မည်သို့မျှ မစရဲခဲ့ချေ။

မတိုးသည်လည်း ကျိုလျံမိန်းမပွေကြောင်းကိုသိသည့်အလျောက် ကျိုလျံကို အမိဖမ်းရန် မြှူဆွယ်ဖို့ အခွင့်ကောင်းကို စောင့်နေခဲ့သည်မှာ ကြာခဲ့လေပြီ။ ကျိုလျံသည် အပြင်ဝင်းထဲရှိ စာကြည့်ဆောင်သို့ ပြောင်းရွှေ့နေထိုင်လျက်ရှိသည် ဆိုသည့်သတင်းကို ကြားသည်နှင့် မတိုးသည် အစွမ်းကုန် ဖြီးလိမ်းပြင်ဆင်ကာ ထိုနေရာတစ်ဝိုက်တွင် ကူးချည် သန်းချည်လုပ်လျက်ရှိ၏။ ဤတွင် ကျိုလျံသည်လည်း အစာငတ်နေသည့် ကြွက်ကဲ့သို့ ထောင်ချောက်သို့ တည့်တည့်ဝင်မိလေ၏။ ကျိုလျံသည် စိတ်ချရသည့် သူ့လက်ပါးစေများကို တိုင်ပင်ကြည့်သည်တွင် ထိုလက်ပါးစေများ အားလုံးလောက်မှာ သူတို့ကိုယ်တိုင် မတိုးနှင့် မရှင်းမရှင်းဖြစ်ခဲ့ကြသူများ ဖြစ်သည့်အပြင် ကျိုလျံထံမှလည်း ဆုလာဘ်ကလေး မြှုပ်ကြလိုမြက်မြက်ရဖြစ်သည့်အတွက် မတိုးနှင့်တွေ့ရအောင် အချိန်းအချက် လုပ်ပေးမည်ဟု အာမခံကြလေ၏။

ထိုည သန်းခေါင်ကျော်လောက်၌ စံအိမ်ကြီးတစ်အိမ်လုံးရှိ အိမ်သားများ အိပ်ပျော်ကာ ပိုးတီလည်း ခုတင်မီးဖိုကြီးပေါ်တွင် မူးမူးနှင့် အိပ်ပျော်လျက်ရှိသည့်အခါတွင် ကျိုလျံသည် မတိုး၏ အခန်းထဲသို့ တိတ်တဆိတ်ဝင်လာခဲ့၏။ အဝတ်အစား ဖရိုဖရဲနှင့် မတိုး၏





ခဲ့မက်ဖွယ်ရာတို့ကို မြင်လိုက်သည်နှင့် စိတ်ကိုမထိန်းနိုင်၊ ချစ်ကြောင်း ကြိုက်ကြောင်းကိုမျှ နိဒါန်းမသွယ်နိုင်တော့ဘဲ မိမိကိုယ်မှ အဝတ်အစားတို့ကိုချွတ်ကာ လုပ်ငန်းစလေ၏။

မတိုး၏ ခန္ဓာကိုယ်သည် မည်သည့်ပစ္စည်းများနှင့် မည်သို့မည်ပုံ ပွဲစည်းထားလေသည်မသိ၊ ယောကျ်ားနှင့် တွေ့လိုက်သည်နှင့် တစ်ပြိုင်နက် သူ့ခန္ဓာကိုယ်မှ အရိုးတို့သည် အရည်ပျော်ကျသွားသကဲ့သို့ ဖြစ်လာလေရာ ကျိုလျံသည် အိစက်ညက်ညောသည့် ဂွမ်းပုံကြီးပေါ်တွင် အိပ်နေရသကဲ့သို့ရှိ၏။ ထို့အပြင် ညုသံ ချွဲသံ၊ မူသံ နွဲ့သံနှင့်တကွ ပလီပလာ၊ ရောဘာတာလုပ်ရာတွင်လည်း တော်တော့် ပြည့်တန်ဆာမပင် လိုက်၍မမီနိုင်ဖွယ်မရှိချေ။ သူနှင့်တွေ့သမျှသော ယောကျ်ားတိုင်းသည် အရူးကို အမဲသားကျွေးမိသည့်နှယ် မတိုးကို တန်းတန်းစွဲဖြစ်သွားကြသည်ချည်းဖြစ်၏။ ကျိုလျံသည် မတိုးနှင့် တွေ့လိုက်သည့် အခါတွင် အတွေ့ထူးလှသဖြင့် သူ့တစ်ကိုယ်လုံး မတိုး၏ ကိုယ်ထဲသို့ အရည်ပျော်ဝင်သွားချင်စိတ်ပင် ပေါက်လာလေ၏။

ထိုမျှမက မတိုးသည် ကျိုလျံကိုယ်တွင်းတွင် တောက်လောင်နေသည့် ရမ္မက်မီးကို ကလိဆွသောစကားများကို ပြောဆိုလျက်ရှိ၏။

"သခင်လေးတို့များ ကံကိုကဲတယ်။ အိမ်မှာ သမီးလေးက ကျောက်ပေါက်လို့ ရောဂါသက်သာအောင်ဆိုပြီး နတ်ပွဲတွေလုပ်၊ အရှင်ကြီးတွေကိုး၊ နတ်ကတော်တွေကိုပသနဲ့ အလုပ်များနေကြတယ် မဟုတ်လား။ တကယ်ဆို သခင်လေးလဲ ခုတလောမှာ သန့်သန့်ရှင်းရှင်း စင်စင်ကြယ်ကြယ်ကလေး နေလိုက်ပါလား။ ဘာဖြစ်လို့ ကျွန်မနဲ့လာပြီး ပလူးနေမလဲ။ ကဲ မြန်မြန်သွားပါ"

"မတိုးရယ်၊ တကယ်တော့ နင်ဟာ ငါ့ရဲ့နတ်သမီးပါပဲဟာ။ နင်ကလွဲယင် ဘယ်နတ်ကတော် ဘယ်နတ်သမီးကို ငါ ဂရုစိုက်ရဦးမှာလဲ" ဟု ကျိုလျံက မောသံကြီးနှင့်ပြော၏။

မတိုးက ရမ္မက်ကြီးသလောက် ကျိုလျံကလည်း သောင်းကျန်း၏။ ကြမ်းချင်တိုင်း ကြမ်းပြီးသည့်အခါတွင် သူတို့နှစ်ယောက်သည် တစ်ယောက်ကိုတစ်ယောက် သစ္စာဆိုကာ ခွဲမခွာနိုင် မခွာရက်အောင် ဖြစ်

နေကြ၏။ ထိုနောက်မှစ၍ သူတို့နှစ်ယောက်သည် မတွေ့ရ မနေနိုင်အောင်ဖြစ်လျက် ရှိကြလေ၏။

သို့ရာတွင် တချို့၏ ရောဂါမှာ ထုံးစံအတိုင်း ပျောက်သွားကာ အနာများမှာလည်း တဖြည်းဖြည်း ကျက်၍လာခဲ့လေပြီ။ ဆယ့်နှစ်ရက်မျှ အရှင်ကြီးတင်ပြီးနောက်တွင် အရှင်ကြီးကိုနှင်ကာ သမာဒေဝ နတ်များနှင့်ရှေးဘိုးဘွားမိဘများကို ပူဇော်ကန်တော့ခြင်း၊ ဆွမ်းကပ်ခြင်း၊ ဆီမီးထွန်းခြင်း၊ ကျေးဇူးတင်ကြောင်း သဝဏ်လွှာပို့ခြင်း၊ မရှိဆင်းရဲသူတို့အား ပေးကမ်းစွန့်ကြဲခြင်း စသဖြင့် အားလုံး အလုပ်ရှုပ်လျက်ရှိကြလေ၏။ ထိုကိစ္စများ ပြီးသည့်အခါတွင် ကျိလျံမှာလည်း မိမိ၏ အိမ်နှင့် နတ်ငှက်မယ်ရှိရာသို့ ပြန်လာခဲ့ရ၏။ စကားပုံရှိသည့်အတိုင်း 'ကြာရှည်ခွဲခွာပြီးနောက် ပြန်လည်ဆုံတွေ့ရခြင်းသည် မင်္ဂလာဦးထက်ပျော်စရာကောင်းလှပေ၏' သူတို့နှစ်ယောက် ချစ်တုံ့လှယ်ကြသည့် အကြောင်းကိုမူ မရေးတော့ပြီ။

နောက်တစ်နေ့မနက်၌ နတ်ငှက်မယ်သည် ထုံးစံအတိုင်း မယ်မယ်တို့ထံတွင် ကန်တော့ရန် ထွက်သွားသည့်အခါ နတ်ငှက်မယ်၏အစေခံ ပင်အဲသည် ကျိလျံ၏ အိပ်ရာလိပ်နှင့် အဝတ်အစားများကို အပြင်ဝင်းအဆောင်မှ မိမိတို့အဆောင်သို့ ပြန်ယူလာခဲ့၏။ ခေါင်းအုံးစွပ်ကို လျှော်မည်ဟု ချွတ်လိုက်သည့်အခါတွင် ဆံစု တစ်ချောင်း ထွက်လာသည်ကိုမြင်ရသဖြင့် အံ့အားသင့်လျက်ရှိ၏။ အကင်းပါးသည့် ပင်အဲသည် ဆံစုကို ခါးကြားထဲသို့ ထိုးထည့်လိုက်ပြီးလျှင် ကျိလျံ၏ အခန်းသို့လာကာ ခပ်ပြုံးပြုံးဖြင့် ဆံစုကိုထုတ်ပြ၏။

"သခင်လေး ဒါဘာလဲ"ဟု မေး၏။

ကျိလျံက ဆံစုကို လိုက်လုသည့်အခါတွင် ပင်အဲလည်း ထွက်ပြေး၏။ မိသွားသည့်အခါ၌ ကျိလျံသည် ပင်အဲကို ခုတင် မီးဖိုကြီးပေါ်သို့တင်ကာ ဆံစုကို အတင်းလု၏။

"သောက်ကန်းမလေး။ ဒီဆံစုကို ငါ့ပြန်ပေး။ မပေးယင်တော့ နင့်လက်ကို လိမ်အချိုးပဲ"

ပင်အဲက တခစ်ခစ်ရယ်လျက်





"သခင်လေး မကောင်းဘူး။ သူများကို နည်းနည်းမှ မသနားဘူး။ သူများက ဘယ်သူမှမသိအောင် ဖုံးပေးထားရပြီးတော့။ သူ့အလှည့်ကျတော့ကြည့်စမ်း။ လူကို အနိုင်ကျင့်တယ်။ မှတ်ထားပါ။ ငှက်မယ်သခင်မလေး ပြန်လာယင် အကုန်လုံးကိုပြောပြလိုက်မယ်။ အဲဒီတော့ သခင်လေးဘာသာ ဆံစုကိုယူချင်ယူ မယူချင်နေ။ ယူချင်လို့လဲ ငှက်မယ်သခင်မလေးက ပေးမှာမဟုတ်ပါဘူး"

ထိုစကားကို ကြားသည်တွင် ကျိလျံသည် တောင်းပန်တိုးလျှိုးသော အပြုံးဖြင့်

"ကဲပါဟယ်။ ငါ့ကိုပြန်ပေးပါ။ ကောင်မလေးတစ်ယောက်ရဲ့ ဆံစုပါ။ ငါ အတင်းအကျပ် မလုပ်တော့ပါဘူး"

ထိုအခိုက်တွင် နတ်ငှက်မယ်၏ အသံကို ကြားရ၏။ ပင်အဲက ခုတင်မီးဖိုပေါ်မှ အောက်သို့ဆင်း၍ မတ်တတ်ရပ်လိုက်စဉ် နတ်ငှက်မယ်သည် အခန်းထဲသို့ ဝင်လာကာ

"ဟဲ့ ပင်အဲ။ ဒေါ်လေးဝမ်က တောင်းလိုက်လို့ ပန်းပုံစံစာရွက်တွေ သေတ္တာထဲမှာ သွားရှာကြည့်စမ်း။ မြန်မြန်လေး ရှာခဲ့"

ပင်အဲက ပန်းထိုးပုံစံများကို ရှာနေစဉ် နတ်ငှက်မယ်သည် ကျိလျံကို လှမ်းမြင်လိုက်သဖြင့် တစ်စုံတစ်ရာကို အမှတ်ရလာကာ

"ပင်အဲ၊ နင့် သခင်လေးရဲ့ ပစ္စည်းတွေကော အပြင်ဘက်ဆောင်က ပြန်သိမ်းခဲ့ပြီလား"

"သိမ်းခဲ့ပါပြီ မမ"

"စုံတယ်နော်"

"အားလုံးစုံပါတယ် မမ။ ကျွန်မလဲ တစ်ခုခုတော့ ပျောက်ခဲ့တော့မှာပဲလို့ ထင်နေတာ၊ ခုတော့ ဘာမှမပျောက်ပါဘူး။ အားလုံးစုံပါတယ်"

"သူများပစ္စည်းတွေ ဘာတွေကော မှားပြီးပါလာတာ ရှိသေးသလား"

ပင်အဲသည် ရယ်နေ၏။

"ပစ္စည်း အပျောက်အရှ မရှိဘူးဆိုယင် မကျေနပ်သေးဘူးလား မမရဲ့။ သူများပစ္စည်းက ဘယ်သူ့ရဲ့ ဘာပစ္စည်းတွေများ ပါလာရဦးမှာလဲ"

"နှစ်ပတ်လုံးလုံး အပြင်မှာ ဘာတွေလုပ်ခဲ့သလဲဆိုတာ ဘယ်သူ သိနိုင်ပါ့မလဲအေ့။ သူ့အချစ်တော်ကလေးတွေရဲ့ ခါးပတ်တို့၊ သားရေအိတ်တို့၊ လက်စွပ်တို့ ဘာတို့ကျန်ချင်ကျန်ရစ်ခဲ့မှာပေါ့။ ဘယ်ပြောနိုင်ပါ့မလဲ။ အဲဒီပစ္စည်းတွေအားလုံးဟာ နှယ်နှယ် ပစ္စည်းတွေ မဟုတ်ဘူးတော့။ အမှတ်တရ သိမ်းထားရမယ့်ပစ္စည်းတွေ"

ကျီလျံသည် နတ်ငှက်မယ်၏ စကားများကြောင့် မျက်နှာ ဖြူဖပ်ဖြူရော် ဖြစ်လျက်ရှိ၏။ နတ်ငှက်မယ်က တစ်ဖက်သို့ လှည့်လိုက်သည့်အချိန်တွင် မပြောနှင့်ဆိုသည့် သဘောဖြင့် လည်ပင်းကို လှီးတိုက်သလို လက်ညှိုးဖြင့်ပွတ်ပြလေ၏။ သို့ရာတွင် ပင်အဲက မမြင်ချင်ယောင်ပြုကာ ရယ်လိုက်လျက်

"အစစ်ပဲမမရေ။ မမနဲ့ကျွန်မနဲ့ တူလိုက်တာ။ ကျွန်မလဲ စိတ်ထဲမှာ မမလိုတွေးမိတာနဲ့ သေသေချာချာ စစ်စစ် ပေါက်ပေါက်ကို ရှာတာ။ ဒါပေမယ့် ဘာမှမသင်္ကာစရာ မတွေ့ရပါဘူး မမရဲ့။ မယုံယင် မမကိုယ်တိုင်ရှာကြည့်လေ။ ပစ္စည်းတွေ သိမ်းတောင်မသိမ်းရသေးဘူး"

"ကောင်မဟာ တော်တော်ကိုအ,တယ်။ ဒါမျိုးလုပ်ခဲ့ယင် တို့ အသိခံပါ့မလားအေ့။ စောစောစီးစီးက ရှင်းပစ်မှာပေါ့"

ပန်းပုံစံ စာရွက်များကို ရသည့်အခါတွင် နတ်ငှက်မယ်သည် အပြင်သို့ထွက်သွား၏။ ပင်အဲသည် သူ့နှာခေါင်းကို လက်ညှိုးထိုးပြ၍ ခေါင်းကိုယမ်းရင်း

"တွေ့တယ်မဟုတ်လား သခင်လေး။ ကျွန်မကို ဘယ်လောက် ကျေးဇူးတင်ဖို့ ကောင်းသလဲ"

ကျီလျံသည် ပြုံးရွှင်သောမျက်နှာဖြင့် သူ့ဆီသို့ ပြေးလာကာ ပွေ့ဖက်ရင်း ကျေးဇူးတင်စကား ပြောလျက်ရှိ၏။

ပင့်အဲက ဆံစုကို ကျီလျံ၏ မျက်နှာရှေ့တွင် လှုပ်ယမ်းပြလိုက်လျက်





"မြင်တယ်မဟုတ်လား သခင်လေး။ ဒီဆံစုကို သေသည်အထိ ကျွန်မ သိမ်းထားရမယ်။ ကျွန်မအပေါ်မှာကောင်းယင် ကိစ္စမရှိပါဘူး။ မကောင်းယင် ဒီဆံစုကို ထုတ်ပြရမယ်"

"သိမ်းယင်လဲ ကောင်းကောင်းမွန်မွန် သိမ်းထားပါဟာ။ နင့်မမ မတွေ့ပါစေနဲ့"

ထိုသို့ပြောပြီးနောက် အလစ်တွင် ကျီလျံသည် ဆံစုကို ပင်အဲ လက်ထဲမှ လုယူလိုက်၏။ ကျီလျံကရယ်၍ "ငါတော့ နင့်ကို မယုံဘူးဟာ။ ဒီဆံစုကို မီးရှို့ပစ်မှအေးမှာပါ" ဟုဆိုကာ ဆံစုကို ဖိနပ်ရှည်ကြိုးကြားထဲသို့ ထိုးထည့်လိုက်၏။ ပင်အဲသည် ထောင်းခနဲ ဖြစ်သွားကာ

"ဩော် သခင်လေးက ဒီလိုလား။ ချောင်းကူးပြီးတာနဲ့ တံတားလဲ ဖျက်တယ်ပေါ့၊ မှတ်ထားပါ နောက်ကျယင်သာ ကျွန်မကို အဆိုးမဆိုနဲ့။ ဘယ်တော့မှလဲ သခင်လေးအတွက် ဖုံးဖိကာကွယ် ပြောမနေတော့ဘူး"

ကျီလျံသည် မှုန့်ရန်ထောင်နေပုံကလေးကို သဘောကျသွားကာ ပင်အဲကို ပွေ့ဖက်ပြီး ချစ်ရန် ကြိုးစားသည့်တိုင် ပင်အဲသည် သူ့လက်ထဲမှ ရုန်းထွက်ကာ အပြင်သို့ ပြေးထွက်သွားသဖြင့် ကျီလျံမှာ ဒေါပွ ကျန်ရစ်ခဲ့လေ၏။

"အေး၊ မှတ်ထားဦးပေါ့ သောက်ကန်းမလေး။ ယောကျ်ား တစ်ယောက်ကို လာထိကပါးရိကပါးလုပ်ပြီး ရှောင်ပြေးတဲ့ကောင်မ"

ပင့်အဲက ပြတင်းပေါက်က ခေါင်းပြူ၍ အထဲသို့ ကြည့်လိုက်ရင်း

"ကိုယ့်ဘာသာကိုယ် ပျံတံတံ နန့်တန့်တန့်ဖြစ်တာ ဘာဖြစ်သလဲ။ သခင်လေးကို ဘယ်သူကကော ထိကပါးရိကပါး လုပ်လို့လဲ။ ခု သခင်လေးကို ကျွန်မခွင့်ပြုလိုက်လို့ ငှက်မယ်မမ သိသွားယင် ကျွန်မပဲ အရိုက်ခံရမှာ"

"သူ့ကို ကြောက်မနေစမ်းပါနဲ့။ ငါ စိတ်မဆိုးသေးလို့ပါ။ ငါ တကယ်စိတ်ဆိုးတဲ့တစ်နေ့ကျတော့ ဒီအိမ်မှာ သူသခင်လား ငါသခင်

လားဆိုတာ ပြရဦးမယ်။ ခုတော့ တဏှာတဲ ငါ့ကို သူခိုးချောင်းဖမ်းသလို ချောင်းနေလိုက်တာ။ တခြားယောက်ျားတွေနဲ့ သူအရောတဝင်နေတာကျတော့ မှန်တယ်။ ငါက တခြားမိန်းမတွေနဲ့ ရောရောနှောနှောနေတဲ့အခါကျတော့ မနေရဘူးတဲ့။ နည်းနည်းလေး အရောမဝင်လိုက်နဲ့၊ ဝင်လိုက်တာနဲ့တစ်ပြိုင်နက် ယုန်ထင်ကြောင်ထင် ထင်တော့တာပဲ။ သူ့ကျတော့ မှတ်နဲ့ရော၊ ခဲအိုနဲ့ရော၊ မောင်တစ်ဝမ်းကွဲ နှစ်ဝမ်းကွဲတွေနဲ့ရောနေလိုက်တာ။ တဟီးဟီး တဟားဟားနဲ့။ တကယ်ဆို ကိုယ့်ယောကျ်ားဘယ်လိုခံစားရမလဲဆိုတာ စဉ်းစားဖို့ မကောင်းဘူးလား။ တော်ပြီ၊ နောက်ဆိုယင် သူ့ကိုလဲ ယောကျ်ားတွေနဲ့ သိပ်အရောဝင်ခွင့် မပေးတော့ဘူး''

ပင်အဲဏ

''မမက သခင်လေးကို မနာလိုဝန်တိုဖြစ်တယ်ဆိုတာ သဘာဝကျပါတယ်။ သခင်လေးက မမကို ဘာဖြစ်လို့ မနာလိုဝန်တိုဖြစ်ရမှာလဲ။ မမက ဘာများ ပြောစရာဆိုစရာလုပ်ဖူးလို့လဲ။ သခင်လေးသာ အပြင်မှာ ပွေချင်တိုင်းပွေ၊ ရှုပ်ချင်တိုင်းရှုပ်။ မမ မပြောနဲ့ သခင်လေးကို ကျွန်မတောင် မယုံဘူး''

''အေး၊ နင့်မမနဲ့ နင်က တစ်ကြိတ်တည်း တစ်ကြံတည်း သမားတွေကိုး။ နင်တို့နှစ်ယောက် လုပ်တာကျတော့ ဘာဖြစ်ဖြစ်မှန်တယ်၊ ငါလုပ်တာကျတော့ အပုန်မှားတယ်ပေါ့။ ကြည့်နေပါ။ နင်တို့နှစ်ယောက်နဲ့ ငါနဲ့လဲ တစ်နေ့မှာ စာရင်းရှင်းရမှာပါ''

ထိုသို့ပြောဆိုနေကြစဉ် ပန်းပုံစံများကို ပေးပြီး ပြန်လာသောနတ်ငှက်မယ်သည် ဝင်းထဲသို့ အဝင်လိုက်တွင် ပြတင်းပေါက်၌ ရပ်နေသည့် ပင်အဲကို တွေ့သဖြင့် အကျိုးအကြောင်းကို မေးမြန်း စုံစမ်းလေ၏။

''ဟဲ့ ပင်အဲ၊ စကားပြောယင်လဲ အထဲမှာ သွားပြီး အေးအေးဆေးဆေး ပြောပါတော့လား။ ဘာဖြစ်လို့ ပြတင်းပေါက်နားမှာရပ်ပြီး အပြင်ဘက်ကနေ ပြောနေရတာလဲ။ ဘာဖြစ်နေရတာလဲ''





''ဟုတ်ပါ့ကွာ။ သူလုပ်နေပုံက အခန်းထဲမှာ သူ့ကိုကိုက်စားတော့မယ့် ကျားတစ်ကောင် ရောက်နေတဲ့အတိုင်းပဲ''

''အခန်းကြီးထဲမှာ သခင်လေးနဲ့ နှစ်ယောက်တည်း မနေချင်လို့ မမရဲ့''

''နေတော့ဘာဖြစ်သလဲအော့။ ပိုကောင်းတာပေါ့'' ဟု နတ်ငှက်မယ်က ပြုံး၍ပြော၏။

''ဘာလဲ၊ မမက ကျွန်မကို ပြောနေတာလား''

''ဒါပေါ့အော့။ ညည်းကို မပြောလို့ ဘယ်သူ့ကို ပြောရဦးမှာလဲ''

''မမနော် ကျွန်မကို မစနဲ့။ တော်တော်ကြာ ကျွန်မပြောလိုက်ယင် မမ ငိုရမယ့်ကိန်း ဆိုက်နေလိမ့်မယ်''

ပင်အဲက သူ့သခင်မအတွက် ခန်းဆီးကန့်လန့်ကာကို မ၍မပေးတော့ဘဲ ရှေ့မှနေ၍ အခန်းထဲသို့ဝင်သွားကာ ခန်းဆီးကို ပြန်ဖုံးပစ်ခဲ့ပြီးလျှင် အခြားခန်းဆောင်တစ်ခုထဲသို့ ဝင်သွားလေ၏။

နတ်ငှက်မယ်သည် ခန်းဆီးကို သူကိုယ်တိုင်ဖယ်၍ ဝင်ခဲ့ပြီးနောက်

''ဒီကောင်မ ဒီနေ့ဘာဖြစ်နေသလဲ မသိဘူး။ စကားပြောတာကဆောင့်အင့်အင့်နဲ့၊ နေနှင့်ဦး၊ တစ်နေ့ကျမှ''

ကျိုလျံသည် ခုတင်မီးဖိုကြီးပေါ်တွင် လှဲလိုက်ရင်း ရယ်မောလျက်

''ပင်အဲကို ငါ ဒီလောက်သတ္တိကောင်းမှန်း မသိဘူး။ ခုတော့လဲ ဘယ်ဆိုးလို့တုန်း။ ငါထင်တဲ့အတိုင်း လာသားပဲ'' ဟု လက်ခုပ်လက်ဝါးတီး၍ ပြော၏။

''ကောင်မက ရောင့်တက်မှာပေါ့။ ရှင်ပဲမြှောက်စားပြီး ဖျက်ဆီးနေတာကိုး။ ရှင့်ကြောင့် ကောင်မ ဒီလောက်ရောင့်တက်နေတာ''

''တော်စမ်းပါကွာ၊ မင်းတို့နှစ်ယောက် မတည့်လို့ စကားများယင် ကြားထဲက ငါ့ကိုချည်းပဲ ဆွဲဆွဲထည့်တာပဲ။ ငါနဲ့ ဘာဆိုင်တာမှတ်လို့။ ရှုပ်ပါတယ်။ သွားတာပဲ ကောင်းပါတယ်''

''ဒါက ဘယ်ကိုသွားဦးမှာလဲ''

"ခုလေးတွင် ပြန်လာမှာပါ"

"နေဦး။ ရှင်နဲ့ပြောစရာ ရှိသေးတယ်" ဟု နတ်ငှက်မယ်က ပြော၏။

မည်သည့်အကြောင်းကို ပြောဆိုကြသည်ကိုမူ နောက်တစ်ခန်းတွင် ကြည့်ပါလေ။

မှန်ပေ၏။

သဘောကောင်းသော အိမ်စေမကလေးများ၌ မျှိသိပ်ထားရသည့် ပူဆွေးမှုရှိပြီး ချစ်စရာကောင်းသော အိမ်ရှင်မ ချောချောတို့တွင် မနာလိုဝန်တိုမှု ကိန်းအောင်းတတ်သည်မှာ ဓမ္မတာဖြစ်ပေ၏။







## အခန်း ၂၂

### သီချင်းတစ်ပုဒ်ကြောင့် ပေါက်ယု ဉာဏ်အလင်းရခြင်း မီးပုံးစကားထာများမှ နိမိတ်များကြောင့် ကျီချိန် သောကဖြစ်ရခြင်း။

လူ့ဇနီး နတ်ငှက်မယ်က သူနှင့် စကားပြောစရာရှိသည်ဟု ပြောလိုက်သည့်အခါ၌ ကျိလျံသည် လန့်ဖျပ်သွားကာ အကျိုးအကြောင်းကို မေးမြန်း၏။

"လှပြည့်ကျော် ခြောက်ရက်နေ့ကျယင် ပေါက်ကြည့်ရဲ့မွေးနေ့ ရှင့်။ ဘယ်လိုလုပ်ဖို့ စဉ်းစားထားသလဲ"

"ငါ ဘယ်သိမလဲကွ။ မွေးနေ့အထိမ်းအမှတ်ပွဲကြီးတွေ အများကြီး မင်းပဲ ကြီးမှူးပြီး လုပ်ခဲ့တာပဲ။ ဒီကိစ္စကျမှ မလုပ်နိုင်တော့ဘူးလား"

"မွေးနေ့မင်္ဂလာပွဲကြီးတွေကာ ပွဲကြီးပိပိ သူ့ထုံးတမ်းစဉ်လာတွေ ရှိတယ်ရှင့်။ ဒါပေမယ့် ခုပွဲက အကြီးလဲမဟုတ်၊ အသေးလဲမဟုတ်၊ စဓောစဓာမို့လို့ ရှင့်ကိုမေးနေရတာ"

ကျိလျံသည် မည်သို့မျှမဖြေသေးဘဲ ခေါင်းငုံ့၍ စဉ်းစားနေ၏။

"မင်းကလဲကွာ ဒီလောက်မှ မလုပ်တတ်တော့ဘူးလား။ ဟို တစ်ခါတုန်းက ထိုက်ယုမွေးနေ့ကိုတောင် လုပ်ခဲ့ပြီးပြီပဲ။ ခု ပေါက်ကြည် မွေးနေ့ကျတော့လဲ ဒီအတိုင်းပဲလုပ်ရမှာပေါ့"

နတ်ငှက်မယ်က လှောင်ပြုံးပြုံးလိုက်လျက်

"ဟုတ်ကဲ့။ ဒါတော့ ရှင်ပြောမှလားရှင့်။ ငှက်မယ်လဲ သိတာပေါ့။ ဒါပေမယ့် မနေ့တုန်းက မယ်မယ်က ဘာစိတ်ကူးရလို့လဲ မသိဘူး။ အားလုံးရဲ့အသက်ကို လျှောက်မေးပြီး ပေါက်ကြည်လဲ ဒီနှစ်ထဲဆိုယင် ဆယ့်ငါးနှစ်ထဲကို ရောက်ပြီဆိုတော့ စုံဂဏန်းမဟုတ်သည့်တိုင် လက်ထပ်နိုင်တဲ့အရွယ် ရောက်ပြီတဲ့။ ဒီတော့ မယ်မယ်ကသာ ပေါက်ကြည်ရဲ့မွေးနေ့ကို အထူးကျင်းပချင်တယ်ဆိုလို့ရှိယင် ဟိုတုန်းက ထိုက်ယုရဲ့ မွေးနေ့လုပ်သလို ခပ်ကျဉ်းကျဉ်းလုပ်လို့ ဖြစ်မှာမဟုတ်ဘူးရှင့်"

"ဒီလိုဆိုယင် လွယ်ပါတယ်ကွာ။ ကျယ်ကျယ်လုပ်လိုက်ပေါ့"

"ငှက်မယ်လဲ ဒီလိုပဲ စိတ်ကူးရတာပဲ။ ဒါပေမယ့် ကိုယ့်သဘောနဲ့ကိုယ် လုပ်ယင် အပြစ်ပြောခံရမှာစိုးလို့ လုပ်သင့် မလုပ်သင့် ရှင်နဲ့ တိုင်ပင်ကြည့်တာ။ တော်တော်ကြာ ငါ့ကို မတိုင်ပင်ဘူးလေး ဘာလေးနဲ့ ဖြစ်မှာစိုးလို့"

"အမယ်လေး၊ ခုမှ စိုးရိမ်နေလိုက်တာ။ မင်းကို ငါဘယ်တုန်းက အပြစ်တင်ခဲ့ဖူးလို့လဲ။ ငါ့ကို မတိုင်ပင်ချင်နေပါ။ အပြစ်မရှာယင် ကျေနပ်လှပါပြီ"

ထိုသို့ပြောပြီးလျှင် ကျိုလျှံလည်း ထွက်သွားလေ၏။ သူ ပြည့်သည့်နေရာသို့ သွားသည်ဆိုသည့်ကိစ္စမှာ ကျွန်ုပ်တို့နှင့် မဆိုင်ချေ။

ရှိစမ်းယဉ်အကြောင်းကို ပြန်ကောက်ကြဦးစို့။ ယွန်းစံအိမ်ကြီးတွင် ရက်အတန်ကြာ နေလာခဲ့ပြီးနောက် ရှိစမ်းယဉ်အဖို့ အိမ်သို့ပြန်ရန် အချိန်သည် တဖြည်းဖြည်း နီးလာခဲ့လေပြီ။ သို့ရာတွင် မယ်မယ်က ပေါက်ကြည်၏ မွေးနေ့တွင် ဇာတ်ပွဲတွေ ဘာတွေကြည့်ပြီးမှ ပြန်ရန် ပြောသဖြင့် ရှိစမ်းယဉ်မှာ မပြန်ရသေးချေ။ ဤတွင် ရှိစမ်းယဉ်သည် ကျန်ရစ်ခဲ့သည့် သူ့အစ်မဝမ်းကွဲ၏ မွေးနေ့အတွက် ဖဲစနှစ်ဝတ်စာကို လက်ဆောင်အဖြစ် ပို့လိုက်လေ၏။

ပေါက်ကြည်မှာ ယွန်းစံအိမ်ကြီးသို့ ရောက် လာ က တည်း က လွန်ခဲ့သည့်ကာလရှိ၍ အနေအထိုင် ယဉ်ကျေးသိမ်မွေ့သည့်အတွက် မယ်မယ်သည် ပေါက်ကြည်ကို အထူးသဘောကျလျက် ရှိ၏။ ယ ခု မွေး နေ့





မင်္ဂလာမှာ ယွန်းစံအိမ်ကြီးတွင် ပထမဆုံးကျင်းပမည့် ပေါက်ကြည်၏ မွေးနေ့မင်္ဂလာပွဲဖြစ်သည့်အတွက် မယ်မယ်သည် နတ်ငှက်မယ်ကို ခေါ်၍ ညှိခံပွဲလုပ်ရန်နှင့် ဇာတ်ပွဲငှားရန်အတွက် သူ့ပိုက်ဆံထဲမှ ငွေစင်နှစ်ဆယ်ကျပ်သား ထုတ်ပေး၏။

"ကဲ ဘယ်နှယ်ရှိစ၊ မယ်မယ်က အဖျားအနာက မြေးတစ်ယောက်အတွက် ကြီးကြီးကျယ်ကျယ်၊ ခမ်းခမ်းနားနား မွေးနေ့ပွဲလုပ်ချင်တယ်ဆိုတော့ ဘယ်သူတွေ ဘာပြောရဲကြသေးသလဲ။ ခုကြည့်လေ။ အကျေးအမွေးကလဲ အကောင်းစား၊ ဇာတ်ပွဲလဲ တည့်လိုက်ဦးမယ်။ ကဲ မယ်မယ်ရယ်။ မယ်မယ်စုထားတဲ့ မှီတာက်နေတဲ့ ငွေစင်လေး နှစ်ဆယ်ကျပ်သားနဲ့ ဘာလုပ်လောက်မှာလဲ။ လိုတာတွေကို ငှက်မယ်က စိုက်ထည့်ရမှာတဲ့လား။ ပျော်ပွဲရှင်ပွဲနဲ့ စည်စည်ကားကားဖြစ်ချင်ယင်တော့ မယ်မယ် စိုက်ရလိမ့်မယ်နော်။ မတတ်နိုင်ဘူးဆိုယင်တော့ ဘာမှမပြောပါဘူး။ ငှက်မယ်တို့စိုက်ဆိုယင်လဲ စိုက်ပါ့မယ်။ ဒါပေမယ့် ခုတော့ မယ်မယ့်သေတ္တာထဲမှာ ရွှေတုံးတွေ၊ ငွေတုံးတွေဆိုတာ နည်းတာတွေ မဟုတ်ဘူး။ သေတ္တာတွေတောင် ပေါက်ကျတော့မယ်။ ဒါတောင် မယ်မယ်က ငှက်မယ်တို့ဆီက ညှစ်ထုတ်နေသေးတယ်။ တကယ်တော့ ငှက်မယ်တို့အားလုံးဟာ မယ်မယ်ရဲ့ သားသမီးတွေ၊ မြေးတွေချည်းပဲ မဟုတ်လား။ ခုတော့ ကြည့်ပါဦး။ မယ်မယ်က သူ့ပစ္စည်းတွေကို ဘယ်သူ့အတွက်မှ အကုန်မခံဘူး။ သူ့မြေးပေါက်ယုဖို့ချည်းပဲ ထားတယ်။ ပေါက်ယုက မယ်မယ့်ကို တစဝတီ သာနတ်ပြည်ရောက်အောင် လိုက်ပို့မယ့်လူများထင်လို့ မယ်မယ်က သူတစ်ယောက်တည်းဖို့ချည်း ချန်ထားတာလား မယ်မယ်။ မယ်မယ်ရယ်၊ ကျန်တဲ့ ငှက်မယ်တို့တစ်တွေမှာ အလိုမှာကလေးတွေချည်းပဲ မဟုတ်သည့်တိုင် ငှက်မယ်တို့အပေါ်မှာ မယ်မယ် ဒီလောက် မရက်စက်သင့်ပါဘူး။ ခုတော့ ကြည့်ပါဦး၊ မယ်မယ်က ငွေစင်နှစ်ဆယ်သားပဲထုတ်ပေးပြီး လုပ်ချင်တော့ ညှိခံပွဲကိုယင်လဲ အကြီးကြီးလုပ်ချင်တယ်။ ဒီအထဲမှာ ဇာတ်ပွဲလဲ ထည့်ချင်သေးတယ်ဆိုတော့" ဟု ငှက်မယ်က မယ်မယ်ကို စ၍လေလျှင် ကျန်

အိမ်သူ အိမ်သားများလည်း သဘောကျစွာ အားရပါးရ ရယ်ကြလေ၏။ မယ်မယ်က ရယ်လိုက်လျက်

"စကားအိုးမ ပြောသွားတာ ကြွေးလိုက်ကြတယ် မဟုတ်လား။ ငါလဲ ဒီလောက် နှုတ်စ လျှာစနည်းတဲ့ မိန်းမတော့ မဟုတ်ပါဘူး။ ဒါပေမယ့် စကားအိုးမနဲ့တော့ မပြိုင်ရဲဘူး။ ညည်းယောက္ခမ ဒေါ်လေးဆင့်တောင် ငါ့ကို ပြောရဲတာ မဟုတ်ဘူး။ ခု ငှက်မယ်ကျမှ တစ်ခွန်းဆို တစ်ခွန်းမှ မခံဘူး"

နတ်ငှက်မယ်က ပြုံးလိုက်လျက်

"ဒေါ်လေးဆင့်ကလဲ မယ်မယ့်လိုပါပဲ။ မထူးပါဘူး။ ပေါက်ယုကို အလိုလိုက်တာပါပဲ။ ဒီတော့ ငှက်မယ်ရဲ့ဘက်မှာ တစ်ယောက်မှ မရှိပါဘူး။ ခုတော့ ငှက်မယ်ပဲ နှုတ်သီးကောင်းလျှာပါး မိန်းမ ဖြစ်ရတော့တာပေါ့"

ဤတွင် မယ်မယ်သည် ငှက်မယ်၏စကားကို သဘောကျကာ အားရပါးရရယ်ရင်း စိတ်လက် ပေါ့ပါးလန်းဆန်းလျက် ရှိ၏။

ထိုနေ့ညဉ့် အိမ်သူအိမ်သားများက မိမိအား ကန်တော့ပြီး အသီးသီး အိပ်ရာသို့ ဝင်သွားကြသည့်အခါ၌ မယ်မယ်သည် မည်သည့်ပြဇာတ်တို့နှင့် မည်သည့်ဟင်းမျိုးကို ကြိုက်သနည်းဟု ပေါက်ကြည်ကို မေး၏။ မယ်မယ်မှာ မြူးမြူးရွှင်ရွှင်ဇာတ်များနှင့် အချိုအချဉ်ပါသော အစားအသောက်တို့ကိုကြိုက်မှန်း သိသဖြင့် ပေါက်ကြည်က မိမိကြိုက်လေဟန် ထိုအစားအသောက်များကို ပြောပြလေရာ မယ်မယ်မှာ ပေါက်ကြည်ကို တိုး၍တိုး၍ သဘောကျလျက်ရှိလေ၏။

နောက်တစ်နေ့မနက်၌ မယ်မယ်သည် အိပ်ရာမှ နိုးသည်နှင့် တစ်ပြိုင်နက် အဝတ်အထည်များနှင့် လက်ဝတ်လက်စားများကို ပေါက်ကြည်ထံ အပို့ခိုင်းလိုက်လေ၏။ ဒေါ်လေးဝမ်၊ နတ်ငှက်မယ်နှင့် ထိုက်ယုတို့သည်လည်း ကိုယ့်အဆင့်အတန်းနှင့်အညီ လက်ဆောင်များပို့လိုက်ကြ၏။ အခြားသူများကလည်း မိမိတို့ အဆင့်အတန်းနှင့်အညီ လက်ဆောင်များ ပို့ကြ၏။ သို့ရာတွင် ထိုအကြောင်းကိုမူ အသေးစိတ် ဖော်ပြခြင်း မပြုတော့ပြီ။





လပြည့်ကျော် ခြောက်ရက်နေ့တွင် မယ်မယ်၏ အတွင်းဆောင်ထဲ၌ ဇာတ်စင်တစ်ခုကို ဆောက်လုပ်ပြီးနောက် ကွန်ချူနှင့် ယီယန်းဆော်ပရာပြဇာတ်များကို ကပြနိုင်မည့် ကချေသည်များကို ငှားရမ်းလေ၏။ အိမ်ထဲတွင်လည်း မိသားစု စားပွဲကြီးအတွက် ပြင်ဆင်ထားပြီးလျှင် အပြင်မှ မည်သူ့ကိုမျှ ဖိတ်ခေါ်ခြင်းမပြုတော့ဘဲ ဆွေမျိုးများကိုသာ ဖိတ်ကြား၏။ ဒေါ်လေးဆွေ့၊ ရှိစမ်းယည်နှင့် ပေါက်ကြည်တို့မှလွဲလျှင် ကျန်လူများအားလုံးမှာ ဆွေမျိုးထဲကချည်းဖြစ်၏။

ထိုနေ့မနက်၌ ပေါက်ယုသည် ထိုက်ယုကိုမတွေ့သဖြင့် လိုက်ရှာသည်တွင် မိမိ၏ ခုတင်မီးဖိုကြီးပေါ်တွင် လဲလျောင်းလျက်ရှိသည့် ထိုက်ယုကို တွေ့ရ၏။

"လာလေ၊ မနက်စာ မစားသေးဘူးလား။ မကြာခင်ဆိုယင် ဇာတ်ပွဲစတော့မယ်။ ဘယ်ပြဇာတ်ကို ကြိုက်သလဲ။ ပြောလေ၊ မလေးအစား ပေါက်ယု အကခိုင်းပေးမယ်"

ထိုက်ယုသည် လှောင်ပြောင်သရော်ဟန်ဖြင့် ပြုံးလိုက်ကာ

"မလေးကို ဒီလောက်တောင် ကြည့်စေချင်ယင်လဲ မလေးကြိုက်တဲ့ ပြဇာတ်တွေကို ကြည့်နိုင်အောင် ဇာတ်အဖွဲ့တစ်ဖွဲ့ သတ်သတ်ငှားပေးပေါ့။ သူများရဲ့ မွေးနေ့ကို သွားပြီးမှတော့ အောက်ကျနောက်ကျခံပြီး မကြည့်ချင်ပါဘူး"

"ဒါ လွယ်ပါတယ် မလေးရယ်။ နောက်တစ်ခါဆိုယင် မောင်မလေးတို့ကြိုက်တဲ့ဇာတ်ကို သတ်သတ်ငှားပြီး သူတို့ကို လာကြည့်လှည့်ကြစမ်းဆိုပြီး အကြည့်ခိုင်းရုံပေါ့"

ပေါက်ယုသည် ထိုက်ယုကို ဆွဲထူကာ လက်ချင်းတွဲလျက် လာခဲ့ကြ၏။

မနက်စာစားပြီးသည့်အခါတွင် ကိုယ်ကြိုက်သည့် ဇာတ်များကို ရွေးကြရသည့်အချိန် ဖြစ်လေရာ မယ်မယ်က ပေါက်ကြည်အား သူကြိုက်သည့်ဇာတ်ကို အရွေးခိုင်း၏။ ပေါက်ကြည်သည် မယ်မယ်က အထူးအခွင့်အရေးတစ်ရပ်အနေဖြင့် ပေးသည်ကို ငြင်းသေးသော်လည်း မရသဖြင့် မယ်မယ်ကျေနပ်စေရန် 'မဇ္ဈိမတိုင်းသို့ ဘုရားဖူး' ဆိုသည့်

ဇာတ်ကို ရွေးပေးလိုက်၏။ ထိုနောက်တွင် မယ်မယ်သည် နတ်ငှက်မယ် အား သူ့စိတ်ကြိုက်ဇာတ်ကို အရွေးခိုင်းပြန်၏။ မယ်မယ်သည် အရွ အမြူးဇာတ်လမ်းများကို ကြိုက်တတ်ကြောင်း သိသဖြင့် နတ်ငှက်မယ် သည် 'လူအဲ အဝတ်အစားပေါင်သည့်ဇာတ်' ကို ရွေးပေးလိုက်လေရ မယ်မယ်မှာ ခပ်စောစောထက်ကပင် ဘဝင်ခွေ့၍ သွားလေ၏။

နောက်တစ်ကြိမ်တွင်မူ ဒေါ်လေးဝမ်နှင့် ဒေါ်လေးဆွေ့တို ကိုပင် အရွေးမခိုင်းတော့ဘဲ အခွင့်အရေးပေးသည့်အနေဖြင့် ထိုက်ယု အရွေးခိုင်း၏။

မယ်မယ်က

"ဒီနေ့တော့ ငါ့မြေးတွေအတွက် အထူး အခွင့်အရေးပေး စိတ်ကူးထားခဲ့တာ။ ဒီတော့ ဒေါ်လေးတွေမျက်နှာကို ကြည့်မနေ ငါ့မြေးတွေအယင်ရွေး။ ပြီးတော့မှ ညည်းတို့ဒေါ်လေးတွေကို အရွေ ခိုင်းမှာ။ ဒီနေ့ပွဲက သူတို့ပွဲမဟုတ်ဘူး။ ငါ့မြေးတွေရဲ့ပွဲ။ ဇာတ်ပွဲကလ ငါ့မြေးတွေဖို့။ ထမင်းစားပွဲကလဲ ငါ့မြေးတွေဖို့။ သူတို့က စားပွဲ ပွဲလာကြည့်ရုံလောက်ပဲ။ ဇာတ်ကို သူတို့ကို အရွေးမခိုင်းဘူး။ ငါ့မြေ တွေပဲ ရွေးရမှာ"

ဤတွင် အားလုံး သဘောကျသွားကာ ရယ်ကြ၏။ ထိုက်ယု သည် ဇာတ်တစ်ခုကို ရွေးပေးလိုက်၏။ ထိုနောက် ပေါက်ယု၊ ရှိစ် ယဉ်၊ တန်ချွန်းတို့ ညီအစ်မသုံးယောက်နှင့် လီစမ်းကို အရွေးခိုင်း၏။ သူတို့ရွေးပေးသော ဇာတ်များကို အလှည့်အတိုင်း ကပြသွားလေ၏။

ထမင်းစစားပွဲပြီးသည့် အခါတွင် မယ်မယ်က ပေါက်ကြည်ကို နောက်ထပ်ဇာတ်တစ်ထုပ် အရွေးခိုင်းပြန်၏။ ပေါက်ကြည်က 'ယစ် ထုပ်ကြီးဇာတ်' ကို ရွေးပေးလိုက်၏။

"မလေးဟာ အမြဲတမ်း ဆူဆူညံညံ ကြမ်းကြမ်းရမ်းရမ်းဇာတ် တွေကို ကြိုက်တယ်"ဟု ပေါက်ယုကပြော၏။ ပေါက်ကြည်က





"မောင်လေးကလဲ အော်ပရာဇာတ်တွေကို ဒီလောက်ကြည့်ခဲ့ တာတောင် ဒီဇာတ်ထုပ်ကို ဒီလောက်ကောင်းမှန်း မသိသေးဘဲကိုး။ 'ယစ်ထုပ်ကြီးဇာတ်' ကိုမှ မကြည့်ဖူးဘူးဆိုယင် အလကားပဲ။ ဇာတ်ဓာ ခမ်းလဲခမ်းနားတယ်။ ပြီးတော့ ပညာလဲရတယ်"

"မောင်ကတော့ ဆူဆူညံညံ ဇာတ်တွေဆိုယင် ကြည့် လို့ ကို မရဘူး"

"ကဲ ဒါဖြင့် မလေးမေးမယ်။ မောင်လေးဓာ ဒီဇာတ်မျိုးကို ဆူတယ်လို့ထင်ယင် မောင်လေး အော်ပရာ ဇာတ်အကြောင်းကို ဘယ် လောက်များနားလည်လို့လဲ။ ဒီဇာတ်မျိုးကို ဆူတယ်လို့ပြောကတည်းက မောင်လေးဟာအော်ပရာဇာတ်အကြောင်းကိုနားမလည်သေးဘူးဆိုတာ ထင်ရှားနေတယ်။ ကဲလာ၊ မလေးရှင်းပြမယ်၊ ခု'ယစ်ထုပ်ကြီးဇာတ်'က မြောက်ပိုင်းမှာဆိုလေ့ရှိတဲ့ ကျန်ကျန့်ချွန်းအလိုက် စပ်ထားတဲ့ အော်ပရာ မောင်လေးရဲ့။ ဒီတေးသွားအလိုက် စပ်ထားတာဆိုတော့ဘယ်လောက် ကောင်းမလဲဆိုတာ မောင်လေး စဉ်းစားကြည့်တော့ပေါ့။ ပြီးတော့ စာသားတွေကလဲ ချီရှင်ဆောင်အလိုက် စပ်ထားတာဆိုတော့ သိပ်ပြီး ကောင်းတာပဲ။ မောင်လေး ကြားဖူးရဲ့လား"

ပေါက်ယုသည် ပေါက်ကြည်အနားသို့ တိုးလာကာ အော်ပရာ ထဲမှ သီချင်းအချို့ကို ဆိုအပြခိုင်း၏။

ပေါက်ကြည်က ခပ်တိုးတိုး ဆိုပြလေ၏။

ယောကျ်ားဇာနည်၊ သူ့မျက်ရည်လည်း
ဝေသီခန်း၍ခြောက်ခဲ့ပြီ။
မိးရောင်ထိန်ထိန်၊ အရှင့်အိမ်လည်း
မေ့းမှိန်ပျောက်ကွယ်၊ ကျန်ခဲ့ပြီ။
ငါ့စာမူလျှင်၊ ကြာပလ္လင်ရှေ့
အတွေ့ကိုဖယ်၊ ဦးဆံပယ်၍
ဘယ်ဝယ်မြောက်တောင်၊ မှန်းမျှော်ယောင်လျက်

ကျောင်းဆောင်သင်္ခမ်း၊ ရိပ်မြုံနန်းသို့
လှမ်းခဲ့ရွှေပြည်၊ အမတဆီသို့
ဖန်ရည်သကင်္ခန်း၊ ဒေါက်ချာမြန်းလျက်
တောတန်းမြိုင်ထဲ၊ သပိတ်ဆွဲကာ
အရညဂါသီ၊ တောသို့မှီအံ့။ ။

ပေါက်ယုမှာ ပေါင်ကို ပုတ်၍ စည်းလိုက်လျက်ရှိ၏။ ခေါင်း တဆတ်ဆတ် ညိတ်ရင်းလည်း ပေါက်ကြည်၏ ဗဟုသုတနှံ့စပ်ပုံကို ချီးကျူးပြောဆိုလျက်ရှိလေ၏။

ထိုက်ယုက အနားမှနေ၍

"အသာ နေစမ်းပါဟယ်။ ကောင်းကောင်းပဲ မကြည့်ရဘူး၊ 'ယစ်ထုပ်ကြီးဇာတ်' ကြည့်ချင်ပါတယ် ဆိုမှ 'သေနာပတိ ရှူးဟန် ဆောင်ခန်းဇာတ်' ထဲက သီချင်းတွေကို ဆိုနေပြန်ပြီ"

ရှိစမ်းယဉ်မှာ တခစ်ခစ်ရယ်လျက်ရှိ၏။

သူတို့သည် ဆည်းဆာမှောင်စပျိုးသည်အထိ အော်ပရာပြဇာတ်များကို ကြည့်နေကြ၏။ ပြဇာတ်ကို ကြည့်ပြီးသည့်အခါတွင် မယ်မယ်သည် မင်းသမီးလုပ်သည့် မိန်းကလေးနှင့် လူပြက်ကို သဘောကျလျက်ရှိလေပြီ။ မယ်မယ်သည်သူတို့နှစ်ယောက်ကို အခေါ်လွှတ်လိုက်၏။ အနားသို့ရောက်သည့်အခါတွင် ကချေသည်ကလေးမ နှစ်ယောက်စလုံးမှာ ပို၍ပင် ချစ်စရာ ကောင်းနေ၏။ မင်းသမီး လုပ်သည့် ကလေးမမှာအသက်ဆယ့်တစ်နှစ်သာ ရှိသေးလျက် လူပြက်လုပ်သည့် ကလေးမကလေးမှာ ကိုးနှစ်သာရှိသေးသည်ဟု သိရသည့်အခါတွင် အားလုံး အံ့အားသင့်လျက်ရှိကြ၏။ မယ်မယ်သည် သူတို့နှစ်ယောက်အား စားဖွယ်သောက်ဖွယ်များကို ထပ်မံကျွေးမွေးပြီးနောက် ငွေထုပ်များကိုလည်းချီးမြှင့်၏။

"အဲဒီကောင်မလေးတွေ မျက်နှာချေတွေ ဘာတွေနဲ့ လိမ်းလိုက်ယင် ငှက်မယ်တို့အိမ်က တစ်ယောက်ယောက်နဲ့ ဆင်တယ်လို့များ မထင်မိဘူးလား။ သေသေချာချာကြည့်စမ်း" ဟု ငှက်မယ်ကပြော၏။

ပေါက်ကြည်သည် သူဆိုလိုသည့် အဓိပ္ပာယ်ကို နားလည်လိုက်သော်လည်း မည်သို့မျှမပြောဘဲ ပြုံးလျက်ရှိ၏။ ပေါက်ယုသည်လည်း





မည်သူနှင့်တူသည်ကို သိသည့်တိုင် မပြောရဲသဖြင့် အသာပင် ငြိမ်နေလိုက်၏။ သို့ရာတွင် ရှိစမ်းယဉ်ကမူ မအောင့်နိုင်ဘဲ

"အမယ်လေး မလေးရယ်။ ဘယ်သူနဲ့တူရမှာလဲ၊ မလေးထိုက်ယုနဲ့ တူတာပေါ့"

ပေါက်ယုသည် မျက်ရိပ်ပြ၍ ရှိစမ်းယဉ်ကို တားလိုက်သေး၏။ သို့ရာတွင် မမီလိုက်တော့ချေ။ အားလုံးကလည်း သူကိုနှစ်ယောက်တင်ဆိုသည်ကို သတိပြုမိကြသည့်အလျောက် တဝါးဝါးရယ်မောကာ ချွတ်စွပ်ထားသည့်နှယ် တူကြောင်းဖြင့် ပြောဆိုလျက် ရှိကြ၏။ ခဏကြာလျှင် လူစုကွဲကြလေ၏။

ထိုနေ့ အဝတ်အစား လဲသည့်အခါ၌ ရှိစမ်းယဉ်သည် အဝတ်အစားများကို ထုပ်ပိုးပြင်ဆင်ရန် သူ့အစေတော် ရှူလီကို ခိုင်းလျက်ရှိလေ၏။

"ဟင်၊ မလေးကလဲ ဘာဖြစ်လို့လဲ။ ကျွန်မတို့မှ မပြန်သေးတာ၊ ပြန်ခါနီးတော့မှ ကောက်ပြီးထုပ်ပိုးသွားယင်လဲ ဖြစ်တာပဲဥစ္စာ"

"မနက်ဖြန်မနက် ပြန်မယ်အေ၊ ဒီမှာ ရန်လုပ်ချင်သလိုလို ဘာလိုလိုနဲ့ မလိုတမာကြည့်တာမျိုးကို မခံနိုင်ဘူး"

ပေါက်ယုသည် သူတို့နှစ်ယောက် ဆိုနေသည့် စကားများကို ကြားလိုက်သည့်အတွက် သူတို့အနီးသို့ရောက်လာကာ ရှိစမ်းယဉ်၏လက်ကို ဆွဲကိုင်လိုက်လျက်

"ဒီမှာ မလေးစမ်းယဉ်။ ကျွန်တော်စိတ်မကောင်းအောင် မလုပ်ပါနဲ့။ ကျွန်တော့်ကို အထင်မလွဲပါနဲ့ မလေး။ ထိုက်ယုက သိပ်စိတ်ကောက်တတ်တာ။ ဒါကြောင့်မို့ သူစိတ်ဆိုးမှာစိုးလို့ ဘယ်သူမှ ဘာမှ မပြောရဲကြဘူး။ ဒီတုန်းမှာ မလေးစမ်းယဉ်က ကောက်ပြောလိုက်တော့ သူစိတ်ဆိုးသွားတာပေါ့။ ကျွန်တော်က မလေးစမ်းယဉ်ကို လှမ်းကြည့်လိုက်တာက သူစိတ်ကောက်မှာစိုးလို့ မပြောနဲ့လို့ ပြောမလို့ လှမ်းကြည့်လိုက်တာပါ။ ကျွန်တော်က စေတနာနဲ့ သတိပေးမလို့ပါ။ ဒါကို မလေးစမ်းယဉ်က တစ်မျိုးထင်ယင်တော့ ကျွန်တော်ဘယ်တတ်နိုင်မလဲ။ ကျွန်တော့်စေတနာကို ဝေဒနာထင်သွားဖို့ မကောင်းပါဘူး။ ပြီးတော့

ဒီပြင်လူတွေကို ဘယ်လောက်ပဲ ထိုက်ယု စော်ကားစော်ကား မလေး စမ်းယဉ်ကို စော်ကားတာကို ကျွန်တော် မကြည့်ချင်ဘူး”

ရှိစမ်းယဉ်က ကိုင်ထားသည့်လက်ကို ခါချလိုက်ပြီးလျှင်

“တော်စမ်းပါ။ စေတနာရှိသလိုလို ဘာလိုလိုနဲ့ လေပျော့ကလေးနဲ့ လာပြောမနေစမ်းပါနဲ့။ ဒီမှာမှတ်ထားပါ။ ရှိစမ်းယဉ်တို့က မောင်လေးရဲ့ အစ်မ ထိုက်ယုတို့လို အစားထဲက မဟုတ်ဘူး။ သူများတွေပြောင်တာလှောင်တာကျတော့ ဘာမှမပြောဘူး။ စမ်းယဉ်ပြောတာကလေးကျတော့ ဒီလောက်တောင် စိတ်ဆိုးနေရသလား။ ဟုတ်ပေမပေါ့။ သူတမျိုးကြီးမတ်ရာမျိုး။ စမ်းယဉ်တို့ကတော့ အညတရထဲကကိုး။ ဒီကလဲ သူ့ကို မစော်ကားရပါဘူး”

“ကျွန်တော်က မလေးစမ်းယဉ်အတွက် ပြောတာပါ။ ခုတော့ ကျွန်တော့်ကို တလွဲထင်နေပြီ။ တကယ်စေတနာနဲ့ ပြောတာပါဗျာ။ မဟုတ်လို့ရှိယင် အခုချက်ချင်း ဖုန်မှုန့်ကလေးဖြစ်သွားပြီး လူတကာ ခြေနင်းဖတ် ဖြစ်ရပါစေရဲ့”

“တော်စမ်းပါ။ နှစ်သစ်ကူးပြီးခါစမှာ ဂဏ်လာ မရှိတာတွေ မကြားချင်ဘူး။ သွားပါ။ မောင်လေးရဲ့ အထိမခံ ရှေပန်းကန်တွေနဲ့ သာ သွားနေစမ်းပါ။ မောင်လေးကို ဘယ်လိုကိုင်တွယ်ရမယ်ဆိုတာ သူတို့ပဲ သိပါတယ်။ စမ်းယဉ်တို့ကနားမလည်ပါဘူး။ ဒီတော့ အခြောက်တိုက် ဒီအထဲမှာ မပါပါရစေနဲ့”

ရှိစမ်းယဉ်သည် ဆောင့်ဆောင့်ဆောင့်ဆောင့်နှင့် မယ်မယ်၏ အတွင်းဆောင်ထဲသို့ ဝင်သွားကာ ထိုင်ဖုံကြီးတစ်လုံးပေါ်တွင် ဆောင့်ကြီးအောင့်ကြီးဖြင့် ထိုင်ချလိုက်၏။

ပေါက်ယုသည် ထိုက်ယုကိုလိုက်ရှာ၏။ ထိုက်ယု၏ အခန်းထဲသို့ အဝင် ထိုက်ယုသည် သူ့ကိုအခန်းထဲမှ တွန်းထုတ်လိုက်ပြီး တံခါးကို အတွင်းမှ ပိတ်ထားလိုက်၏။ ပေါက်ယုသည် ဘုမသိဘမသိဖြင့် ပြတင်းပေါက်နားသို့ ကပ်လာကာ

“မလေး၊ မလေး”

သို့ရာတွင် ထိုက်ယုက ပြန်မထူးချေ။





ပေါက်ယုသည် ခေါင်းငိုက်စိုက်ကျရင်း တွေးလျက်ရှိ၏။ ဤအချိန်မျိုးတွင် ပေါက်ယုအား သွား၍ အကျိုးအကြောင်း ရှင်းပြနေလျှင် အချည်းနှီးသာ ဖြစ်မည်ကို မာလာအောင်းကောင်းသိ၏။ သို့ဖြင့် ပေါက်ယုသည် ထိုက်ယုအခန်းရှေ့တွင် ငူငူကြီးရပ်လျက်ရှိလေ၏။ ထိုက်ယုသည် ပေါက်ယုပြန်ထွက်သွားပြီ ထင်သဖြင့် တံခါးကို ဖွင့်လိုက်ရာ ရှေ့တွင်ရပ်နေသည့် ပေါက်ယုကို တွေ့ရ၏။ ဤတစ်ကြိမ်တွင်မူ ထိုက်ယုသည် တံခါးကို ပြန်မပိတ်တော့ချေ။ ထိုက်ယုသည် ခုတင်ဆီသို့ လျှောက်လာကာ ခွေ၍အိပ်နေ၏။ ပေါက်ယုသည် အခန်းထဲသို့ ဝင်လိုက်လာကာ

“ဘာဖြစ်လို့ အလကားစိတ်ကောက်နေရတာလဲ မလေး။ ပြောပြမှပေါ့။ ဒါမှ တစ်ဖက်သားလဲ ဖြေရှင်းလို့ရမှာပေါ့။ ပြောပါဦး။ ဘာဖြစ်လို့ စိတ်ဆိုးတာလဲ”

ထိုက်ယုက ဟက်ခနဲတစ်ချက် ရယ်လိုက်ပြီးလျှင်

“ဩော် မေးသေးတယ်နော်။ ဟုတ်ကဲ့ မသိပါဘူးတဲ့ရှင်။ ကျွန်မက မသိပါဘူးတဲ့။ ဟင်း၊ လူပုံလယ်မှာ လူကို ကချေသည်နဲ့ နှိုင်းပြီး ရယ်စရာလုပ်ကြတယ်ပေါ့”

“ဒါမောင်နဲ့ ဘာဆိုင်လို့လဲ မလေးရယ်။ မောင်က မလေးကို ကချေသည်နဲ့တူတယ်လို့ နှိုင်းပြောမိလို့လား။ ပြီးတော့ ရယ်တဲ့အထဲမှာ တော့ မောင်ပါလို့လား”

“ဟုတ်ပါတယ်။ မပါပါဘူး။ ဒါပေမယ့် မောင်လေးလုပ်တာ က ဝိုင်းရယ်တာ၊ ကချေသည်နဲ့ နှိုင်းတာထက်တောင် ဆိုးသေးတယ် ရှင့်၊ သိရဲ့လား”

ပေါက်ယုသည် မည်သို့ ကာကွယ်ပြောဆိုရမည်ကို မသိတော့ သည့်အတွက် တိတ်ဆိတ်လျက်ရှိလေ၏။ ထိုက်ယုက

“မောင်လေးက ရှိစမ်းယဉ်ကို မျက်ရိပ်မျက်ခြည် မပြယင် ဒီကလဲ ဒီလောက်စိတ်ဆိုးစရာ မရှိပါဘူး။ ခုတော့ ရှိစမ်းယဉ်ကို လှမ်းပြီး မျက်ရိပ်ပြလိုက်တယ်။ ဒါကဘာသဘောလဲ။ သူ့ကိုသွားအဖက်လုပ်ပြီး နောက်မနေနဲ့။ ကိုယ်ပါ အောက်တန်းကျတဲ့အထဲ ရောက်သွားလိမ့်မယ်

ဆိုတဲ့ သဘောမဟုတ်လား။ ဟုတ်ပါတယ်။ သူကတော့ မှူးမျိုးမ
မျိုးကိုး။ မလေးတို့ကတော့ သာမန် အညတရထဲကဆိုတော့ ဘယ်မှ
အဖက်တန်ပါ့မလဲ။ တကယ်လို့ သူက နေ့စက်လိုက်လို့ မလေး
ပြန်ပက်လိုက်ယင် သူအရှက်ရမယ်ပေါ့။ ဒါ့ကြောင့် သူ့ကို သူ
မနောက်နဲ့လို့ မောင်လေး ပြောချင်တာပေါ့ ဟုတ်လား။ တော်ပါ
ပေတယ်။ ဝတ္တရား ကျေပါပေတယ်။ ဒါပေမယ့် ကိုယ်က မျက်နှာ
လို အားရ ဝတ္တရား ကျေသလောက် ဟိုက အဖက် မလုပ်ဘဲ ဒေါ
သွားတော့ ခက်တာပေါ့။ ဒီအထဲမှာ သူများကို မသိမဆိုင်ဆဲ့ထည့်ပြီ
အထိမခံ ရွှေပန်းကန်နဲ့ ဘာနဲ့ ပြောတာကို နား ထောင်ပြီး သူ
တောင်းပန်နေသေးတယ်။ မလေး သူ့ကိုစိတ်ဆိုးမှာကို မောင်လေး
ဘာဖြစ်လို့ ဒီလောက် စိုးရိမ်နေရတာလဲ။ သူ့ကို မလေးက စိတ်ဆိုး
တော့ကော မောင်လေးနဲ့ ဘာဆိုင်သလဲ။ သူက မလေးကိုစိတ်ဆိုးတော့
ကော မောင်လေးအပူလား"

သူနှင့် ရှိစမ်းယဉ်တို့နှစ်ယောက် ပြောဆိုနေကြသည့်စကားများ
ကို ထိုက်ယုကြားသွားကြောင်း ပေါက်ယု သိလိုက်လေပြီ။ မိမိသည်
နှစ်ဦးနှစ်ဖက် အထင်မလွဲစေရန် သူတို့ကြားသို့ ဝင်ခဲ့ခြင်းဖြစ်သည့်တိုင်
ယခုမူ နှစ်ဖက်စလုံးက အထင်လွဲသည်ကို ခံခဲ့ရလေပြီ။ ထိုအခါတွင်
'ဉာဏ်ရှိသူတို့သည် အလုပ်ကိုကြိုးစားကြပြီး ပညာရှိသူတို့မှာ စိုးရိမ်
သောကဖြင့် ပြည့်လျက်ရှိကြ၏။ သို့ရာတွင် အရည်အချင်းမရှိသူတို့ကား
ကြီးမားသော ရည်မှန်းချက်ဟူ၍ မရှိကြချေ။ ထိုသူတို့ကား ချည်တိုင်မှ
ဖြုတ်၍မျောလိုက်သော လှေများသဖွယ် မျောချင်ရာမျောကာ အစာ
အသောက် ကျူးကြပေ၏' ဟူသော ချွန်ဇူကျမ်းမှ စာပုဒ်များကိုလည်း
ကောင်း၊ 'တောင်ပေါ်မှ သစ်ပင်တို့သည် ပထမဆုံး လဲပြိုကြ၏။
ကြည်လင်သော စမ်းရေတို့ကား ပထမဆုံး ကုန်ခန်းကြ၏' ဟူသော
ချွန်ဇူကျမ်းမှ စာပုဒ်ကိုလည်း သတိရမိလေ၏။

ပေါက်ယုသည် တွေးတောစဉ်းစားရင်း စိတ်ညစ်သည်ထက်ညစ်
လာခဲ့လေပြီ။





"သူတို့နှစ်ယောက်လောက်ကြားက ပြဿနာလောက်ကိုမှ ငါ
မဖြေရှင်းတတ်ယင် နောင်မှာ ငါ ဘယ်လို ဆက်ပြီး လူလုပ်မလဲ"ဟု
သူ့ဘာသာသူ တွေးလျက်ရှိလေ၏။ ထိုအချိန်တွင် သူ့ ဘာ သာ သူ
စိတ်ပြေအောင် လျှောက်တွေးနေ၍လည်း အကျိုး မထူး တော့သည့်
အလျောက် ပေါက်ယုသည် သူ့ခန်းဆောင်သို့ ပြန်လာခဲ့၏။

ပေါက်ယုသည် မည်သို့မျှမပြောဘဲ ရုတ်တရက် ထ၍ပြန်သွား
သည်ကို မြင်လိုက်သည့်အတွက် ကေ့ဒ္ဒ စိတ်ထိခိုက်လျက် ရှိလေပြီဟု
ထိုက်ယု သိလိုက်၏။ သို့ရာတွင် ထိုအခြင်းအရာကို မြင်လိုက်သည့်အတွက်
ထိုက်ယုမှာ ပို၍ပင် စိတ်ဆိုးသွားကာ "သွားပေါ့။ နောင်ဘယ်တော့
မှလဲ ဒီကိုမလာနဲ့။ စကားလဲ မပြောနဲ့"ဟု အော်ဟစ် ကျန်ရစ်ခဲ့၏။

ပေါက်ယုကား သူပြောသည့် စကားများကို ဂရုမစိုက်ချေ။
ခန်းဆောင်သို့ ပြန်ရောက်သည့်အခါတွင် ပေါက်ယုသည် အိပ်ရာပေါ်
သို့ ပစ်လှဲချလိုက်ရင်း ရှေ့တူရူကိုကြည့်ငေးကြည့်လျက် ရှိ၏။ မာလာ
သည် ပေါက်ယု ဘာဖြစ်လာသည်ကို ကောင်း စွာ သိ သည့် တိုင် ထို
အကြောင်းကို မပြောရဲဘဲ စိတ်ပြေလက်ပျောက်ဖြစ်ရန် အခြားရှင်လန်း
စရာ အကြောင်းများကို ပြောဆိုလျက်ရှိ၏။

"ဒီနေ့ကြည့်ခဲ့ရတဲ့ပြဇာတ်တွေ ကောင်းတယ်နော် သခင်လေး။
သခင်မလေး ပေါက်ကြည်ကလဲ မယ်မယ်နဲ့ စံအိမ်သားအားလုံးကို
ပြန်ပြီးဧည့်ခံဦးမှာပဲ"

"သူ့ဘာသာသူ ပြန်ပြီး ဧည့်ခံခံ မခံခံ မောင်နဲ့ ဘာဆိုင်တာ
မှတ်လို့"

ပေါက်ယုသည် ခါတိုင်းနှင့်မတူဘဲ တစ် မျိုး ဖြစ် နေ သည် ကို
မာလာ သတိပြုလိုက်မိလေ၏။

"ဘာဖြစ်တာလဲ သခင်လေးရယ်။ နှစ်သစ်ဦးဆိုတာ ပျော်ရ
ပါးရမယ့်အချိန်။ တခြားသခင်မလေးတွေလဲ ပျော်နေကြတာပဲ မဟုတ်
လား။ သခင်မကြီးတို့တစ်တွေဆိုယင်လဲ ပျော်ပျော်ပါးပါး၊ စိတ်လက်
ကြည်ကြည်သာသာနဲ့။ သခင်လေးတစ်ယောက်တည်း ဘာဖြစ်နေတာ
လဲ"

"သူတို့ဘာသာ ပျော်ပျော် မပျော်ပျော်၊ ဒါလဲ မောင်နဲ့ ဘာမှမဆိုင်ပါဘူး"

"ဩော် သူတို့တောင် တစ်ယောက်နဲ့တစ်ယောက် ကူညီရိုင်းပင်းပြီး ပျော်နေကြယင် သခင်လေးကကော ဘာဖြစ်လို့ မပျော်နိုင်ရမှာလဲ။ သခင်လေး ပျော်ပျော်ပါးပါးဆိုယင် ကျန်တဲ့လူတွေလဲ စိတ်ချမ်းသာတာပေါ့"

"အို၊ သူတို့ဘာသာသူတို့ စိတ်ချမ်းသာတာ မချမ်းသာတာ မောင့်အလုပ် မဟုတ်ပါဘူး။ မောင်တို့ကတော့ ကိုယ့်ကြိုက်သလို နေနေမှာပဲ။ လမ်းမမှာ ကိုယ်တုံးလုံးချွတ်လျှောက်ချင်ယင် လျှောက်မှာပဲ"

ပေါက်ယု၏မျက်လုံးမှ မျက်ရည်တွေ ကျလာ၏။ ထို့ကြောင့် မာလာသည် မည်သို့မျှမပြောတော့ဘဲ ငြိမ်နေလိုက်၏။

ပေါက်ယုသည် ထိုအခါကျမှ ပို၍ဝမ်းနည်းလာကာ အားပါးတရ ရှိုက်ကြီးတငင် ငိုလျက်ရှိ၏။ ထို့နောက် စာရေးစားပွဲဆီသို့ သွားကာ စုတ်တံကိုကောက်ကိုင်ပြီးလျှင် ရှစ်လုံးစပ် ကဗျာတိုကလေးတစ်ပုဒ်ကို ရေးလျက်ရှိလေ၏။

တစ်ယောက်တလဲ၊ လူကဲခတ်ရာ
ရုပ်ဖြိုးပြင်ပန်း၊ စိတ်ဝမ်းလည်းပါ
စိတ်ကိုမလွဲ၊ ကဲခတ်ပြီးခါ
ပြည့်စုံဆုံး၊ ကုန်လုံးသိတော့တာ။
လူကဲခတ်နည်း၊ နို့သျှည်းစုံလင်
စိတ်ကိုကြည့်နည်း၊ အပြီးကုန်မြင်
အခြားသောနည်း၊ အချည်းနှီးပင်
ထိုအခါမှ၊ အနားရမည်ထင်။

သူ့ကဗျာကလေးကို အခြားသူဖတ်လျှင် ချက်ချင်း နားမလည်နိုင်မည်စိုးသည့်အတွက် ပေါက်ယုသည် ချိုရှင်ဆောင် ဘေးသွားအလိုက် ကဗျာလေးတစ်ပုဒ်ကို ထပ်၍ စပ်ထည့်လိုက်သေး၏။ ထို့နောက်တွင် စိတ်ညစ်ညစ်နှင့် အိပ်ရာသို့ ဝင်ခဲ့ရာ အတန်ကြာလျှင် အိပ်ပျော်သွား၏။





ပေါက်ယု ရုတ်တရက် ထွက်သွားပြီးနောက်တွင် ထိုက်ယုသည် မစလဲ့ထံသို့ ရောက်လာကာ အကျိုးအကြောင်းကို မေးမြန်း၏။ ပေါက်ယု အိပ်ပျော်သွားပြီဟု သိရသည့်အတွက် ပြန်မည်ပြုစဉ် မာလာက ပြုံးစစဖြင့်

"သခင်မလေး၊ ခဏနေပါဦး။ ဟောဒီမှာ သခင်လေးစပ်ထားတဲ့ ကဗျာတစ်ပုဒ်တော့ရှိတယ်။ ဖတ်ချင်ယင်"

မာလာသည် စားပွဲပေါ်မှ စာရွက်ကို ခပ်သုတ်သုတ်သွားယူကာ ထိုက်ယုကို လှမ်းပေးလိုက်၏။ ထိုက်ယုသည် ပေါက်ယု စိတ်ဆိုးဆိုးဖြင့် ရေးခဲ့သည့် ကဗျာတိုကလေးကိုကြည့်၍ သနားလည်းသနား၊ ရယ်လည်း ရယ်ချင်ဖြစ်လျက် ရှိ၏။

"ဘာမှမဟုတ်ပါဘူးကွယ်။ စိတ်ကူးပေါက်ရာတွေ လျှောက်ရေးထားတာပါ"ဟု ထိုက်ယုက မာလာကို ပြော၏။

ထိုက်ယုသည် ကဗျာကလေးကို သူ့ခန်းဆောင်သို့ ယူသွားကာ ရှိစမ်းယဉ်အားပြ၏။ နောက်တစ်နေ့တွင် ပေါက်ကြည်ကို ပြပြန်၏။ ပေါက်ကြည်သည် ကဗျာဒုတိယပိုဒ်ကို ဖတ်ကြည့်၏။ ကဗျာမှာ အောက်ပါအတိုင်း ဖြစ်ပေ၏။

ဤလောကတွင်၊ သင်လည်းမရှိ
ငါမရှိခဲ့၊ သူက သင့်ကို
အပြစ်ဆိုလည်း၊ ဘာကိုကြောင့်ကြ
စိတ်ညစ်ရဟု၊ ယခုပင်လျှင်
ငါမေးချင်၏၊ လွတ်လပ်စွာပင်
ငါလျှင်သွားလာ၊ လေပမာသို့
ကြည်နူးသာယာ၊ ပျော်စရာနှင့်
ဝမ်းနည်းဖွယ်ရာ၊ ငါ့မှာမရှိ
ညာတိမျိုးဆွေ၊ အမေကမွေး
တစ်ရပ်ကျေးမှ၊ နီးဝေးမဟူ
အတူတူတည့်၊ လောကလူ့ရွာ
အနှစ်ဗလာ၊ အကာသာတည့်။ ။

ထိုကဗျာနှင့် ပထမကဗျာကို ဖတ်ကြည့်ပြီးလျှင် ပေါက်ကြည်သည် ရယ်လေ၏။

"လက်စသတ်တော့ သူရသွားတဲ့ အသိဉာဏ်က ဒါမျိုးကိုး။ မနေ့က ဟိုရတုကို သူ့ရှေ့မှာ ဆိုပြလိုက်လို့ မကျေမနပ်ဖြစ်သွားဟန် တူပါရဲ့။ တစအိုဘာသာနဲ့ ဈင်ဘာသာက တရားစာပိုဒ်တွေဟာ တော်တော်လေးကို ထွေပြားတယ်။ ဒီဘာမဟုတ်တဲ့ ဟာတွေကို အလေး အနက်ထားတွေးပြီး ဒီသီချင်းကြောင့် သူ့မှာ ဒီလောက် ခေါင်းရှုပ် နေရတယ်ဆိုယင် ပေါက်ကြည့်ရဲ့အပြစ် ဖြစ်နေပြီပေါ့"

ပေါက်ကြည်သည် ကဗျာစာရွက်ကလေးကို ဆုတ်ပစ်လိုက်ပြီး နောက် ချက်ချင်း မီးရှို့ပစ်လိုက်ရန် အစေတော်များကို ခိုင်းလိုက်၏။

ထိုက်ယုက ပြုံးလျက်

"ဘာဖြစ်လို့ ဆုတ်ပစ်လိုက်ရတာလဲကွယ်။ ထိုက်ယုဏာ သူ့ကို မေးစရာကလေးတွေ မေးမလို့ဟာ။ ကဲ ပြောနေကြတယ်။ မလေး တို့နှစ်ယောက် သူ့ဆီကို သွားမေးချည်ရအောင်"

သို့ဖြင့် မာလာ၊ ထိုက်ယုနှင့် ပေါက်ကြည်တို့သည် ပေါက်ယု ၏ ခန်းဆောင်သို့ လာခဲ့ကြ၏။ ထိုက်ယုကစ၍

"ဒီမှာ မောင်လေးပေါက်ယု။ မလေးပြောမယ်။ ပေါက်ဆိုတဲ့ အဓိပ္ပာယ်က အဘိုးအနဂ္ဃ ထိုက်တန်သောလို့ အနက်ထွက်တယ်။ ယု ဆိုတာက ခိုင်မာတောင့်တင်းသောလို့ အနက်ထွက်တယ်။ ဒီတော့ မောင် လေးဟာ ဘယ်လိုများ အဖိုးတန်ပြီး ဘယ်လိုများ ခိုင်မာတောင့်တင်း တာလဲဆိုတာ မလေးတို့ကို ရှင်းပြစမ်းပါဦး"

ပေါက်ယုက မည်သို့မျှမဖြေနိုင်သည့်အခါတွင် သူတို့သုံးယောက် သည် လက်ခုပ်လက်ဝါးတီး၍ ရယ်လိုက်ရင်း

"အမယ်လေး၊ ဒါလေးကိုတောင် မဖြေနိုင်တဲ့လူက အဘိဓမ္မာ တွေ ဘာတွေကို ရေးသတဲ့တော်"

ထိုက်ယုက ဆက်လက်၍





"မောင်လေးကဗျာမှာပါတဲ့ နောက်ဆုံးစာကြောင်းက ကောင်း တော့ ကောင်းပါရဲ့။ ဒါပေမယ့် မလေးက အောက်က နှစ်ကြောင်း လောက် ထပ်ဖြည့်လိုက်ချင်တယ်။ 'အခြားသောနည်း၊ အချည်းနှီး ပင်၊ ထိုအခါမှ အနားရမည်ထင်'ဆိုတဲ့ အကြောင်းအောက်မှာလေ"

လောကတလွှား၊ အနားရရာ
ဘယ်ခါမှ ရှာ၍မရပါ။

"ဟုတ်တယ်၊ အဲဒါမျိုးကိုမှ တကယ့်အသိဉာဏ်လို့ ခေါ်နိုင် တာ။ ပေါက်ကြည် ကြားဖူးတယ်၊ ဟိုရှေးတုန်းက ဒက္ခိဏဂိုဏ်းက ဆဋ္ဌမ သာသနာပိုင် ဆရာတော်ကြီး ဟွဲ့နင်ဟာ ငယ်ငယ်တုန်းက ဥပဇ္ဈာယ်ဆရာ လိုက်ရှာသတဲ့။ အဲဒီတုန်းက ပဉ္စမ သာသနာပိုင် ဆရာ တော်ကြီး ဟုန်ယင့်ဟာ ဟုန်မေ့တောင်ပေါ်မှာရှိတဲ့ တောရကျောင်း တစ်ကျောင်းမှာ သီတင်းသုံးနေတယ်လို့ ကြားရတော့ ဆဋ္ဌမသာသနာ ပိုင် ဆရာတော်လောင်း ဟွဲ့နင်ဟာ အဲဒီသာသနာပိုင် ဆရာတော်ကြီး ထံမှာသွားပြီး တပည့်ခံ စာဝါလိုက်သတဲ့။ ပြီးတော့ ဆရာတော်ကြီး ကိုလဲ ဆွမ်း၊ ပန်း၊ ရေချမ်းကပ်ပြီး ဝေယျာဝစ္စတွေကို လုပ်ပေးနေ သတဲ့။ ပဉ္စမသာသနာပိုင် ဆရာတော်ကြီးကလဲ သူ ပျံလွန်တော်မူယင် ဆက်ခံဖို့တပည့် လိုက်ရှာနေတယ်။ ဒါနဲ့ ဆရာတော် လောင်းတွေကို အရည်အချင်း စမ်းသပ်တဲ့အနေနဲ့ ဆရာတော်ကြီးက သူ့စာဝါလိုက်တဲ့ စာသင်သား တပည့်ရဟန်းတွေကို ဂါထာအစပ်ခိုင်းတယ်။ ဒီတော့ တော်တော်ပါကြီးတဲ့ ရဟန်းတစ်ပါးဖြစ်တဲ့ ရှန်စွီက ဂါထာတစ်ပုဒ် စပ်တယ်။

ခန္ဓာသည် ဗောဓိညောင်ပင်နှင့်တူ၏။
စိတ်သည် ကြည်လင်သော မှန်ကြေးမုံနှင့်တူ၏။
ထို့ကြောင့် မှန်ကြေးမုံကို ဖုန်မှုန့်တို့မတင်ရန်
စင်ကြယ်စွာ ပွတ်တိုက်ရာ၏။

"ဒီဂါထာကို ကုလားဖုတ်တဲထဲမှ ဆရာတော်ကြီးဖို့ ယာဂုကျို နေတဲ့ ဆရာတော်လောင်း ဟွဲ့နင် ကြားတဲ့အခါကျတော့ ဂါထာက ကောင်းတော့ကောင်းပါရဲ့၊ ဒါပေမယ့် သည်လိုစပ်ယင်ပိုမကောင်းပေ ဘူးလားလို့ စိတ်ကူးရပြီး

ဗောဓိညောင်သည် အပင်မဟုတ်။
မှန်ကြေးမုံသည်လည်း ကြည်လင်ခြင်းမရှိ။
မည်သည့်အရာမျှ မဟုတ်သည့်အတွက်
ဖုန်မှုန့်သည် အဘယ်မှာရှိမည်နည်း။

"ဒီတွင် ပဥ္စမ သာသနာပိုင်ကြီးက သူ့သင်္ကန်းနဲ့ သပိတ်ကို ဟွဲ့နင်ကိုပေးပစ်ပြီး သူ့နေရာကို ဆက်ခံစေသတဲ့။ ခု မလေးရဲ့ ကဗျာ ကလဲ ဒီအတိုင်းပဲ။ သူ့ကို မလေးရေးပေးတဲ့ ပဟေဠိက ဘာတဲ့လဲဟင်၊ ခုထက်ထိ သူ မဖြေသေးပါလား။ ဒီလို ဘယ်လိုလုပ်ပြီး မလေးရေးပေး ခဲ့တာလဲ"

"ချက်ချင်း ဖြေနိုင်ယင် ဖြေလေ။ မဖြေနိုင်ယင် သူရှုံးပြီပေါ့။ ခုအချိန်မှ လာဖြေယင်တောင် ရှုံးနေပြီ။ ကဲပါကွယ်။ ချင် ဘာသာ ရေးကြောင်းတွေ ဘာတွေကို မပြောကြပါနဲ့တော့။ မောင်လေးက ချင် ဘာ သာ ရေး အ ကြောင်း မလေး တို့ လောက်တောင် မသိဘဲနဲ့ အဘိဓမ္မာတွေ ဘာတွေအကြောင်းကို ရေးချင်သေးလို့လား"

ပေါက်ယုသည် ဘာသာရေးတွင် သူ့ကိုယ်သူ အတော် တတ်ရ ပြီဟုထင်သည့်တိုင် ယခုမူ ထိုက်ယုနှင့် ပေါက်ကြည်တို့က ဘာသာရေး အကြောင်းကို သူ့ထက်ပင် ပြောသွားကြလေပြီ။ "အင်း သူတို့ဟာ ဘာသာရေးအကြောင်းကို ငါ့ထက် နားလည်ကြပေမယ့် သူတို့တော် ညဏ်စဥ်ပေါက်တယ်လို့ မထင်ကြသေးဘဲနဲ့ ငါက ဘာဖြစ်လို့ ထင်နေမ တာပါလိမ့်"ဟု တွေးနေ၏။ ထိုနောက် ပေါက်ယုသည် တစ်ချက်မျ လိုက်လျက်

"ကျွန်တော်က ဝိပဿနာတွေ၊ အဘိဓမ္မာတွေကို ရေးနေတာ မဟုတ်ပါဘူး မလေးရယ်။ အပျင်းပြေ ကဗျာစပ်တာပါ"





သို့ဖြင့် သူတို့လေးယောက်သည် ပြန်လည်၍သင့်မြတ်သွားကြ၏။

ထိုသို့ပြောဆိုနေကြစဉ် ရွှေနန်းတော်ကြီးရှိ မြောက် နန်းမတော် ထိပ်ထားထံမှ သူတို့ဖြေဆိုရန်အတွက် မီးပုံးစကားထာများ ပို့လိုက်ပြီး သူတို့ကလည်း စကားထာများ ပြန်ပို့ပေးရန် နန်းတော်ကြီးမှ စေလွှတ် လိုက်သည့်မင်းချင်းတို့ ရောက်ရှိလာ၏။

ထို့ကြောင့် သူတို့လေးယောက်သည် မယ်မယ်၏နန်းဆောင်များ ဘက်သို့ လာခဲ့ကြသည်တွင် နန်းဆောင်ထဲ၌ မီးပုံးစကားထာ ဝှက်ရန် အတွက် အထူးစီမံပြုလုပ်ထားသည့် စလောင်းပြားအုပ်၊ ပိုးနီစ ထား သည့် လေးထောင့်မီးပုံးတစ်လုံးကို ကိုင်၍ ထိုင်နေသော ခပ်ငယ်ငယ် မိန်းမစိုး တစ်ယောက်ကို တွေ့ရ၏။ ထိုမီးအိမ်ပေါ်တွင် စကားထာ စာတန်းတစ်ခုကိုလည်း ချိတ်ဆွဲထား၏။ သူတို့လေးယောက်သည် စကား ထာကိုဖတ်၍ စဉ်းစားလျက်ရှိကြစဉ် မိန်းမစိုးသည် နန်းတော်ကြီးမှ အမိန့်ကို ဖတ်ကြားလျက်ရှိ၏။

"သခင်မလေးများသည် မိမိတို့ရရှိသည့်အဖြေကို မည်သူ့ကိုမျှ မပြောပြခြင်းမပြုရ။ အဖြေကိုရလျှင် ရေးချပြီး စာအိတ်ကို ချိပ်ပိတ်၍ ပို့ရမည်။ အဖြေများကို နန်းမတော်ထိပ်ထားကိုယ်တိုင် ကြည့်တော် မူမည်ဖြစ်ကြောင်း အမိန့်တော်"

ပေါက်ကြည်သည်လည်း အခြားသူများနှင့်အတူ မီးပုံးအနီးသို့ ကပ်ကာ စကားထာစာတန်းကို သေချာစွာဖတ်လျက်ရှိ၏။ အမှန်အား ဖြင့် စကားထာမှာ ဘာမျှခက်ခဲလှသည့်စကားထာမဟုတ်ချေ။ သာမန် လေးချိုးကလေး တစ်ပုဒ်မျှသာ ဖြစ်၏။ ပေါက်ကြည်သည် အဖြေ ကို ချက်ချင်း သိလိုက်ပြီဖြစ်သည့်တိုင် လွန်စွာ ခဲခဲယဥ်းယဥ်း စဉ်းစား နေရဟန်ဖြင့် စဉ်းစားလျက်ရှိပြီး စကားထာ၏ လေးနက်ပုံကို ချီးမွမ်း ပြောဆိုလျက်ရှိ၏။

ပေါက်ယု၊ ထိုက်ယု၊ ရှီစမ်းယဥ်နှင့် တန်ချွန်း တို့ သည် လည်း အဖြေကိုခန့်မှန်းမိလိုက်ကြသည့်အတွက် အသီးသီးထသွားကာ စာရွက် တစ်ရွက်ပေါ်သို့ ရေးချလျက်ရှိကြ၏။ ထိုနောက် ကျိဟုန်၊ ကျိလန်နှင့် အခြားသူတို့ကိုလည်း အခေါ်ခိုင်းကာ စကားထာကို ဖြေခိုင်း၏။

ရင်းတို့သည် ဦးနှောက်ကို ဖျစ်ညှစ်စဉ်းစားလျက် ရှိကြ၏။ ထိုနောက်တွင် တစ်ယောက်စီက စကားထာများကို သပ်ရပ်စွာ ရေးချကာ မိန်းမစိုးကို လာရောက်ပေးကြ၏။

ညနေပိုင်းသို့ရောက်လျှင် ရွှေနန်းတော်ကြီးမှ မိန်းမစိုးသည် ပြန်ရောက်လာကာ နန်းမတော်ထိပ်ထား ဝှက်လိုက်သည့် စကားထာကို သခင်မတန်ချွန်းနှင့် သခင်လေးကျိဟုန်တို့မှအပ ကျန်လူများအားလုံး ဖြေဆိုနိုင်ကြကြောင်း၊ နန်းမတော်ထိပ်ထားလေးသည် အဖြေများကို စဉ်းစားထားပြီး တိုက်ကြည့်ရန် စေလွှတ်လိုက်ကြောင်း၊ သို့ရာတွင် နန်းမတော်ထိပ်ထား၏ အဖြေနှင့် သူတို့အဖြေသည် တိုက်ဆိုင်ချင်မှ တိုက်ဆိုင်မည်ဖြစ်ကြောင်း၊ ထို့ကြောင့် တိုက်ကြည့်ကြစေလိုကြောင်းဖြင့် ပြောဆိုကာ နန်းမတော်ထိပ်ထား ရေးပေးလိုက်သည့်အဖြေများကို ထုတ်ပြ၏။ အချို့မှာမှန်၍ အချို့လည်း မှားကြ၏။ သို့ရာတွင် အားလုံးကမူ ကိုယ့်အဖြေမှန်သည်ဟူ၍ ငြင်းခုံလျက်ရှိကြလေ၏။

ထိုနောက်တွင် မိန်းမစိုးသည် နန်းမတော်ထိပ်ထား ပေးလိုက်သော ဆုများကို အဖြေမှန်သူများသို့ ပေး၏။ ဆုများမှာ ရွှေနန်းတော်ကြီးတွင် ပြုလုပ်သည့် စာပလွေတစ်ခု၊ လက်ဖက်ရည်ကရားသုတ်ရန် ဝါးနှီးချော ယပ်တစ်ချောင်းတို့ဖြစ်၏။ ဆုမရသူဆို၍ တန်ချွန်းနှင့် ကျိဟုန်တို့သာ ရှိလေရာ တန်ချွန်းမှာ အပျော်သဘောမျှသာဖြစ်၍ ဆုမရသည်ကို အရေးမကြီးသည့်တိုင် ကျိဟုန်မှာ ဆုမရသဖြင့် အကြီးအကျယ် စိတ်ပျက်လျက်ရှိ၏။

ထိုနောက် မိန်းမစိုးက

"နန်းမတော် ထိပ်ထားဟာ သခင်လေးကျိဟုန် ပေးလိုက်တဲ့ စကားထာကိုတော့ မစဉ်းစားတော့ဘူးခင်ဗျ။ စကားထာက အဓိပ္ပာယ်မရှိဘူးလို့ ထိပ်ထား ယူဆတော်မူတယ်။ ဒါ့ကြောင့် အဓိပ္ပာယ်ရှိခဲ့တယ်ဆိုယင် မေးမြန်းပြီးပြန်ယူခဲ့ဖို့ အမိန့်တော်ရှိလိုက်တယ်"

ဤတွင် အားလုံးဝိုင်းလာပြီး ကျိဟုန် ပေးလိုက်သည့် စကားထာကို ဖတ်ကြလေ၏။







အစ်ကိုကြီးမှာ ထောင့်ရှစ်ထောင့်
ညီလေးမှာ ချိုနှစ်ချောင်းစောင့်။
အစ်ကိုကြီးက အမိုးမှာမှိုင်
ညီလေးက အိပ်ရာပေါ်မှာထိုင်။

ဤတွင် အုံးခနဲရယ်သံ ပေါ်ထွက်လာပြီးနောက် အဖြေမှာ ခေါင်းမှီအုံးနှင့် ဝတ်ရုံချိတ်သည့် တိရစ္ဆာန်ချိုတို့ဖြစ်ကြောင်း ကျိဟုန်က မိန်းမစိုးကို ပြောပြလေ၏။ မိန်းမစိုးလည်း အဖြေကိုကူးပြီး၍ တည်ခင်းသော လက်ဖက်ရည်ကို သောက်ပြီးနောက် နန်းတော်ကြီးသို့ပြန်သွား၏။

မြေးငယ်ဖြစ်သူ နန်းမတော်ထိပ်ထားလေး စိတ်လက်ကြည်သာ ရှိနေသည်ကို မြင်ရသည့်အတွက် မယ်မယ်မှာ ဝမ်းသာလျက် ရှိ၏။ မယ်မယ်သည် မီးပုံးလိုက်ကာတစ်ခုကို ချက်ချင်းအလုပ်ခိုင်းကာ ခန်းဆောင်တွင် ထောင်ထားခိုင်းလိုက်ပြီးလျှင် အိမ်ရှိသည့် သူငယ်မကလေးများအားလည်း စကားထာများဝှက်ကာ၊ ထိုလိုက်ကာပေါ်တွင် လာ၍ စာတန်းချိတ်ထားရန် ပြော၏။ စံပယ်နံ့သင်းသည့် လက်ဖက်ရည်နှင့် စားသောက်ဖွယ်ရာတို့ကိုလည်း ပြင်ဆင်ထားပြီးလျှင် ဆုများပေးရန်လည်း စီစဉ်ထား၏။

ရွှေနန်းတော်ကြီးမှ ပြန်လာပြီးသည့်နောက်မှစ၍ မိခင်ကြီးဖြစ်သည့် မယ်မယ်သည် အထူးစိတ်လက်ရွှင်လန်းပေါ့ပါးလျက် ရှိသည်ကို ကျိချိန် သတိပြုမိ၏။ ထိုနေ့ညတွင်လည်း စကားထာဝှက်ပြိုင်ပွဲ ပြုလုပ်သည့်အတွက် ကျိချိန်သည် သူကိုယ်တိုင် ပေါက်လာကာ စကားထာဖြေသည့်ဝိုင်းကို လာရောက် နားထောင်သေး၏။ ထို့ပြင်မက စားဖွယ်သောက်ဖွယ်များ၊ ဆုများနှင့်တကွ ခန်းဆောင်ထဲတွင် မီးပုံးများကိုလည်း ပြင်ဆင်ထွန်းညှိစေပြီးနောက် မယ်မယ်ကိုလည်း လာရောက်နားထောင်ရန် ဖိတ်၏။ မယ်မယ်သည် သားဖြစ်သူ ကျိချိန်၊ မြေးဖြစ်သူ ပေါက်ယုတို့နှင့်အတူ အမြင့်ဆုံးစားပွဲရှည်ကြီးတွင် ထိုင်လျက်ရှိပြီး ဒေါ်လေးဝမ်၊ ဒေါ်လေးဆင့်၊ ပေါက်ကြည်၊ ထိုက်ယုံ၊ ရှီစမ်းယဉ်တို့က စားပွဲတစ်လုံး၊ ယင်ချွန်း၊ တန်ချွန်း၊ ကျိလျှံနှင့် ကျန်လူများက စားပွဲတစ်လုံး စသဖြင့် အသီးသီးထိုင်နေကြ၏။ ခန်းဆောင်

ထဲတွင် အထိန်းတော်ကြီးများ၊ အစေတော်များဖြင့်လည်း ပြည့်လျက်ရှိ၏။ လီဝမ်းနှင့် နတ်ငှက်မယ်တို့မှာ အတွင်းဆောင်ဘက်ရှိ စားပွဲတစ်လုံးတွင် ထိုင်နေကြ၏။

ကျီချိန်က ကျီလန်တစ်ယောက် မရောက်လာသည့်အကြောင်းကို မေးမြန်းသည့်အခါ၌ အထိန်းတော်တစ်ယောက်သည် အတွင်းဆောင်ဘက်သို့ ကူးသွားကာ လီဝမ်းထံလာ၍ အကျိုးအကြောင်း မေးမြန်း၏။ လီဝမ်းက မတ်တတ်ရပ်လိုက်ရင်း

"သခင်ကြီးက သူ့ကိုမဖိတ်လို့ မလာတော့ဘူးလို့ ပြောလိုက်ပါတယ်"

အထိန်းတော်က ထိုအကြောင်းကို ကျီချိန်အား ပြန်ပြောလိုက်သည့်အခါတွင် အားလုံး ဝါးခနဲ ရယ်လိုက်ကြလေ၏။ ကျီချိန်က "တော်တော် ခေါင်းမာပြီး၊ တော်တော် တစ်ယူသန်တဲ့ကောင်" ဟု ပြုံး၍ ပြော၏။

ကျီချိန်သည် ကျီဟုန်နှင့် အစေတော်နှစ်ယောက်ကို ကျီလန်ထံသို့ အခေါ်လွှတ်လိုက်၏။ မယ်မယ်သည် ကျီချိန်ကို အနီးတွင် အထိုင်ခိုင်းကာ စားဖွယ်သောက်ဖွယ်များကို ချကျွေးလျက်ရှိပြီး အခြားသူများမှာမူ စားရင်းသောက်ရင်းဖြင့် တစ်ယောက်တစ်ပေါက် ဆူညံစွာ စကားပြောလျက် ရှိကြ၏။

ဓါတိုင်းဆိုလျှင် ပေါက်ယုသည် စကားသွက်လှေရှိ၏။ ယနေ့မှာမူ ဖခင်ကြီးကျီချိန် အနားတွင်ရှိသည့်အတွက် မေးလျှင်လည်း တိုတိုတုတ်တုတ်သာ ဖြေလေ့ရှိ၏။ ဓါတိုင်းဆိုလျှင် စကားကို ဗလစ်ဗလစ်နေအောင် ပြောတတ်သည့် ရှီစမ်းယဉ်လည်း အနားတွင် ဦးကြီးကျီချိန်ရှိသည့်အတွက် များစွာ နှုတ်မသွက်လှချေ။ ထိုက်ယုမှာ ပင်ကိုကပင်လျှော့လှုတောထဲတွင် စကားနည်းသူဖြစ်၏။ ပေါက်ကြည်မှာလည်း လူကြီးတွေ စုံသဖြင့် စကားပြောလျှင် စကားလုံးကို ရွေးချယ်စဉ်းစား၍ ပြော၏။ သို့ဖြင့် ထိုညက စကားထာဝှက်ပွဲတွင် အိမ်သားအားလုံးတို့ကိုကြည့်ရသည်မှာ အနည်းငယ် အနေရကျပ်သည့်ဟန် ပေါ်နေ၏။





ဤသို့ဖြစ်နေရခြင်းမှာ ကျီချိန်ကြောင့်ဖြစ်ကြောင်းကို သိလိုက်သည့်အတွက် မယ်မယ်သည် လက်ဖက်ရည်သုံးခွက်လောက် သောက်ပြီးသည့်အခါ၌ ကျီချိန်အား အနားယူရန်ပြော၏။ ဤတွင်သူရှိနေသည့်အတွက် လူငယ်တွေ ခပ်ရှိန်းရှိန်းဖြစ်နေကြကြောင်း၊ ထို့အတွက် မယ်မယ်က သူ့ကို အသာနှင်လွှတ်လိုက်ခြင်းဖြစ်ကြောင်းကို သိသည့်အတွက် ကျီချိန်ကလည်း ပြုံးလိုက်ကာ

"မယ်မယ်ရယ်၊ ဒီနေ့ မယ်မယ်က မီးပုံးစကားထာတွေ ဝှက်မယ်ဆိုလို့ ကျွန်တော်ဖြင့် စားဖွယ်သောက်ဖွယ်တွေရော၊ ဆုတွေရော ယူလာလိုက်ရတာ။ မယ်မယ်ကလဲ မြေးတွေကိုတွေ့တော့ သားကိုတောင် အတိမရတော့ဘူးထင်ပါရဲ့"

မယ်မယ်သည် တခစ်ခစ်ရယ်လျက်ရှိ၏။

"မင်းရှိနေယင် ကလေးတွေက မင်းနဲ့ စကားလဲ ပြောမှာမဟုတ်ဘူး။ ရယ်လဲရယ်မှာ မဟုတ်ဘူး။ ဒီတော့ ပျင်းစရာကြီး။ စကားထာဝှက်ချင်တယ် ဆိုယင်တော့ မယ်မယ်မေးပါ့မယ်တော်။ ဖော်မယ်သာဖြစ်ပါ။ အဲ.... ရှုံးယင်တော့ လျော်ရမယ်နော်"

"လျော်မှာပေါ့ မယ်မယ်ရဲ့၊ နိုင်ယင်လဲ ဆုပေးရမယ်နော်"

"ရပါတယ်တော်၊ ကဲ ဝှက်ပြီ၊ မျောက်ကြီးတဲ့။ ရှောက်သီးလဲ မစားဘူးကွာ၊ ခြေထောက်နဲ့ အမြီးကဲ ပေါ့လွန်းတဲ့အတွက် သစ်ပင်ထိပ်များမှာ တက်ရပ်နေသတဲ့။ အဲဒါဘာလဲ။ သစ်သီးတစ်မျိုးထဲကပဲ"

လိုင်ချီးသီး ဖြစ်ကြောင်းကို ကျီချိန် ချက်ချင်းသိလိုက်သော်လည်း အမှားတွေကို လျှောက်ဖြေပြီး နောက်ဆုံးတွင် အမှန်ကို ဖြေလိုက်သဖြင့် ဆုရလေ၏။ ထို့နောက် ကျီချိန်က စကားထာဝှက်ကာ မယ်မယ့်ကို အဖြေခိုင်းလေ၏။

ကိုယ်က လေးထောင့်ပတ်ချာ
အသားက မာမာ
စကားမှာ မပြောတတ်
သူများပြောသမျှကိုတော့ အကုန်မှတ်။

= အသုံးအဆောင်ပစ္စည်းတစ်ခု။

ကျိချိန်သည် အဖြေကို ပေါက်ယုအား ကပ်၍ ပြောလိုက်ပြီး ပေါက်ယုကလည်း သူ့အဘွား မယ်မယ်ကို အရိပ်အမြွက်လောက်ပြော လိုက်၏။ မယ်မယ်သည် ခဏမျှ စဉ်းစားပြီးနောက်

"မင်သေးကျောက်"

"ဟုတ်ပြီ မယ်မယ်။ မယ်မယ်ဖြေတာ မှန်တယ်။ ဒီတော့ ကျွန် တော်က လျှော်ရမှာပေါ့။ ဟော့ လက်ဆောင်တွေ ယူခဲ့ဟေ့"

အောက်ထပ်မှာ အစေတော် မိန်းမများ၏ အော်သံများကို ကြားရပြီးနောက် မကြာမီတွင် ဗန်းကြီးများနှင့် သေတ္တာကလေးများ ဘူးကလေးများကို သယ်လာကြ၏။ မယ်မယ်သည် ပစ္စည်းများကို တစ်ခု ပြီး တစ်ခု စစ်ဆေးကြည့်သည်တွင် မီးထွန်းပွဲတော် အတွက် အသစ် အဆန်းပစ္စည်းများ ဖြစ်သည်ကို တွေ့ရသည့်အတွက် ဝမ်းသာလျက် ရှိ၏။

"ဟဲ့၊ နင်တို့ သခင်ကြီးအတွက် အရက်ချိုတို့ဘာတို့ ထည့်ပေး ကြစမ်း"

ပေါက်ယုက အရက်ကိုငှဲပေးပြီး ယင်ချွန်းက ကျိချိန်ကိုပေး၏။

"ကဲ မင်းမေးတဲ့ စကားထာကတော့ ဟုတ်ပါပြီ။ ဟောဟို မီးပုံးတွေပေါ်မှာ ကလေးတွေဝှက်တဲ့ စကားထာတွေရှိတယ်။ အဲဒါ တွေကိုကော ဖြေစမ်းပါဦး" ဟု မယ်မယ်က ပြော၏။

ကျိချိန်သည် ထိုင်ရာမှ ထလာကာ မီးထွန်းထားသည့် လိုက်ကာ ဆီသို့ ထလာခဲ့၏။

ငါအော်လျှင် တခွေ့တွေကြောက်
ငါခြောက်လျှင် ဘီလူးတွေပုန်း
ငါချုန်းလျှင် လူတွေလန့်
စိမ်းဖန့်ဖန့်ပိုးပဝါ ငါ့ကိုယ်မှာရစ်
နောက်ဆုံးတော့ ငါဟာပြာမှုန့်ဖြစ်။

"ဗျောက်အိုးကို ပြောတာမဟုတ်လား" ဟု ကျိချိန်က ပြော၏။ မှန်ကြောင်း ပေါက်ယုက ပြောလိုက်သည့်အခါတွင် နောက် စကားထာတစ်ပုဒ်ကို ဆက်ဖတ်ပြလေ၏။





လူတွေတွက်တဲ့ ချောက်ချက်ချက်
ကောင်းကင်ဘုံက စက်
ကောင်းကင်စက် မရှိယင်
လူတွေဒုက္ခရောက်မှာပင်
ကောင်းကင်စက်ကို ဘယ်သူလုပ်
လောကီဘုံသားလုပ်။

"အံမယ်၊ ဘာခက်တာမှတ်လို့။ ပေသီးတွက်ခုံပေါ့ကွာ"

ယင်ချွန်းက ပြုံး၍ ဟုတ်မှန်ကြောင်း ပြော၏။

ကျိချိန်သည် နောက်စကားထာ တစ်ပုဒ်ကို ဖတ်ကြည့်ပြန်၏။

ကလေးတွေ လှေကားထစ်မှာ တမော့မော့
ကောင်းကင်မှာ သူ့ကိုဆင်ယင်ထားလို့ကြော့
ပိုးကြိုးဖြတ်တော့ လွင့်သွားရှာ
ကဲ့ကွဲ့မှုအတွက် အရှေ့လေကို အပြစ်မဆိုသာ။

"ကြည့်ရတာကတော့ လေတံခွန်နဲ့ တူတာပဲ"

တန်ချွန်းက ဟုတ်မှန်ကြောင်း ပြောသည့်အခါ၌ ကျိချိန်သည် နောက်စကားထာတစ်ခုကို ကြည့်ပြန်၏။

အယင်ဘဝလည်း မဟုတ်၊ ခုဘဝလည်း မဟုတ်
ဒါပေမယ့် အယင်ဘဝက တေးသံတွေပျောက်
ခုဘဝက သုတ္တန်တွေရောက်
အယင်ဘဝတုန်းက အမှောင်ထဲရောက်
ခုဘဝမှာ အမှောင်ပျောက်
သူ့ရင်ထဲမှာ အလင်းရောင်တောက်။

"ရုပ်ပွားတော်ရှေ့မှာ ကပ်ထားတဲ့ ဆီမီးခွက်ကွာ"

"မှန်တယ်" ဟု ဆီချွန်းက အပြုံးဖြင့်ပြော၏။

ကျိချိန်သည် တစ်ယောက်တည်း တွေးလျက်ရှိလေ၏။

"နန်းမတော် ထိပ်ထားကလေးကတော့ ဗျောက်အိုးကို စကား ထာဝှက်တယ်။ ဗျောက်အိုးဆိုတာ တစ်ချက်ပေါက်ကွဲပြီးတာနဲ့ ပျက်စီး သွားရတဲ့အရာမျိုး၊ ယင်ချွန်းကတော့ ပေသီးတွက်ခုံကို စကားထာဝှက်

တယ်။ ပေသီးတွက်ခုံဆိုတာ အမြဲတမ်း တချောက်ချောက်နဲ့ တွက် လှုပ်ရှားနေတဲ့အရာ။ တန်ချိန်းက လေတံခွန်ဟု စကားထာဝှက်တ လေတံခွန် ဆိုတာက လေနဲ့အတူ မျောပါသွားတတ်တဲ့ ပစ္စည်း တန်ချိန်းဝှက်တဲ့ ဆီမီးခွက်ဆိုတာကလဲ သာပြီးတော့တောင် အထိ အဖော်မဲ့ ဖြစ်သေးတယ်။ အင်း၊ နှစ်သစ်ကူးပြီးခါစမှာ ဝှက်တဲ့ စက ထာတွေထဲမှာ မင်္ဂလာမရှိတဲ့ စကားထာတွေချည်းပါလား။ နိမိတ် နမာမရှိနော်”

ကျီချိန်သည် တွေးရင်း စိတ်လေးလာ၏။ သို့ရာတွင် မယ်မ ရှေ့တွင်ဖြစ်၍ စိတ်မကောင်းမှည်စိုးသဖြင့် ထိုအကြောင်းများကို မပြောဘဲ အခြားစကားထာများကို ဆက်လက်ကြည့်ရှုဟန်ဆောင်လျ ရှိ၏။ နောက်ဆုံး စကားထာမှ ပေါက်ကြည်ဏ ကဗျာဖြင့်ဝှက်ထ သည့် စကားထာဖြစ်၏။ ကျီချိန်သည် ထိုစကားထာကိုဖတ်ကြည့်၏

ညီလာခံက အပြန်
အကျီမှာ မီးခိုးနံ့နံ့
စောင်းသံလဲမညှင်း
အိပ်ရာလဲ မခင်း။
အရုဏ်မကျင်း အလင်းမရောက်
စည်ပေါက်လဲသံဆိတ်၊ အိပ်ဖန်လဲမဆော်
ညှိုးလျော်လောင်ကျွမ်း
နေ့ရောညပါကုန်ခန်း
တရိရိညှိုးနွမ်း
တသမ်းသမ်း တဝေဝေ
အထွဏ်အမြွတ်ထားကြပေ
မိုးရွာစေ နေပူဆဲ
တန်ဖိုးထားကြမြဲ။ ။

ထိုကဗျာထဲတွင် စကားထာဝှက်ထားသည့် ပစ္စည်းမှာ အမွေ ဖယောင်းတိုင်ဖြစ်၏။





“အင်း၊ ပစ္စည်းကလဲ နမိတ်မရှိဘူး။ ဒီလောက်ငယ်ရွယ်တဲ့ ကလေးမလေး တစ်ယောက်က ဘာဖြစ်လို့ ဒီလို ကဗျာမျိုးတွေကို ရွေးနေရတာလဲ။ ကြည့်ရတာကတော့ ငါ့သမီးတွေ ငါ့တူမ တွေဟာ ဘုန်းကြီးလို့ သက်မှရှည်ကြ၊ သက်ရှည်လို့ ဘုန်းမကြီးဆိုတာ တွေများ ဖြစ်နေလေမလား”

ကျီချိန်သည် ခေါင်းကို ငိုက်စိုက်ချ၍ တွေးလျက်ရှိလေရာ သူ့ မျက်နှာသည် မသာယာသည့်အသွင်ကို ဆောင်လျက်ရှိ၏။

မှယ်မယ်သည် ကျီချိန်၏ မကြည်သာသောမျက်နှာကို မြင်လိုက် သည့်အခါတွင် ပင်ပန်းနေပြီဟုထင်ကာ သူရှိနေလျှင် ကလေးတွေ မပျော်မပျော်ရွှင်ရွှင်ရှိတော့မည် မဟုတ်ဟု တွေးလိုက်၏။

“ကဲ တော်ပါတော့ သားကြီးရယ်။ နောက်ထပ် စကားထာ တွေကို မကြည့်ချင်နေပါတော့။ ပင်ပန်းယင်လဲ ပြန်ပြီး အနားယူ လိုက်။ မယ်မယ်တို့လဲ သိပ်ကြာတော့မှာ မဟုတ်ပါဘူး”

ကျီချိန်သည် မယ်မယ်ပြောသည့်အတိုင်း ပြန်ရန် သဘောတူ၏ မပြန်မီတွင် ဟန်ဆောင်၍ မယ်မယ်နှင့် ဆုတောင်းအရက်တစ်ခွက်သောက် ၍ ဆုတောင်း၏။ မိမိ၏အဆောင်သို့ ပြန်ရောက်သည့် အခါတွင် လည်း ကျီချိန်သည် ထိုအကြောင်းကိုပင် တွေးမိကာ အိပ်မပျော်နိုင် အောင်ဖြစ်လျက်ရှိ၏။ သို့ရာတွင် ဤအကြောင်းကို တော်ဦးစို့။

ကျီချိန် ပြန်သွားသည်နှင့်တစ်ပြိုင်နက် မယ်မယ်က “ကဲ ကြိုက် သလိုနေကြပေ့”ဟု သူ့မြေးများကို ပြော၏။

ပေါက်ယုကား မီးပုံးလိုက်ကာနားသို့ပြေးကာ ကြိုးဖြေ၍ လွှတ် လိုက်သော မျောက်တစ်ကောင်ကဲ့သို့ ခုန်ပေါက်လျက်ရှိပြီး စကားထာ များကို လိုက်ဖော်လျက်ရှိလေ၏။

“မောင်လေးရယ်၊ စောစောတုန်းကလို ငြိမ်ငြိမ်ကလေးနေပြီး စကားပြောနေပါတော့လား”

သူတို့အနားသို့ ရောက်လာသည့် နတ်ငှက်မယ်ဏလည်း

"ဟုတ်ပါတယ်ကွယ်။ တာတာတဲ မျက်စိကို နောက်နေတာ မောင်လေးအနားမှာ ဦးလေးကျီချိန် ရှိနေမှပဲကောင်းတယ်။ ဦး ကျီချိန်ရှိတုန်းက မောင်လေးကို စကားထာအဝှက်ခိုင်းယင် အဲကော သား။ မေ့သွားတယ်။ အဲဒီတုန်းကသာ မောင်လေးကို စကာ အဖော်ခိုင်းခဲ့ယင် ခုထက်ထိ ချေးစေးကြီးတွေပြန်ပြီး ကြောက်ရ နေဦးမှာ"

ပေါက်ယုဏ နတ်ငှက်မယ်ကို လိုက်ဖမ်းသဖြင့် နတ်ငှက်မယ် လူတွေကြားထဲသို့ အတင်းတိုးဝင်၍ ပုန်းနေ၏။

မယ်မယ်သည် လိဝမ်းနှင့်တကွ မြေးမများနှင့် အနည်း စကားပြောဆိုပြီးနောက် ပင်ပန်းလှပြီဖြစ်သည့်အတွက် သန်း မောင်းရိုက်သံကို ကြားသည်နှင့် စားပွဲပေါ်မှ စားသောက်ဖွယ် အရှင်းခိုင်းလိုက်ပြီးလျှင် ကျန်သည့် စားကြွင်းစားကျန်တို့ကို ယူသွ အစေတော်များကို ပြော၏။

ထိုနောက် ထိုင်ရာမှ ထလိုက်ကာ

"ကဲ အိပ်ကြဦးစို့။ မနက်ဖြန်မှာ အားလပ်ရက်ဖြစ်နေ တော့ စောစောစီးစီးထပြီး နှစ်သစ်ကူးပွဲတော်တွေ လိုက်ရဦးမယ် ညနေကျယင် ထပ်ပြီး အိမ်မှာ လုပ်ကြသေးတာပေါ့"

နောက်တစ်နေ့ မည်သို့ဖြစ်သည်ကို သိလိုလျှင် နောက်တစ် ကို ဖတ်ပါလေ။







## အခန်း ၂၃

'ခန်းတွင်းရိပ်သာ' ဝတ္ထုမှ စာသားများကို အပျင်းပြေ ရွတ်ခြင်း။ 'ဂန္ဓမာရိပ်မြိုင်' ဇာတ်မှ တေးတစ်ပုဒ်သည် စိတ်ငယ်သူကို ပူဆွေးစေခြင်း။

မဟာနန္ဒာဥယျာဉ်တော်မှ ငွေ့နန်းတော်ကြီးသို့ ပြန်ရောက်သော အခါ တွင် နန်းမတော်ထိပ်ထားသည် ထိုနေ့က ဥယျာဉ်တော်သို့ အလည် ထွက်စဉ် စပ်ဆိုခဲ့သည့်ကဗျာတို့ကို နောင်တွင် အရှည်တည့်စေခြင်းငှာ ဥယျာဉ်တော်ထဲတွင် ကျောက်ပြားဖြင့် ကမ္ပည်းထိုးထားလိုသော ဆန္ဒ ရှိသည့်အတွက် ညီမတော် တန်ချွန်းအား ထိုကဗျာများကို အကူးခိုင်း လိုက်၏။ ထို့ကြောင့် တတ်ကျွမ်းသော ကျောက်ဆစ်ပညာသည်တို့ကို ခေါ်ကာ ကျီချိန်၏ ကြီးကြပ်မှု၊ ကျီယုန်နှင့် ကျီပင်တို့၏ ကူညီမှုဖြင့် ကျောက်ပြားများကို ကျောက်ချောတင်ကာ ကမ္ပည်းရေးထွင်းစေ၏။ ကျီကျန်းနှင့် သူ့ အပေါင်းပါများမှာ စံအိမ်တော်သို့ ဝယ်လာသည့် ကချေသည်များ၊ ပန်းတျာပစ္စည်းများနှင့် အလုပ်များလျက် ရှိသည့် အတွက် ကျောက်စာထွင်းရာတွင် ၎င်းတို့အကူအညီကို မရနိုင်တော့ဘဲ သူတို့အစား ကျီချန်နှင့် ကျီလင်တို့ကို ခေါ်ရ၏။ အချိန်တန်သည့် အခါတွင် ကျောက်ပြားများကို ဖယောင်းတိုက်ပြီး ဟသ်ာ ပြဒါး ရောင်ဖြင့် စာတန်းထိုး၏။ သို့ရာတွင် ဤအကြောင်းကိုတော်လောက်ပြီ။

ယခင်က မဟာနန္ဒာ ဉယျာဉ်တော်တွင် ပင့်ထားခဲ့သည့် ဓမ္မ၏ ကျောင်းတိုက်နှင့် ကျောက်စိမ်းဝတ်ကျောင်းမှ တာအိုရဟန်းများအား အခြား ကျောင်းတိုက်များသို့ ပင့်ဖိတ်ရန် ကျီချိန် စီရင်လျက်ရှိ၏။ ထိုသတင်းသည် ယွန်းစံအိမ်ကြီးနှင့် တစ်လမ်းခြားရှိ ကျီယွန်၏ အမေချူ၏ နားသို့ ရောက်သွား၏။ ချူမှာ မိမိသားအတွက် အလုပ်အကိုင်ကလေးများရရန် ကျီချိန်အိမ်သို့ သွားမည်ဟု အချိန်အခါကို စောင့်ဆိုင်းလျက်ရှိ၏။ ထို့ကြောင့် သူ့သားအတွက် အလုပ်အကိုင်များရရန် နတ်ငှက်မယ်ထံ အကူအညီတောင်းရန် သန့်လျင်းတစ်စင်းဖြင့် ယွန်းစံအိမ်ကြီးသို့ လာခဲ့၏။

ချူမှာ စကားကို ပွင့်ပွင့်လင်းလင်း ပြောတတ်သူတစ်ယောက်ဖြစ်သည့်အတွက် နတ်ငှက်မယ်က တတ်နိုင်သမျှ ကြိုးစားပေးမည်ဟု ကတိပေးလိုက်၏။ အခါအခွင့်သင့်သည်နှင့် နတ်ငှက်မယ်သည် ဒေါ်လေးဝမ်အား ပြောပြ၏။

"ဦးလေးကျီချိန်က ဉယျာဉ်ထဲမှာ သီတင်းသုံးနေတဲ့ ကိုရင်ကလေးတွေကို တခြားကျောင်းကို ပင့်မယ်လို့ပြောနေတယ်ဒေါ်လေး။ ငှက်မယ်သဘောကတော့ တခြားကို မပင့်စေချင်တော့ဘူး။ ဉယျာဉ်တော်ထဲမှာပဲ ဇာတ်မထားပြီး ကိုးကွယ်ချင်တော့တာပဲ။ တကယ်လို့ နောက်တစ်ခါ ထိပ်ထားလေး အလည်ကြွလာယင် အသစ်မပင့်ရတော့ဘဲ အဆင်သင့်ဖြစ်မှာပေါ့။ ပြီးတော့ ကိုရင်လေးတွေကို ဒီပြင်ကို ပင့်သွားယင် နောက်တစ်ခါပြန်ပြီး တစ်စုတည်းဖြစ်အောင် ပင့်ဖို့ဆိုတာ သိပ်မလွယ်ဘူးမဟုတ်လား ဒေါ်လေးရဲ့။ ဉယျာဉ်တော်က ကျောင်းတွေကို အာဂန္တု ကျောင်းတိုက်လောက်ပဲ ထားချင်တယ် ဆိုယင်လဲ ကိုရင်လေးတွေကို ငှက်မယ်တို့ မိသားစု ကိုးကွယ်တဲ့ သံဃာကျောင်းကို ပင့်ပါလား။ အဲဒီကိုပင့်ထားလိုက်ယင် လစဉ်ဆွမ်းကွမ်းစရိတ်လဲအထူးပို့စရာမလိုတော့ဘူး။သံဃာကျောင်းတိုက်ကို ဆွမ်းအုပ်ပို့လိုက်ယင်ကိစ္စပြီးသွားရော။ အရေးကိစ္စရှိလို့ ပြန်ပင့်ချင်တယ် ဆိုယင်လဲ လွယ်တာယ်"

ဒေါ်လေးဝမ်သည် ထိုအကြံအစည်ကို သူ့ယောကျ်ား ကျီချိန်အား ပြောပြ၏။





"အေး ကောင်းသားပဲ။ ငါတောင် မင်းပြောမှပဲ သတိရတယ်" ဟုဆိုကာ ကျီလျံကို အခေါ်လွှတ်လိုက်၏။

ကျီချိန်က အခေါ်လွှတ်လိုက်သည့် အချိန်တွင် ကျီလျံနှင့် နတ်ငှက်မယ်တို့ဇနီးမောင်နှံသည် ညစာစားလျက်ရှိ၏။ ကျီလျံသည် အရေးတကြီးအခေါ်ခိုင်းလိုက်သည့် အကြောင်းကို သိသည့်အတွက် ထမင်းပန်းကန်ကိုချကာ ထ၍လိုက်သွား၏။ နတ်ငှက်မယ်က သူ့လက်ကိုလှမ်းဆွဲထားလိုက်ရင်း

"နေဦးလေ။ ငှက်မယ်ပြောဦးမယ်။ ခုလာခေါ်တာက ဒီပြင်ကိစ္စဆိုယင်တော့ ငှက်မယ် ဘာမှမပြောလိုပါဘူး။ ဒါပေမယ့် ကိုရင်လေးတွေကိစ္စဆိုယင်တော့ ငှက်မယ်ပြောတဲ့အတိုင်း စီစဉ်ခဲ့နော်" ဟု ဆိုကာ သူ့အစီအစဉ်ကို ပြောပြ၏။

ကျီလျံက ခပ်အေးအေးရယ်လျက် ခေါင်းယမ်းလိုက်ရင်း

"ဒါက မောင်မောင်နဲ့ ဘာဆိုင်လဲကွ။ ငှက်မယ် ကိစ္စပဲဟာ။ ကိုယ်စီစဉ်ထားတဲ့ကိစ္စကို ကိုယ့်ဘာသာကိုယ် ဦးကြီးကျီချိန့်ကို သွားပြောချည်ပေါ့"

နတ်ငှက်မယ်က ခေါင်းကို နောက်သို့လှန်လိုက်ကာ ထမင်းစားနေသည့်တူများကို အောက်သို့ချထားလိုက်ရင်း အေးစက်သည့်အပြုံးကို ဆောင်လျက် စိုက်ကြည့်နေ၏။

"မောင်မောင် တကယ် ပြောနေတာလား၊ နောက်နေတာလား"

"အနောက်ဘက်လမ်းမှာနေတဲ့ ဆွေမျိုးနီးစပ်တော်တဲ့ကျီယွန်က မောင်မောင့်ဆီကို အလုပ်တောင်းတာ သုံးလေးခါရှိပြီ။ မောင်မောင်ကလဲ သည်းခံစောင့်ပါ။ လစ်လပ်တာရှိယင် ခေါ်ပါ့မယ်လို့ပြောထားတယ်။ ခုဆိုယင် ဉယျာဉ်တော်ထဲမှာ အလုပ်ကလေးဘာလေး ပေါ်နေပြီမဟုတ်လား။ ဒီတော့ ငှက်မယ်က ဒီအလုပ်ကို ဘယ်သူ့ကို ပေးဦးမလို့လဲ"

"အမယ်လေး။ ဒါအတွက် ပူတော်မူမနေပါနဲ့။ ဉယျာဉ်တော် အရှေ့မြောက်ထောင့်မှာ ထင်းရှူးပင်တွေနဲ့ စိုက်ပရတ်ပင်တွေ အများ

ကြီးစိုက်ရမယ်၊ မျှော်စင်နားမှာလဲ ပန်းပင်တွေစိုက်ရဦးမယ်လို့မှာတော်မူသွားတယ်။ အဲဒီအလုပ်ခန့်တော့ ကျွန်ုပ်ကို ခန့်ပါမယ်။ စိတ်ချပါ။ ငှက်မယ်ပြောတဲ့ ကိစ္စကိုသာ ပြောခဲ့ပါ''

ကျီလျှံက ရယ်လိုက်လျက်

''ကောင်းပါပြီခင်ဗျာ။ သခင်မလေး အမိန့်အတိုင်းပါ။ ဒါပေမယ့် တစ်ခုတော့ မကျေနပ်ဘူး။ မနေ့ညတုန်းက မောင်မောင်က တစ်မျိုးစမ်းကြည့်ချင်တာ ငှက်မယ်က ဘာဖြစ်လို့ အင်တင်တင်လုပ်နေရတာလဲ''

နတ်ငှက်မယ်က ပဟင့်ဟင့်ဖြင့် ခပ်မှုံးမှုံး ရယ်လိုက်က၊ စက်ဆုပ်သည့်ဟန်ကို တမင်ဆောင်၍ တံတွေးထွေးပြလိုက်ပြီးနောက် ခေါင်းကိုငုံ့ပြီး ထမင်း ဆက်စားနေ၏။

ကျီလျှံသည် သွားတွေပေါ်အောင် အားရပါးရပြုံးကာထွက်သွားလေ၏။ ဦးလေးကျီချိန်က အခေါ်လွှတ်သည့်ကိစ္စမှာ ကိုရင်ကလေးများ၏ ကိစ္စဖြစ်ကြောင်းကို တွေ့ရသည့်အခါ၌ ကျီလျှံသည် သူ့မိန်းမ နတ်ငှက်မယ် မှာလိုက်သည့်အတိုင်းပင်

''ကျီချင်းကို တာဝန်ပေးလိုက်ပါလား ဦးလေး။ ဒီလောက်တော့ စိတ်ချရပါတယ်။ ပြီးတော့ သူ့ကို ထိုက်သင့်တဲ့လစာ ပေးတာပေါ့''

ကျီချိန်သည် ထိုသို့သောကိစ္စများကို မည်သည့်အခါကမျှ စိတ်ဝင်စားခြင်း မရှိသည့်အတွက် ယခုလည်း မည်သို့မျှ မပြောတော့ဘဲ သဘောတူလိုက်၏။ အိမ်ပြန်ရောက်၍ ကျီလျှံက ထိုအကြောင်းကို ပြောပြသည့်အခါ၌ နတ်ငှက်မယ်သည် အစေတော် တစ်ယောက်ကို လွှတ်၍ ကျီချင်း၏အမေကို အပြောခိုင်းလိုက်လေသည်။ ကျီချင်းသည် ချက်ချင်းရောက်လာကာ နတ်ငှက်မယ်တို့ ဇနီးမောင်နှံအား ကျေးဇူးတင်ကြောင်းပြော၏။ အထူးအခွင့်အရေး ပေးသည့်အနေဖြင့် ကျီချင်းအား လစာသုံးလ ကြိုတင်ထုတ်ပေးရန်၊ လစာရရှိကြောင်း လက်မှတ်ရေးထိုးပေးရန်နှင့် ပြေစာတွင် ကျီလျှံကိုယ်တိုင်ကလည်း လက်မှတ်ထိုးထားရန် ပြောလိုက်၏။ ထို့နောက်တွင် ကျီချင်းအား ရွှေတိုက်တော်မှ





သုံးလစာ ငွေစသုံးပိဿာကို ထုတ်ယူခွင့်ပြုရန် တာလီပြားများ ထုတ်ပေးလိုက်၏။ ကျီချင်းသည် ရွှေတိုက်တော်တွင် ငွေကိုသွားထုတ်ရင်း ချိန်တွယ်နေစဉ် ငွေစတစ်စကို ကောက်ယူပြီးနောက် ချိန်တွယ်သည့် စာရေးတစ်ယောက်အား ''လက်ဖက်ရည်ဖိုး'' ဆိုပြီး ပေး လိုက် ကာ ကျန်ငွေစများကို အိမ်သို့ယူသွားရန် အစေတော်များကို ပြောလိုက်၏။ ကျီချင်းသည် မိခင်ကြီး၏အကြံပေးချက်အရ အချိန်ဆိုင်းမနေတော့ဘဲ သူ့အတွက် မြည်းတောင့်တောင့်တစ်စီးနှင့် လှည်းများကို ငှားခဲ့၏။ ထို့နောက် ထိုလှည်းများကို ယွန်းစံအိမ်ကြီး အနောက်ဘက်ပေါက်သို့ မောင်းလာခဲ့ပြီးလျှင် ကိုရင်လေး နှစ်ဆယ့်လေး ပါး တို့ကို သံသေမကျောင်းသို့ ပင့်လာခဲ့၏။ ထိုအကြောင်းကိုမူ ဤနေရာတွင် ရပ်လိုက်တော့မည်။

နန်းမတော်ထိပ်ထားသည် မဟာနန္ဒာဥယျာဉ်တော်တွင် ကျောက်ဖြူသားဖြင့် စာတန်းရေးမှည်းထိုးမည့် ကဗျာများကို ရွေးချယ်လျက်ရှိစဉ် မိမိအတွက် ဆောက်လုပ်ခဲ့သည့် ဥယျာဉ်တော်ဟုဆိုကာ ထိုဥယျာဉ်တော်ထဲသို့ မည်သူ့ကိုမျှ သွားခွင့်လာခွင့်မပေးတော့ဘဲ အမြဲပိတ်ထားလိုက်တော့မည်ဆိုလျှင် ထိုမျှသာယာလှပသည့် ဥယျာဉ်ကြီးမှာ နှမြောစရာကောင်းလှသည်ဟု တွေးမိ၏။ ထို့ပြင် မိမိ၏ညီမများမှာ ကဗျာလင်္ကာတို့ကို ဝါသနာပါသူများဖြစ်ရကား သူတို့အတွက်ဖွင့်ပေးလိုက်မည်ဆိုလျှင် သူတို့လည်း ဥယျာဉ်တော်ကြီး၏အလှအပကို ခံစားနိုင်ကြမည်၊ ဥယျာဉ်တော်ထဲတွင် မိုးမခပင်များနှင့် ပန်းပွင့်များလည်း အလဟဿမဖြစ်ရဘဲ အသုံးဝင်မည်ဟု တွေးမိ၏။ ထိုမျှမက မိမိ၏မောင်ငယ်ပေါက်ယုမှာ မိန်းကလေးများကြားတွင် ကြီးပြင်းလာခဲ့သည့်အတွက် အခြားယောကျ်ားလေးများနှင့် မတူဘဲဖြစ်လျက်ရှိရာ ဥယျာဉ်တော်သို့ ညီမများ ပြောင်းရွှေ့နေထိုင်ခြင်းပြုပြီး သူ့တစ်ယောက်တည်းကိုသာ ချန်ခဲ့မည်ဆိုလျှင် စိတ်ထိခိုက်ရှာပေလိမ့်မည်၊ သို့ဆိုလျှင် မယ်မယ်နှင့်တကွ မိခင်ကြီး သခင်မစမ်မှာ စိတ် ထိ ခိုက် တော့ မည်ဟု တွေးမိ၏။ ထို့ကြောင့် မိန်းကလေးများ ပြောင်းလျှင် ပေါက်ယုကို

လည်း ဥယျာဉ်တော်ထဲသို့ ပြောင်းရွှေ့နေထိုင်ခြင်း ပြုစေရန် စိတ်ကူးမိ၏။

ဤသို့ဆုံးဖြတ်ပြီးသည်နှင့် နန်းမတော်ထိပ်တားသည် မိန်းမစိုးရှာချွန်းကို ယွန်းစံအိမ်တော်ကြီးသို့ စေလွှတ်ကာ မဟာနန္ဒာ ဥယျာဉ်တော်ကြီးကို ပိတ်ထားခြင်းမပြုရန်၊ ပေါက်ကြည်နှင့်တကွ မိန်းကလေးများ အားလုံး ဥယျာဉ်တော်ထဲမှ အဆောင်များသို့ ပြောင်းရွှေ့နေထိုင်ရန်၊ ပေါက်ယုလည်း ဥယျာဉ်တော်သို့ပြောင်းရွှေ့ကာ စာပေများကို ဆက်လက်သင်ကြားရန် အမိန့်ပြန်တမ်း ထုတ်ပေးလိုက်၏။

ဖခင်ဖြစ်သူကျိချိန်နှင့် သခင်မဝမ်တို့သည် ထိုအမိန့်ပြန်တမ်းကို ကိုယ်တိုင်လက်ခံယူကြ၏။ မိန်းမစိုး ပြန်ထွက်ခွာသွားသည့် အခါတွင် သူတို့သည် ထိုသတင်းကို မယ်မယ်အား သွားရောက်ပြောကြား၏။ ထို့ပြင် အစေခံများကိုလွှတ်၍ ဥယျာဉ်တော်ကို အရှင်းခိုင်းခြင်း၊ အဆောင်များကို သန့်ရှင်းစေခြင်း၊ ခန်းဆီးများ၊ လိုက်ကာများ၊ ကန့်လန့်ကာများ တပ်ဆင်ခြင်း စသည်တို့ကို ပြုလုပ်စေ၏။

အခြားသူများမှာ ထိုသတင်းကြောင့် အလွန်ထူးခြားခြင်း မရှိလှသော်လည်း ပေါက်ယုမှာ ထိုသတင်းကိုကြားသည်နှင့် မြူးတူးရုန်ပေါက်လျက် ရှိ၏။ ပေါက်ယုသည် မယ်မယ်ထံ ချက်ချင်းသွားကာ ဟိုပစ္စည်းလိုချင်သည်၊ သည်ပစ္စည်းလိုချင်သည် စသည်ဖြင့် တစ်ချိန်ပြီးတစ်ခု တောင်းဆိုလျက်ရှိစဉ် အစေတော်တစ်ယောက် ရောက်လာကာ သခင်ကြီးကျိချိန်က အခေါ် လွှတ် လိုက် ကြောင်း ဖြင့် ပြော၏။ ထိုအကြောင်းကို ကြားလိုက်သည်နှင့် ကောင်းကင်ပြာထဲမှ မိုးကြိုးတစ်ချက် သံကို ကြားလိုက်ရသည့်နှယ် မျက်နှာ ဖြူဖပ်ဖြူရော်ဖြစ်သွားကာ စိတ်ဓာတ်တွေ ကျဆင်းသွား၏။ မယ်မယ်ထံတွင် ပက်ကျိတွယ်သကဲ့သို့ တွယ်ကပ်လျက်ရှိကာ ဖခင်ကြီးနှင့်တွေ့ရမည်ကို လန့်လျက်ရှိလေ၏။

"သွားလိုက်ပါ ငါ့မြေးရယ်။ ငါ့မြေးကို ဒီလောက်မချုပ်ချယ်အောင် မယ်မယ်ပြောပါ့မယ်။ ငါ့မြေးဟာ စာဗျာလကာအစစ်တော်တော်တယ် မဟုတ်လား။ ဒါ့ကြောင့် ထိပ်ထားလေးက သ ဘော ကျပြီး ဥယျာဉ်တော်ထဲကိုပြောင်းနေဖို့ ပြောတာပေါ့။ ခု ငါ့မြေးကို ဖေဖျားက





ခေါ်တာကလဲ ဥယျာဉ်တော်ထဲမှာ ပြောင်းနေယင် ကောင်းကောင်းမွန်မွန် နေဖို့ထိုင်ဖို့ပြောမလို့ ခေါ်တာဖြစ်မှာပါ။ သူပြောတာကို ခေါင်းညိတ်ခဲ့ရုံပဲ။ ဘာမှ ပြန်ပြောမနေနဲ့ ကြားလား"

မယ်မယ်သည် အစေတော်နှစ်ယောက်ကိုခေါ်ကာ ပေါက်ယုံကို ဖခင်ကြီးကျိချိန်ထံသို့ လိုက်ပို့ရန်နှင့် ကြောက်ရွံ့တိတ်လန့်ခြင်း ရှိမရှိ အကဲခတ်ရန်လည်း မှာလိုက်၏။

အစေတော်များသည် မယ်မယ်မှာသည့်အတိုင်း လုပ်မည့်ဖြစ်ကြောင်း ကတိပေးကာ ပေါက်ယုမှာလည်း လေးလံသော ခြေလှမ်းများဖြင့် ဖခင်ကျိချိန်၏အဆောင်များဘက်သို့ ထွက်လာခဲ့၏။ ထိုအချိန်၌ ကျိချိန်မှာ ဇနီးဖြစ်သူ သခင်မဝမ်၏ခန်းဆောင်ထဲတွင် အလုပ်ကိစ္စကိစ္စများ ဆိုလျက်ရှိလေရာ သခင်မဝမ်၏ အစေတော်များဖြစ်ကြသည့် ချင်ချွန်း၊ ဆိုင်ယွန်း၊ ဆေရှို၊ ရှုလွှမ်နှင့် ရှုဖုန်တို့အား အပြင်ဘက် တံစက်မြိတ်တွင် ရပ်နေသည်ကို တွေ့ရလေ၏။ ပေါက်ယုကို မြင်လိုက်သည့် အခါတွင် ပြုံး၍နှုတ်ဆက်လိုက်ကြပြီးနောက် ချင်ချွန်းက ပေါက်ယု၏ လက်ကို ဖမ်းဆွဲလိုက်လျက် လေသံကလေးဖြင့်

"သခင်လေး၊ ကျွန်မ ခုပဲ နှုတ်ခမ်းဆိုးလာတာ သိရဲ့လား။ ကြည့်ဦးမလား"

ဆိုင်ယွန်းက ချင်ချွန်းကိုတွန်းလိုက်ပြီး

"ကောင်မ၊ ကလေးကို သွားစမနေနဲ့။ ဟိုမှာ ဘာဖြစ်လာတာလဲ မသိဘူး။ သွားသွား သခင်လေး။ သခင်ကြီး စိတ်ကောင်းဝင်နေတုန်း မြန်မြန်သွား"

ပေါက်ယုသည် ခပ်ကြောက်ကြောက်ဖြင့် အခန်းထဲသို့ ဝင်လာခဲ့၏။ ဖေဖျားနှင့် မေမေဖျားတို့မှာ အတွင်းဆောင်ထဲသို့ ရောက်နေကြ၏။ ကျိချိန်၏ အမြွှောင်မယား ခဲ့ချောက ဦးညွတ်၍ ခန်းဆီးကို မ,ပေးလိုက်ဖြင့် ပေါက်ယုလည်း အတွင်းဆောင်သို့ ဝင်လာခဲ့၏။ အဆောင်ထဲတွင် ကျိချိန်နှင့် သူ့မိခင်ဝမ်တို့သည် ခုတင်မီးဖိုပေါ်တွင် ထိုင်လျက်ရှိ

ကြပြီး ယင်ချိန်း၊ တန်ချိန်း၊ ဆီချိန်းနှင့် ကျိဟုန်တို့သည် အောက်မှ ကုလားထိုင်များပေါ်တွင်ထိုင်လျက် ရှိကြလေ၏။ သူဝင်လာသည့် အခါ တွင် ယင်ချိန်းမှအပ ကျန်အားလုံးက မတ်တတ်ထ၍ ပေးကြ၏။

ကျိချိန်သည် မော့ကြည့်လိုက်သည့် အခါတွင် သူ့ရှေ့၌ရပ်နေ သည့် ပေါက်ယုကို တွေ့ရ၏။ ပေါက်ယု၏ ချောမောခန့်ညားသော ရုပ် လက္ခဏာနှင့် ထူးခြားသည့် အမူအရာတို့သည် ခပ်စုတ်စုတ်၊ ညစ်ထပ်ထပ် ဖြစ်နေသည့် ကျိဟုန်နှင့်အကြီးအကျယ်ခြားနားလျက် ရှိလေရာ ကျိချိန် သည် သေသွားသည့်သား ချူကို သတိရမိ၏။ ကျိချိန်သည် ဇနီးဖြစ်သူ ဝမ်ကို လှမ်းကြည့်လိုက်၏။ သူ့တွင် ဤ သားတစ်ယောက်သာ ကျန် တော့သည် မဟုတ်လော။ ထို့ကြောင့် သူ့ဇနီးဝမ်သည် တစ်ဦးတည်း သောသားကို အလိုလိုက်ခြင်း ဖြစ်ပေလိမ့်မည်။ မိမိကမူ နှုတ်ခမ်းမွေး မုတ်ဆိတ်မွေးတွေ ဖွူစပွူနေပြီ။ ကျိချိန်သည် ဤသည်တို့ကို စဉ်းစားပြီး သဖြင့် ပေါက်ယုကို ခါတိုင်းကဲ့သို့ စက်ဆုပ်ရွံမုန်းခြင်း မရှိတော့ဘဲ ကြည်သာလျက် ရှိ၏။ ဓဏ်ကြာသည့်အခါတွင် ကျိချိန်က

“ထိပ်ထားလေး မင်းကိုမှာလိုက်တယ်။ အပြင်ထွက် လျှောက် လည်ပြီး ဟေးလားဝါးလစ်း မအော်နဲ့တဲ့။ ဥယျာဉ်တော်ထဲမှာ မင့်အစ်မတွေနဲ့ အတူတူပြောင်းနေပြီး လက်ရေးပန်းချီ လေ့ကျင့်ပါတဲ့။ ပြီးတော့ စာပေတွေကိုလဲ လေ့လာပါတဲ့။ အဲ သူ့စကား နားမထောင် ဘဲ လျှောက်ပြီးပေတေနေယင်တော့ မလွယ်ဘူးမှတ်ပါ”

“နားထောင်ပါ့မယ် ဖေဖျား” ဟု ပေါက်ယုက အလိုက်သင့် ပြော၏။

ထိုနောက်တွင် မေဖျားသခင်မဝမ်က ပေါက်ယုအား သူ့အနီး တွင် အထိုင်ခိုင်းသည်တွင် ကျိဟုန်နှင့်တကွ ကျန်လူများသည်လည်း ထိုအခါကျမှ ပြန်ထိုင်ကြ၏။ သခင်မဝမ်သည် သားဖြစ်သူပေါက်ယု၏ ကုပ်ကို တယုတယပွတ်ရင်း

“ဟိုတစ်နေ့က သားအတွက်ပေးထားတဲ့ ဆေးလုံးတွေကိုစော သောက်ရဲ့လား”





“ဟုတ်ကဲ့၊ သောက်ပါတယ်။ တစ်လုံးပဲ ကျန်ပါတော့တယ်”

“မနက်ဖြန်ကျယင် နောက်ထပ် ဆယ်လုံးလောက် အယူခိုင်း လိုက်ဦး။ ပြီးတော့ ညအိပ်ရာဝင်ခါနီးကျယင် မာလာကို အတိုက်ခိုင်း”

“မာလာဆိုတာ ဘယ်သူလဲ” ဟု ကျိချိန်က မေး၏။

“အစေတော် ကောင်မလေး တစ်ယောက်ပါ” ဟု ဝမ်က ပြော၏။

“အမယ်လေးကွာ။ အစေတော် နာမည်ကလဲ မာလာလို့ပဲ။ ကြီးကျယ်လိုက်တာ။ ဒီနာမည်ကို ဘယ်သူမှည့်ပေးတာလဲ”

သခင်မဝမ်က ပေါက်ယုကို ရန်ရှာနေဦးမည် စိုးသည့်အတွက်

“မယ်မယ်ပေးတဲ့ နာမည်ဖြစ်မှာပေါ့”

“ဟင့်အင်း၊ မဖြစ်နိုင်ဘူး။ အဘွားကြီး ခေါင်းထဲမှာ ဒီနာမည် မျိုး မရှိနိုင်ဘူး။ ကေန္တ ပေါက်ယုပေးတဲ့နာမည်ပဲ ဖြစ်မှာပဲ”

ဖုံးကွယ်၍ မရတော့မည့်အတူတူ ပေါက်ယုက မတ်တတ်ရပ်လိုက် လျက်

“ ‘ပန်းတို့ရနံ့၊ သင်းပျံ့သောခါ၊ နေခြည်ဖြာကျ၊ နွေးထွေးစွဟု ရှေးကဆိုရိုး’ ဆိုတဲ့ကဗျာ သတိရတာနဲ့ အဲဒီထဲက တိုက်ဆိုင်နေတဲ့ စကား လုံးကလေးကို ယူပြီး ကျွန်တော်ပေးလိုက်တာပါ”

သခင်မဝမ်က ပေါက်ယုဘက်သို့ လှည့်လိုက်ပြီးလျှင်

“ကဲ ကဲ သားပြန်တော့။ ရောက်တော့ သူ့နာမည်ကို ပြောင်း ပေးလိုက်။ ဒီလောက် အသေးအဖွဲ့ကလေးတွေက အစ လိုက်ပြီးပြော မနေပါနဲ့ရှင်”

“အရေးမကြီးပါဘူး။ ပြောင်းဖို့လဲ မလိုပါဘူး။ ဒါပေမယ့် ပီကောင်က စာပေကို ကောင်းကောင်းမသင်ဘဲ ကောင်မလေးတွေနဲ့ ပရောပရီလုပ်နေတယ်ဆိုတာ ထင်ရှားတာပေါ့။ သွား ဘာဖြစ်လို့ ဒီနား မှာ ရပ်နေတာလဲ။ လူလွန်းမသား”

“ကဲ ကဲ လူလေး သွား။ ဟိုမှာ မယ်မယ်ထမင်းစားဖို့ စောင့်နေ လိမ့်မယ်”

ပေါက်ယုသည် နောက်သို့ ခပ်ဖြည်းဖြည်းဆုတ်လာကာ အပြင်သို့ ထွက်လာခဲ့၏။ အပြင်သို့ ရောက်သည့်အခါတွင် ပေါက်ယုသည် ပြုံးဖြဲဖြဲပြန်ဖြစ်သွားကာ သခင်မဝမ်၏ အစေခံတော် ချင်ချွန်းကို လျှာထုတ်၍ ပြောင်ပြပြီးနောက် အထိန်းတော်နှစ်ယောက်နှင့်အတူ ပြန်လာခဲ့၏။ မိမိတို့နေထိုင်ရာ အဆောင်သို့ ရောက်လျှင် အခန်းအဆောင်ဝတံခါးပေါက်ကိုမှီ၍ရပ်နေသည့် မာလာကိုတွေ့ရ၏။ ချောချောမောမော ပြန်ရောက်လာသည်ကို မြင်ရသည့်အခါ၌ မာလာ၏မျက်နှာမှာ ဝင်းထိန်သွား၏။ ခေါ်သည့် အကျိုးအကြောင်းကိုလည်း မေး၏။

“အလကားပါ ဘာမှမဟုတ်ပါဘူး။ ဥယျာဉ်ထဲကို ပြောင်းနေယင် ကောင်းကောင်းနေဖို့ ပြောတာပါ”

မယ်မယ်၏ အဆောင်သို့ ရောက်သည့်အခါတွင် ပေါက်ယုက အကျိုးအကြောင်းကိုပြောပြ၏။ ထိုနေ့က မယ်မယ်၏အနီးတွင် ရောက်နေသည့် ထိုက်ယုအား ဥယျာဉ်တော်ထဲသို့ရောက်လျှင် မည်သည့်နေရာကို နှစ်သက်ကြောင်းဖြင့် မေးမြန်း၏။

ထိုက်ယုကလည်း ထိုအကြောင်းကို စဉ်းစားပြီးသား ဖြစ်သည့်အတွက်

“မလေးကတော့ ဝေဠုဝန်ကို ကြိုက်တာပဲ။ ကွေ့ကောက်နေတဲ့ လမ်းကလေးပေါ်မှာ ဝါးပင်ကလေးတွေက မိုးလို့။ ပြီးတော့ အဲဒီနေရာကလေးက တိတ်လဲတိတ်ဆိတ်တယ်”

ပေါက်ယုက လက်ခုပ်လက်ဝါးတီးလိုက်လျက်

“ကြည့်စမ်း။ မောင်တွေးထားတာနဲ့ တူလိုက်တာ။ မောင်ကလဲ မလေးကို အဲဒီနေရာမှာပဲ နေစေချင်တယ်။ အဲဒီကျယင် မောင်နဲ့ မလေးတို့နှစ်ယောက် နီမောင်းပျော်ဖွယ် ရင်ပြင်မှာ လျှောက်လည်ကြမယ်။ အတူတူထိုင်ပြီး ငြိမ်ငြိမ်ကလေးနေကြမယ်”

ထိုစဉ် ကျိချိန်ထံမှ အစေတော်တစ်ယောက် ရောက်လာကာ ဒုတိယလ လပြည့်ကျော် ၄ ရက်နေ့တွင် ဥယျာဉ်တော်သို့ ပြောင်းရွှေ့





နေထိုင်ရန် အခါကောင်းကြောင်း၊ ထိုအချိန်အမီ သူတို့တစ်တွေပြောင်းရွှေ့နေနိုင်အောင် အဆောင်များကို အဆင်သင့် ပြင်ထားမည် ဖြစ်ကြောင်းဖြင့် မယ်မယ်ထံ လာရောက် ပြောကြား၏။ အစီအစဉ်အရ ပေါက်ကြည်က ဂမုန်းမွှိုင် ရိပ်သာတွင် နေရန်၊ ထိုက်ယုက ဝေဠုဝန်တွင်နေရန်၊ ယင်ချွန်းက ‘ထွန်းလင်းလျံလက်’ရိပ်သာ၊ တန်ချွန်းက ‘ရွှေနှောင်းသာယာ’ ရိပ်မြုံ၊ ဆီချွန်းက ‘လေညင်းသာ’ဆောင်၊ လီဝမ်းက ‘စပါးချို’ဆောင်၊ ပေါက်ယုက ‘နီမောင်းပျော်ဖွယ်’ ဆောင်တို့တွင် အသီးသီးနေထိုင်ကြရန်ဖြစ်၏။ တစ်ယောက်လျှင် ကိုယ်ပိုင်အထိန်းတော်များနှင့် လက်ပါးစေတို့အပြင် အချော့တော် နှစ်ယောက်နှင့် အစေခံလေးယောက်စီတို့နှင့်တကွ သန့်ရှင်းရေးကိစ္စအဝဝတို့ကို လုပ်ရသည့် အစေခံများကိုလည်း ထားပေး၏။ လပြည့်ကျော် ၄ ရက်နေ့တွင် သူတို့အားလုံး တစ်ပြိုင်တည်း ဥယျာဉ်တော်သို့ ပြောင်းရွှေ့ခဲ့ကြလေရာ ဥယျာဉ်တော်တစ်ခုလုံးမှာ ယခင်က တိတ်ဆိတ် ခြောက်သွေ့လျက်ရှိသလောက် ထိုနေ့မှစ၍ မိုးမခပင်တွေ ပန်းပွင့်တွေဝေဆာလာ၍ ပိုးဖဲရောင်စုံ ပြိုးပြိုးပြက်ပြက်ဖြင့် လှုပ်ရှားကာ အရောင်အသွေး စုံလျက်ရှိ၏။ သို့ရာတွင် ထိုအကြောင်းကို အကျယ်ရေးပြရန် မလိုတော့ပြီ။

ပေါက်ယုသည် ဥယျာဉ်ထဲတွင် အကြီးအကျယ်ပျော်လျက်ရှိ၏။ အစ်မများ၊ အစေတော်များနှင့် စာဖတ်ခြင်း၊ လင်္ကာစပ်ခြင်း၊ ဗျပ်စောင်းတီးခြင်း၊ စစ်ဘုရင်ကစားခြင်း၊ ပန်းချီဆွဲခြင်း၊ ကဗျာရွတ်ခြင်း၊ မိန်းကလေးများ တက်တင်း ဇာပန်းထိုးသည်ကို ကြည့်ခြင်း၊ ပန်းပွင့်များကို လျှောက်ကြည့်ခြင်း၊ တေးညည်းခြင်း၊ စကားထာဝှက်ခြင်း၊ စုံမဝှက်ခြင်း စသည်ဖြင့် အချိန်ကုန်လျက် ရှိ၏။ အတိုချုပ်၍ ပြောရလျှင် ပေါက်ယုသည် ပျော်ရွှင်ချမ်းသာ သုခကို ရလျက်ရှိလေပြီ။ ဥယျာဉ်ထဲတွင်ရှိစဉ် ပေါက်ယုသည် အောက်ပါကဗျာလေးပိုဒ်ကို ရေး၏။ ကဗျာများမှာ သာမန်မျှသာဖြစ်သည့်တိုင် ပေါက်ယု၏စိတ်အခြေအနေကို ဖော်ပြသော ကဗျာများဖြစ်သည့်အတွက် အောက်တွင်ဖော်ပြလိုက်ပေ၏။

## နွေဦးည

ဆည်းဆာချိန်မှ၊ တိမ်မျှင်စသို့
ဖဲကြွခန်းဆီး၊ ဝေးဆိုညည်းဟန်
နံ့ရနံ့တိုက်၊ ဖျတ်ဖျတ်ရိုက်သော်
လမ်းမပေါ်မှ၊ ဖားအော်သံများ
တိတ်ဆိတ်သွား။ ။
တံစက်မြိတ်စွန်၊ မိုးစက်သွန်သော်
ယွန်းမော်ကြာရှက်၊ ဖဲစက်ခေါင်းအုံး
သစ်ခြောက်တုံးလို အေးစက်သွား။ ။
နွေဦးရှခင်း၊ ဤမြင်ကွင်းသည်
အိပ်မက်တွင်းက၊ ယမင်းလှ။ ။
ဖယောင်းတိုင်မှ၊ မျက်ရည်စတို့
စီးကျဆင်းသက်၊ ဘယ်သူ့တွက်။ ။
ပန်းဝတ်မှုန်တို့၊ ကခုန်ဆင်းကာ
ကြွေကျလာသည်
ငါ့ကိုအပြစ်ဆိုသယောင်။ ။
အချော့တော်ကို၊ အလိုသို့လိုက်
အကြိုက်ဆောင်မိ၊ ငါ့ဝန်ရှိ။ ။
သူတို့ရယ်သံ၊ မြှောက်ပင့်သံကို
တစ်ရံမလတ်၊ ကြားရတတ်ကြောင့်
စိုးနှောင့်ပျာပွေ၊ ငြိမ်ငွေ့နေ။ ။
စက်ရာထက်တွင်၊ ဖူးလက်တင်၍
ငါလျှင်အိပ်ရန်၊ ကြိုးစားပြန်သော်
မပျော်နိုးထ၊ အိပ်မဲ့ည။ ။

## နွေလယ်ည

လှကလျာသည့်၊ စက်ရာဖဲကြွ
အိပ်ပါရလည်း၊ နှမ်းလျမရှင်
အိပ်မက်ထင်ခဲ့၊ ရွှေစင်ပဝင်း
လှောင်ချိုင့်တွင်းမှ၊ သံမြသံအေး
ငှက်ရွှေကျေးက၊ "နိုးကြ ထကြ





ကျိုကြလက်ဖက်ရည်"၊ တီတီတာတာ
အော်လျက်သာတည့်၊ လေသာပြတင်းဝ
ဖြာကျလရောင်၊ စိန်ရောင်ပြိုးပြက်
ကတိုးသင်းမြ၊ ကြေးမုံလှပမာ
နံ့သာသင်းပျံ့၊ အမွှေးနံ့လည်း
ဆွတ်ပျံ့ရှိမှောင်၊ ခန်းတွင်းလှောင်လျက်
ကြာပွင့်ထက်မှ၊ ကြည်လင်နှင်းစက်
ပယင်းခွက်သို့၊ စိမ့်စက်ကျလာ
မိုးမခင်မှ၊ အေးမြလေညင်း
ဆော်သွင်းတိုက်လျက်၊ ကျောက်ဖြူသားလက်ရန်း
ဖြတ်သန်းသွားလာ၊ ကန်သာယာမှ
ရိပ်မြုံလှတွင်၊ ပိုးစဖဲယပ်
တဖျတ်ဖျတ်နှင့်၊ ဟသ်္သာပြဒါးမျှော်စင်
နီကျင်ကျင်၌၊ တောက်လွင်လိုက်ကာ
ပင့်တင်ကာဖြင့်၊ သခင်မသည်
မျှော်လှပြီ။ ။

## မိုးနှောင်းည

ဟသ်္သာပြဒါးခြယ်သ၊ ခန်းဆောင်မသည်
အေးမြအရိပ်၊ အသံဆိတ်လျက်။ ။
ဖိတ်လက်ရွှေခြည်၊ လရောင်ရည်သည်
ကတ္တီပါစ၊ ဖြူလွလွကို
ဝင်းပရွှေစင် ပက်ဖျန်းလျက်။ ။
ရေတွင်းအိုအနီး၊ ဆီးတော်ပင်တွင်
ခိုဝင်နားစက်၊ တောကျီးနက်တို့
နှင်းစက်တို့ဖြင့်၊ စွတ်စိုလျက်။ ။
ကြိုးကြာငှက်တို့၊ မြရွက်မှော်စိမ်း
အလိမ်းလိမ်းကျ၊ ကျောက်ကမ်းပါးယံဘေး
ခွံယူနွေးလျက်။ ။
အစေတော်သည်၊ သော်မော်ပွင့်ခက်
ရှန်းလက်ဝင့်ကြွား၊ နယားရုပ်ပုံ

ပန်းခံမွေ့ရာ၊ အိုးစက်ရာကို
လေမှာဖြန့်ကျင်း၊ စန့်အောင်ခင်းလျက်။ ။
လေသာဆောင်မှ၊ ထွက်၍အလာ
ခေါင်းမှဆင်ဆံ၊ စိန်မြဆံထိုး
အောက်သို့ကျိုးကျ၊ ကြေမွလျက်။ ။

ဆောင်းဦးည

သန်းယံကျူးပြီ၊ မူးတူးမင်တင်
ဝါးရုံပင်နှင့်၊ ဆီးပွင့်အိပ်မက်
ငါမြင်မက်ခဲ့၊ အိစက်အိပ်ရာ
အိပ်ရပါလည်း၊ အိပ်၍မရ
ထိုးကျသစ်ရိပ်၊ မြေညံ့သိပ်မှာ
ကြိုးကြာငှက်ကျား၊ လမ်းသလားလျက်။
နှင်းစက်နှင်းမှုန်၊ မက်မုံပွင့်ပမာ
ဖြာကျလာစဉ်၊ ပဋ္ဋင်တေးဆို
ညြသံပျိုလဲ(လည်း)၊ တေးသံစဲခဲ့။
ဖဲစိမ်းအင်္ကျီ၊ ဖဲထဘီနှင့်
လိုပ်လီလုပ်လဲ့၊ ချော်ပျို့န္တဲ့လည်း
ကဗျာမဖွဲ့နိုင်။ ။

ဤကဗျာများကိုစပ်သည့် ယွန်းစံအိမ်ကြီးမှ သခင်လေးမှ
အသက် ဆယ့်နှစ်နှစ်ကျော် ဆယ့်သုံးနှစ်မျှသာရှိသေးသည့် သူငယ်
ကလေးတစ်ယောက်ဖြစ်သည်ဟု သိရသည့်အခါတွင် အချို့သော မင်
မြှောင်စိုးကပ်တို့သည် ထိုကဗျာများကို ကူး၍ဝေကာ မည်မျှကောင်း
ကြောင်း ချီးမွမ်းပြောဆိုကြလျက် လူငယ်လူရွယ်ကလေးများက
ထိုကဗျာထဲမှ စာလုံးကလေးများကို သဘောကျကာ မိမိတို့၏ ယပ်
တောင်များ၊ အခန်းဆောင် နံရံများပေါ်တွင် ထုတ်နုတ်ကူးထားကြ
၏။ ဤတွင် ပေါက်ယုအနီးတွင် အကျေနပ်ကြီး ကျေနပ်လျက်ရှိကာ
လာ၍ကဗျာစပ်ခိုင်းသူ၊ လက်ရေးပန်းချီ ရေးခိုင်းသူ၊ ပန်းချီအဆွဲခိုင်း





သူ၊ စာတန်းရေးခိုင်းသူတို့ဖြင့် ရှုပ်ယှက်ခတ်လျက်ရှိပြီး သူကလည်း
ထိုအလုပ်များကို ကျေကျေနပ်နပ်လုပ်ပေးခြင်းဖြင့် အချိန်ကုန်လျက်
ရှိ၏။

သို့ရာတွင် အချိန်အတန်ကြာသည့်အခါတွင် ထိုသို့ ငြိမ်သက်စွာ
နေရခြင်းကို ပေါက်ယု ငြီးငွေ့လာခဲ့လေပြီ။ ပေါက်ယု၏ စိတ်သည်
ဂနာမငြိမ်ဖြစ်လျက်ရှိကာ အလိုလို မကျေမနပ်ဖြစ်လျက်ရှိ၏။ ဥယျာဉ်
ထဲရှိ အစေတော်အများစုမှာ ခပ်ထုံထုံ၊ ခပ်ထိုင်းထိုင်းများသာဖြစ်ပြီး
တစ်နေ့တစ်နေ့လျှင် ပျော်လိုက်ပါးလိုက်၊ ဆော့ကစားလိုက်ဖြင့် အချိန်
ကုန်လျက်ရှိကြကာ ပေါက်ယု၏အခြေအနေကို သတိမပြုမိကြဘဲ ရှိကြ၏။
သို့ဖြင့် ပေါက်ယုသည် ဥယျာဉ်ထဲတွင် နေရသည်ကို ငြီးငွေ့လာသည့်
အတွက် အပြင်သို့ထွက်ကာ ပျော်ပါးလျက်ရှိသည့်တိုင် သူ့စိတ်ထဲတွင်မူ
ကျေနပ်မှုမရဘဲ နောက်ကျိရှုပ်ထွေးလျက်ရှိ၏။

ပေါက်ယု၏သူငယ်တော် မင်ယန်းသည် သူ့သခင်လေး အပျင်း
ပြေစေရန်အတွက် ကြံစည်စိတ်ကူးလျက်ရှိရာ အသစ်အဆန်းဖြစ်မည့်
နည်းလမ်းတစ်ခုကို စဉ်းစားမိသဖြင့် မြို့ထဲမှ စာအုပ်ဆိုင်တစ်ဆိုင်သို့
သွားကာ ဝတ္ထုစာအုပ် အသစ်အကောင်းများ၊ ရှေးခေတ်က မိဖုရား
များနှင့် ကိုယ်လုပ်တော်တို့အကြောင်းကို ရေးထားသည့် ပုံဝတ္ထုများ
နှင့် သီချင်းစာအုပ်များကို ဝယ်လာခဲ့၏။ ပေါက်ယုသည် ထိုစာအုပ်
များကို ယခင်က တစ်ခါမျှ မဖတ်ဖူးခဲ့ချေ။ ထိုစာအုပ်များကို ဖတ်ရ
သည့်အခါ၌ ပေါက်ယုအဖို့တွင် ရတနာသိုက်ကြီးကို တွေ့ရသည့်နှယ်
ရှိပေ၏။

"သခင်လေး၊ ဒီစာအုပ်တွေကို ဥယျာဉ်ထဲတော့ ယူမသွားနဲ့
နော်။ ကာလပေါ်ဝတ္ထုတွေ သခင်လေးဖတ်နေတာကို လူကြီးတွေ
သိသွားယင် ဒါတွေကို ရှာပေးရသလားဆိုပြီး ကျွန်တော် ဒုက္ခရောက်
နေမှာ"

သို့ရာတွင် ပေါက်ယုသည် သူ့စကားကို ဘယ်မှာနားထောင်ပါ
မည်နည်း။ ပေါက်ယုံသည် အတန်ကြာ ချီတုံချတုံဖြစ်နေပြီး နောက်
ဆုံးတွင် စကားလုံးယဉ်ယဉ်ကျေးကျေးဖြင့် ရေးထားသော စာအုပ်

များကို ခိုးသွင်းလာကာ တစ်ယောက်တည်းရှိနေစဉ် ခိုးဖတ်ရန်အတွက် မျက်နှာကြက်ပေါ်တွင် ဝှက်ထား၏။ ထို့ထက်ပို၍ ညစ်ညမ်းသော စာအုပ်များကိုမူ ဥယျာဉ်အပြင်ဘက်ရှိ သူ့စာကြည့်ဆောင်ထဲတွင် ဝှက်ထား၏။

တတိယ လ ယယ်ရက် တစ်ရက်လောက်၌ ပေါက်ယုသည် 'ခနီးတွင်းရိပ်သာ'ဆိုသည့် ဝတ္ထုစာအုပ်ကိုယူကာ တတိုင်းမွှေးကန်ပေါ်ရှိ တံတားကလေးပေါ်သို့ လျှောက်လာခဲ့၏။ ထို့နောက် ကန်လေးအနီးရှိ အပွင့်တွေ ဝေဆာနေသော မက်မုံပင်အောက်မှ ကျောက်ဆောင်တစ်ခုပေါ်တွင်ထိုင်ကာ ဝတ္ထုစာအုပ်ကို ဖတ်နေ၏။ စာအုပ်ထဲတွင်ပါသည့် 'ရွတ်ရွတ်သဲသဲ၊ ရဲရဲပန်းလွှာ၊ မြေမှာသက်ဆင်း'ဆိုသည့် စာပိုဒ်သို့ရောက်လျှင် လေပြင်းတစ်ချက်တိုက်လိုက်ပြီးနောက် ပေါက်ယုနှင့်တကွ စာအုပ်ပေါ်သို့ ပန်းတွေ ကြွေကျလာ၏။ သူ့အနီးရှိ မြေပြင်မှာလည်း ကော်ဇောခင်းထားသည့်နှယ် ပန်းလွှာတို့ဖြင့် ပြန့်ကျဲလျက်ရှိ၏။ ပေါက်ယုသည် ကိုယ်ပေါ်တွင် ကြွေကျနေသည့် ပန်းပွင့်ကလေးများကို ခါချလိုက်ပြီး နင်းမိမည်စိုးသည့်အတွက် လက်ဖြင့်စုယူလိုက်၍ စမ်းချောင်းနားသို့ ဆင်းသွားပြီးလျှင် မက်မုံပွင့်လွှာကလေးများကို ရေထဲသို့ မျှောလိုက်၏။ ပန်းလွှာကလေးများသည် အတန်ကြာမျှ ဝဲလှည့်နေပြီးနောက် ချာလည်ချာလည်ဖြင့် ရေစီးတွင် မျောပါသွားကြ၏။

မက်မုံပင်အောက်သို့ ပြန်ရောက်လာသည့်အခါတွင် မြေပြင်တွင် ပြန့်ကျဲနေသည့် ပန်းဝတ်လွှာကလေးများ အများကြီးကျန်ရစ်ခဲ့သေးသဖြင့် မည်သို့လုပ်ရမည်နည်းဟု စဉ်းစားနေစဉ် အသံတစ်သံကြောင့် ပေါက်ယုမှာ လန့်သွား၏။

“ဘာလုပ်နေတာလဲ” ဟူသော အသံကိုကြား၍ လှည့်ကြည့်လိုက်ရာ ထိုက်ယုကို တွေ့ရ၏။ ထိုက်ယုမှာ ပခုံးတွင် ပေါက်ပြားတစ်ချောင်းကိုထမ်းထားပြီး ပိုးအိတ်ကလေးတစ်အိတ်ကိုလည်း ပေါက်ပြားတွင် တွဲလောင်းဆွဲထား၏။ လက်ထဲတွင်မူ တံမြက်စည်းတစ်ချောင်းကို ကိုင်ထား၏။





“အတော်ပဲ မလေး။ ဟောဒီပန်းလွှာကလေးတွေကို တံမြက်စည်းနဲ့လှည်းချပြီး ရေထဲမျှောပစ်ခိုင်းရဦးမယ်။ မောင်တောင် တစ်ပုံမျှောခဲ့ပြီးပြီ”

“ရေထဲကို မမျှောပါနဲ့ကွယ်။ ဥယျာဉ်ထဲက စမ်းချောင်းထဲမှာကျန်းကတော့ ပန်းပွင့်ကလေးတွေဟာ သန့်ရှင်းနေသေးတာပေါ့။ ဒါပေမယ့် အပြင်ရောက်သွားလို့ရှိယင် လူတွေက အမှိုက်တွေ၊ အညစ်အကြေးတွေကို စမ်းချောင်းလေးထဲ သွန်ပစ်ကြတာ။ ဒီတော့ အပြင်ရောက်သွားယင် ဒီပန်းပွင့်ကလေးတွေဟာ ညစ်ပတ်ကုန်မှာပေါ့။ ဟောဟိုနားကထောင့်မှာ ပန်းသင်္ချိုင်းကလေးတစ်ခု မလေးလုပ်ထားခဲ့တယ်။ ဟောဒီပန်းကြွေကလေးတွေကို တံမြက်စည်းနဲ့လှည်း၊ ဟောဒီ ပိုးအိတ်ကလေးထဲထည့်ပြီးတော့မှ အဲဒီနားမှာသွားမြှုပ်။ နောင်ကျတော့ ဒီပန်းပွင့်ကြွေလေးတွေဟာ မြေဩဇာ ပြန်ဖြစ်လာကြမှာပေါ့။ အဲဒီလိုလုပ်တာက ပိုပြီး မသန့်ရှင်းပေဘူးလား”

ပေါက်ယုသည် ထိုအကြံကို သဘောကျသွား၏။

“ကောင်းတယ်။ ဒီလိုဆိုယင် မောင်လဲ လိုက်လုပ်ပေးမယ်။ ဒီစာအုပ်ကို တခြားသွားပြီး သိမ်းလိုက်ဦးမယ်”

“ဘာစာအုပ်လဲ မောင်လေး”

ပေါက်ယုက စာအုပ်ကို လျင်မြန်စွာဆွဲယူလိုက်ပြီး အင်္ကျီကြားထဲသို့ ထိုးထည့်လိုက်၏။

“ကွန်ဖြူဇီကျမ်းစာပါ။ ကျမ်းနာမည်က ‘ပဏ္ဍိတ ဝေဒနိယကျမ်း’ တဲ့”

“ဒီလို တစ်ပတ်ရိုက်လို့ ဘယ်ရမလဲ မောင်လေးရယ်။ ပြပါ။ ဘာစာအုပ်တွေလဲ”

“မလေးကိုတော့ ပြပါ့မယ်။ ဒါပေမယ့် ဘယ်သူ့ကိုမှ မပြောရဘူးနော်။ သိပ်ကောင်းတဲ့ဝတ္ထုပဲ မလေးရာ။ ဖတ်မိယင် လက်ကချချင်မှာ မဟုတ်ဘူး။ ထမင်းတောင် စားဖို့ သတိရမှာ မဟုတ်ဘူး” ဟု ဆိုကာ စာအုပ်ကိုပေး၏။

ထိုက်ယုသည် စိုက်ပျိုးရေး ကိရိယာ တန်ဆာပလာများကို အောက်သို့ချကာ စာအုပ်ကို ထိုင်ဖတ်၏။ ဖတ်ရင်းဖတ်ရင်းနှင့် ထိုက်ယုမှာ စိတ်ဝင်စားသည်ထက် ဝင်စားလာခဲ့လေပြီ။ ထမင်းတစ်ဝိုင်း စားပြီးလောက်ချိန်တွင် ထိုက်ယုသည် အခန်းဆယ့်ခြောက်ခန်းကို ဖတ်ပြီးလေပြီ။ ထိုက်ယုသည် လှပသော စာသားများကြောင့် ကြည်နူးလျက်ရှိ၏။ စာအုပ်ကုန်သွားသောအခါ၌ ထိုက်ယုသည် ကျေနပ်လျက်ရှိကာ စာကြောင်းများကို အမှတ်ရလျက် ရှိ၏။

"ဘယ့်နှယ်လဲ၊ မကောင်းဘူးလား"

"ဟုတ်တယ်၊ သိပ်ကောင်းတာပဲ၊ စွဲကျန်ရစ်ခဲ့တာပဲနော်"

ပေါက်ယုကတော့ 'လွှမ်းကျန်ရစ်ခဲ့သူ၊ မလေးကတော့ တိုင်းပြည်နိုင်ငံတွေကို ပြိုလဲသွားစေတဲ့ အလှမယ်'ဟု ဝတ္ထုထဲတွင်ပါသည့် စာသားများကို ရွတ်ပြ၏။

ထိုက်ယုသည် ထိုစကားကြောင့် မျက်နှာတွေနီရဲသွား၏။ ထိုက်ယုသည် မျက်မှောင်ကိုကုတ်ကာ သူ့ကို အရောင်တလက်လက် ထွက်နေသည့် မျက်လုံးများဖြင့်ကြည့်ရင်း လက်ညှိုးငေါက်ငေါက်ထိုးလျက်

"မောင်လေး မကောင်းဘူး။ ဒီလို မဟုတ်တာ ဟုတ်တာ စာအုပ်တွေယူလာပြီး မလေးကို အဲဒီဝတ္ထုထဲကဟာတွေနဲ့ နှိုင်းတယ်။ မလေး မကျေနပ်ဘူး။ ဦးလေးကျီချိန်နဲ့ ဒေါ်လေးဝမ်ကို တိုင်မယ်"

ထိုက်ယု၏ မျက်လုံးတွင် မျက်ရည်တွေဝဲနေသည်။ ထိုက်ယုက ထပြန်ရန် ဟန်ပြင်လိုက်၏။ ပေါက်ယုက လမ်းရှေ့မှ တားထား၏။

"မလေးရယ် မောင့်ကို ဒီတစ်ခါတော့ ခွင့်လွှတ်ပါဗျာ။ မရိုးသားတဲ့ ရည်ရွယ်ချက်နဲ့ ဒီစာတွေကို ရွတ်ပြတာ မဟုတ်ပါဘူး။ တကယ်ပါ။ မလေးကို မရိုးသားတဲ့ ရည်ရွယ်ချက်နဲ့ ပြောတာမှန်ယင် ဟောဒီကန်ထဲကို လိမ့်ကျပြီး လိပ်စာဖြစ်ရပါစေရဲ့။ ကိုယ်တိုင်လဲ လိပ်ဖြစ်ပါစေရဲ့။ မလေး နန်းတွင်းသူကြီးဖြစ်လို့ နတ်ရွာစံယင်လဲ မလေးရဲ့ သင်္ချိုင်းကမ္ပည်းစာကျောက်တုံးကို တစ်သက်လုံးပိုးပြီး သင်္ချိုင်းနားမှာ ရပ်နေရတဲ့ ဘဝမျိုး ဖြစ်ရပါစေရဲ့"





ထိုက်ယုသည် ပေါက်ပေါက်ရှာရှာ နိုင်လှသည့် သူ့ကျိန်စာကို ကြားသည့်အခါ၌ ဆက်၍ မငိုနိုင်တော့ဘဲ မျက်ရည်တွေ စို့ရွှဲနေသည့်ကြားမှ ရယ်လိုက်မိ၏။

"ကြောက်တတ်လိုက်တာလဲ သူ့အပြစ် မရှိဘူး။ ပြီးတော့လဲ သူများကို မဟုတ်တရုတ်တွေ လိုက်ပြောတတ်လိုက်တာလဲ အလွန်ပဲ။ လှုကြည့်တော့ ဟန်မလုံလိုက်နဲ့။ နောက်ဆုံးကျတော့ ပန်းမပွင့်တဲ့သစ်ငုတ်၊ ငွေရောင်တောက်နေတဲ့ ခဲလှုံသွား"

ဤတစ်ကြိမ်တွင် ပေါက်ယုက ရယ်လိုက်၏။

"ကဲ မလေးပြောတာကို နားထောင်ပြီးပြီနော်။ ဒီတစ်ခါ မောင့်အလှည့်"

"မောင်လေးက ကြားတယ်။ တစ်ခါဖတ်ရုံနဲ့ စာတစ်ပိုဒ်ကို အလွတ်ရတယ်တဲ့။ မလေးက တစ်ခါကြည့်ရုံနဲ့ စာဆယ်ကြောင်းကို အာဂုံဆောင်နိုင်တယ် ဆိုယင်ကော"

ပေါက်ယုသည် စာအုပ်ကို တစ်နေရာသို့ယူ၍ ထားလိုက်၏။

"ကဲ ဒါတွေတော်ပါပြီ။ ပန်းပွင့်ကလေးတွေကို ကျင်းတူးပြီးမြှုပ်ကြရအောင်"

ပန်းပွင့်ကလေးများကို မြေမြှုပ်နေကြစဉ် မှာလာရောက်လာလေ၏။

"ဟောတော့။ လက်စသတ်တော့ ဒီ ရောက်နေကြတာကိုး။ ကျွန်မဖြင့် လိုက်ရှာလိုက်ရတာ နှံ့နေတာပဲ။ သခင်ကြီးကျိရှဲ ကောင်းကောင်း နေမကောင်းဘူး။ ဒါ့ကြောင့်မို့ သခင်မလေးတို့ တစ်သိုက်တော့ သွားမေးကြတယ်။ မယ်မယ်ကလဲ သခင်လေးတို့ကို သွားကြည့်စေချင်တယ်။ မြန်မြန်လာပြီး အဝတ်လဲပါလား"

ပေါက်ယုသည် မှာလာနှင့်လိုက်သွားသည့်အတွက် ထိုက်ယုတစ်ယောက်တည်း ကျန်ရစ်ခဲ့၏။ ထိုက်ယုသည် မည်သည့်နေရာသို့ သွားရမည် မသိသည့်အတွက် သူ့ခန်းဆောင်ဘက်သို့ ပြန်လာခဲ့၏။ သစ်တော်မှူးရပ်ပြင်အနီးသို့ ရောက်သည့်အခါတွင် ဆူချောင်မှ ဝယ်လာသော

ကချေသည် ဆယ့်နှစ်ယောက်တို့ သီချင်းတိုက်နေသံကိုကြားရ၏။ ပလွေ သံနှင့် တေးသံသည် အုတ်တံတိုင်းကို ကျော်၍ ပျံ့လွင့်လာလေ၏။ ဓါတ်တိုင်းဆိုလျှင် ထိုက်ယုသည် အဆိုကဇာတ်ထဲမှ သီချင်းများကို မနှစ် သက်သည့်အတွက် ကောင်းကောင်း နားမထောင်ဖြစ်ခဲ့ချေ။ သို့ရာတွင် သူကြားလိုက်ရသည့် ယခုသီချင်းသံမှာ ဆွတ်ပျံ့ဖွယ်ကောင်းနေ၏။

"နံရံတွေလဲပြို.... ဟောင်းမြင်းနေပြီဖြစ်တဲ့ ရေကန်အိုး.... ဟိုနံ ဘေးဆီမှာ .... တောက်ပတဲ့ နီညိုညို .... ပန်းရောင်အိုနဲ့ .... မြမြပိုင်းပို....

ထိုက်ယုသည် စာသားများကို သဘောကျသွားကာ ရပ်နား ထောင်နေ၏။

....လှပတဲ့ မနက်ခင်း ရှန်းစိုစို....လွမ်းအောင်ဖန်သကို .... သည်ရဲ့ နွေဦးပျိုကို လယ်သူများ အချစ်တွေပို....

ထိုက်ယုသည် ခေါင်းညိတ်ရင်း သက်ပြင်းချလိုက်ကာ "အင်း၊ စာသားကလေးတွေက တော်တော်လှသားပဲ။ ဒါပေမယ့် ခက်တာက လူတွေက တကယ့်အနှစ်သာရကို မကြည့်ဘဲ အပေါ်ယံကိုကြည့်၊ ကတာ ခုန်တာတွေလောက်ကို ကြည့်နေကြတာက ခက်တယ်"ဟု တွေးရာမှ သီချင်းကို ဆက်၍နားထောင်နေမိပြန်၏။

....အချစ်ရယ် မင်းဟာ ပန်းကလေးတစ်ပွင့်လို လှခဲ့ပါတယ်.... ဒါပေမယ့် နုပျိုခြင်းဆိုတာ ရေစီးလိုပဲ လျင်မြန်စွာ စီးဆင်းသွားလေ တယ်....

ထိုက်ယု၏ရင်သည် ထိတ်ခနဲဖြစ်သွား၏။ ထိုက်ယုသည် တေး ကို ဆက်၍ နားထောင်၏။ ထိုနောက်

'စမ်းရေလည်းဆန်း၊ ပန်းခင်းလဲကြွေ၊ ဖြစ်ပျက်နေကြ' မှ သော ရှေးကဗျာတစ်ပိုဒ်မှ စာသားများကို လည်းကောင်း၊ 'နွေဦး လည်းကြွေ၊ ပန်းလည်းကြွေ၍၊ စမ်းရေလည်းမျော၊ စုံမြိုင်တောကား လူ့ဘုံလောက၊ ငါ့ဘဝနှင့်၊ တူလှဘိခြင်း' ဟူသော စာသားများကို နှိုင်းယှဉ်ကြည့်မိလေ၏။

ထိုစာသားများ အနက်အဓိပ္ပာယ်ကို တွေးရင်း ထိုက်ယု၏ရင် သည် ဆွတ်ပျံ့လှိုက်မောလာကာ မျက်ရည်များသည် ပါးပြင်ပေါ်သို့





စီးကျလာကြ၏။ အကယ်၍သာ နောက်မှ တစ်ယောက်ယောက် လာ၍ သူ့ပခုံးကို လာမပုတ်ခဲ့လျှင် ထိုက်ယုသည် ထိုနေရာတွင် မည်မျှကြာ အောင် ထိုင်နေမိမည် မသိချေ။ ပခုံးကို လာတွန်းသဖြင့် ထိုက်ယုသည် နောက်သို့လှည့်ကြည့်လိုက်၏။

မည်သူဖြစ်ကြောင်းကို သိလိုလျှင် နောက်တစ်ခန်းကို ဖတ်ပါ လေ။

မှန်ပေ၏။

မနက်ခင်းတွင် အဆင်းတန်ဆာခြယ်ရန်ကို သတိမရ။ ညခင်း ရောက်လျှင် ရွှေချည်ထိုးဝတ်ရုံကို ဆင်ရန် သတိမထား။

လေညင်းတွင် ယစ်မူးကာ လမင်းကို ငေးကြည့်ရင်း

သောကဖြင့်သာ အပျင်းဖြေရပေ၏။

## အခန်း ၂၄

**ယစ်ထုပ်စိန်ကြီးသည် ရဲရင့်၍ သဘောတားကြီးပုံကို ပြခြင်း။ ရည်မှန်းချက်ကြီးသည့် မိန်းမပျိုသည် ချောမြူရာတွင် လက်ကိုင်ပဝါ ပျောက်ခြင်း။**

ထိုက်ယု၏စိတ်သည် ထိုသို့ညတ်နူးကာ အတွေးတို့ ချာချာလည်လျက် ရှိနေစဉ် သူ့နောက်မှ တစ်ယောက်ရောက်လာကာ ပခုံးကိုလှုပ်ရင်း "တစ်ယောက်တည်း ဘာတွေ ထိုင်ငေးနေတာလဲ မလေး" ဟု မေးလိုက်သည့် အသံကြောင့် လှည့်ကြည့်လိုက်ရာ ယင်လင်း ဝေါ မကြာဖြူကို တွေ့ရလေ၏။

"ဟဲ့၊ ကောင်မလေး အရမ်းလုပ်တာပဲဟယ်။ လန့်သွားတာပဲ။ ဘယ်က ရောက်လာတာလဲ"

ယင်လင်းက တခစ်ခစ်ရယ်နေ၏။

"ကျွန်မ သခင်မလေးကို လိုက်ရှာနေတာ မလေးရဲ့။ ဇူချုန်းကလဲ မလေးကို လိုက်ရှာနေတယ်။ သခင်မဝမ်က မလေးဆီကို လက်ဖက်ရည် အပို့ခိုင်းလိုက်လို့တဲ့။ လာလေ မလေး။ မလေးရဲ့အဆောင်ကို သွားကြရအောင်"

ယင်လင်းက လက်ကိုဆွဲခေါ်သဖြင့် ထိုက်ယုလည်း လိုက်လာခဲ့ကာ ဝေဠုစန်သို့ လာခဲ့လေ၏။ မိမိစန်းဆောင်သို့ ရောက်သည့်အခါ





တွင် ရွက်သစ်ခတ်ထားသည့် လက်ဖက်ရည်ဘူးနှစ်ဘူးကို တွေ့ရ၏။ ထိုရွက်သစ်များမှာ ရွှေနန်းတော်ကြီးမှ ပို့လိုက်ခြင်းဖြစ်ပြီး နတ်ငှက်မယ်က ထိုလက်ဖက်ရည်များကို ထိုက်ယုထံသို့ ပို့လိုက်ခြင်းဖြစ်၏။ ထိုက်ယုနှင့် ယင်လင်းတို့သည် ထိုင်၍စကားပြောနေကြ၏။ သူတို့နှစ်ယောက်သည် ငွေချည်ထိုးလက်ရာများ အကြောင်းကို ပြောဆိုနေကြ၏။ ထိုနောက် စစ်တုရင် ကစားကြလေ၏။ စာအုပ်တစ်အုပ်မှ စာပိုဒ်များကို အတူတူ ဖတ်ကြ၏။ အတန်ကြာလျှင် ယင်လင်းလည်း ပြန်သွားလေ၏။

သို့ရာတွင် ပေါက်ယုအကြောင်းကို ပြန် ကောက် ကြ ဦး စို့။ မာလာသည် ပေါက်ယုကို ဥယျာဉ်ထဲမှခေါ်ပြီး ပြန်လာခဲ့သည့်အခါ၌ အခန်းရှိ ထိုင်ဖုံတစ်ခုတွင်ထိုင်ကာ မိမိထိုးထားသည့် တက်တင်းဇာများကို ကြည့်နေသည့် ယုန်ယန်းကို တွေ့ရ၏။

"သခင်လေး၊ ဘယ်သွားနေတာလဲ။ သခင်လေးကို မယ်မယ်မျှော်နေတယ်။ ပြီးတော့ သခင်ကြီးကျိရဲ့ သိပ်နေမကောင်းဘူးတဲ့။ အဲဒါကို သွားကြည့်ပါတဲ့။ အဝတ်အစားလဲပြီး မြန်မြန်သွားလိုက် သခင်လေး"

မာလာသည် အခန်းထဲသို့ဝင်သွားကာ ပေါက်ယု၏ အဝတ်အစားများနှင့် ဖိနပ်တို့ကို သွားယူနေစဉ် ပေါက်ယုသည် ထိုင်ဖုံပေါ်သို့ ပစ်ထိုင်ချလိုက်ပြီးနောက် ခြေထောက်တွင်စီးထားသည့် ဖိနပ်ကိုချွတ်၍ ကန်ထုတ်လိုက်ပြီး မာလာကို စောင့်လျက်ရှိနေ၏။ လှည့်ကြည့်လိုက်ရာ ပန်းနုရောင်ပိုးအင်္ကျီ၊ အနက်ရောင် လက်ပြတ်ဖဲအပေါ်အင်္ကျီ၊ ပိုးခါးစည်းကြိုးအဖြူကို စည်းထားသည့် ယုန်ယန်းကို တွေ့ရ၏။ သူ့ကို ကျောပေးပြီး ခေါင်းငုံ့၍ တက်တင်းဇာများကိုကြည့်နေသည့်အတွက် ကုပ်သားဝင်းဝင်းလေးကို မြင်ရလေ၏။ ကုပ်ပေါ်တွင် ကော်လံ ဇာအဖြူ ဝဲလျက်ရှိ၏။ ပေါက်ယုသည် ယုန်ယန်း၏ လည်ကုပ်ကို ပါးဖြင့် အပ်ထားလိုက်ကာ သင်းပျံ့သောကိုယ်နံ့ကို ရှူရှိုက်နေမိရင်း ကျောကို ပွတ်သပ်နေမိလေ၏။ ယုန်ယန်း၏အသားမှာ မာလာ၏အသားကဲ့သို့ပင် ဖြူဖွေးနူးညံ့လျက်ရှိသဖြင့် ပေါက်ယုသည် သူ့ကျောကိုပွတ်သပ်လျက်ရှိ၏။ ပေါက်ယုက ယုန်ယန်းကို ဖက်တွယ်ထားလိုက်ရင်း

''နှုတ်ခမ်းနီဆိုးဆေး မြည်းကြည့်မယ်လေ''ဟု နောက်သလိုလို ဖြင့် ပြော၏။ ပြောရုံမျှသာ မဟုတ်။ ညောင်စေး ကပ်နေသည့်နှယ် ရှိအောင် ယုန်ယန်းကိုလည်း ကပ်နေလိုက်သေး၏။

''မာလာရေ၊ ဒီမှာ လာကြည့်ဦးနော်။ ညည်း သခင်လေးကို လာကြည့်ပြောလှည့်ဦး။ ညည်းသခင်လေးကို ဒီလောက်မှသင်မှထားဘူး လား''

မာလာသည် ပေါက်ယုဝတ်ရန် အဝတ်အစားများကို တစ်ပွေ့ တစ်ပိုက်ကြီး ယူလာရင်းက

''သခင်လေး ဘယ်လိုဖြစ်နေတာလဲဟင်။ သခင်လေးကို သုံးမ ရတာလဲ အာပေါက်တော့မတတ်ပဲ။ ဒီအတိုင်းသာ ကြပ်ကြပ်လုပ်။ ကြာယင် ဒီကောင်မတွေ ဒီအိမ်မှာမနေရဲဘဲ ထွက်ပြေးရမှာ''

မာလာသည် ပေါက်ယုကို လျင်မြန်စွာ အဝတ်အစားလဲစေပြီး နောက် ယုန်ယန်းနှင့်အတူ အိမ်ရှေ့ဆောင်သို့ ထွက်သွားခဲ့၏။ ပေါက်ယု သည် မယ်မယ်ကို သွားရောက်တွေ့ဆုံပြီးလျှင် အိမ်ရှေ့ရှိ သူ့အစေတော် များနှင့် သူ့မြင်းရှိရာသို့ လာခဲ့၏။ မြင်းပေါ်သို့ တက်မည်ပြုစဉ် သူ့ ဖခင်အိမ်မှ ပြန်လာသည့် ကျိလျှံသည် ပေါက်ယုရှေ့မှာပင် မြင်းပေါ်မှ ဆင်းလာကာ ပေါက်ယုနှင့် လာ၍ စကားအနည်းငယ် ပြောဆို၏။ ထိုအချိန်တွင် ပေါက်ယုအား တစ်ယောက်က နှုတ်ဆက်လိုက်သံကိုလည်း ကြားလိုက်ရလေ၏။ နှုတ်ဆက်သူမှာ အသက် နှစ်ဆယ်နီးပါး အရပ် ရှည်ရှည်၊ မျက်နှာသွယ်သွယ်၊ ပိန်ပိန်ပါးပါးနှင့် ရုပ်ရည်ချောမော သည့် လုလင်ပျိုကလေးတစ်ယောက် ဖြစ်၏။ ပေါက်ယုသည် သူ့မျက်နှာ ကို မြင်ဖူးနေသော်လည်း သူ့အမည်နှင့် သူ့ကို စဉ်းစား၍မရနိုင်ဘဲ ဖြစ်လျက်ရှိလေ၏။

ကျိလျှံက

''ဘာစိုက်ကြည့်နေတာလဲကွ။ သူ့ကို မသိဘူးလား။ နေ့ဖက် ဘက်လမ်းမှာနေတဲ့ ပဋ္ဌမယောင်းမရဲ့သား ကျိယွန်လေကွာ''





''သြော်၊ ဟုတ်သားပဲ။ ကျွန်တော် မေ့နေတယ်''ဟု ဆိုကာ ပေါက်ယုသည် ကျိယွန်အမေ၏ လုပ်ငန်းကိုင်ငန်းအကြောင်းတို့ကို မေး နေ၏။ လုလင်က ကျိလျှံကို လက်ညှိုးထိုးပြလိုက်ရင်း

''ဦးလေးကျိလျှံနဲ့ စကားပြောစရာကလေး နည်းနည်းရှိလို့''

''ကျိယွန်က တော်တော်ကို ထွားလာတာပဲဗျာ။ ချောလဲ ချော လာတယ်။ ကျွန်တော်သာ မိန်းမရယင် ကျွန်တော့်သားဖြစ်ဖို့ ကောင်း တာပေါ့''

ကျိလျှံက မျက်နှာကို မဲ့လိုက်ရင်း

''ဟဲ့ကောင်လေး။ ဘာတွေ လျှောက်ပြောနေတာလဲ။ ဘယ်က မှတ်သွားရမှာလဲ။ သူက မင်းထက် လေးငါးနှစ်လောက်တောင် ကြီး တာ''

ပေါက်ယုသည် ပြုံးနေခလာ၏။

''ခင်ဗျားအသက်က ဘယ်လောက်လဲ''

''ဆယ့်ရှစ်နှစ်''

ကျိယွန်မှာ နဂိုက ရယ်စရာမောစရာ ပြောတတ်သူတစ်ယောက် ဖြစ်သည့်အတိုင်း

''စကားပုံရှိသားပဲ ဦးလေးကျိလျှံရဲ့။ 'ပုခက်ထဲမှာရှိတဲ့ အဘိုး ကိုမှာ တောင်ဝှေးနဲ့ သွားနေတဲ့ မြေး ရှိတယ်'တဲ့။ ကျွန်တော်ဟာ ပေါက်ယုထက် ကြီးချင်ကြီးမယ်။ ဒါပေမယ့် 'အမြင့်ဆုံး တောင်ဟာ နေကိုမကွယ်နိုင်'ဆိုတဲ့ စကားရှိတယ် မဟုတ်လား။ ကျွန်တော့်မှာ အဖေဆုံးပြီးကတည်းက ဆုံးမသွန်သင်မဲ့သူဆိုလို့ ဘယ်သူမှ မရှိခဲ့ဘူး။ ဒီတော့ ပေါက်ယုနဲ့ ကျွန်တော်ဆိုတာ တူဝရီးပဲ။ သူကဦးလေး ကျွန် တော်ကတူ။ ကျွန်တော့်ကို မွေးစားချင်တယ်ဆိုယင် မွေးစားပေါ့''

ကျိလျှံက ရယ်လိုက်လျက်

''ကဲ ဘယ့်နှယ်ရှိစ၊ သားတစ်ယောက်ကို မွေးစားရတယ်ဆိုတာ လွယ်တယ်များ အောက်မေ့နေသလား။ မသိဘူး''ဟု ဆိုကာ ကျိလျှံ သည် အခန်းဆောင်ထဲသို့ ဝင်သွားလေ၏။ ပေါက်ယုက

"မနက်ဖြန် အားတယ်ဆိုယင် ကျွန်တော့်ဆီခဏလာခဲ့ပါလား။ သူတို့ကို လိုက်ပြီး အတူခိုးမနေနဲ့ဗျ။ ခုတော့ ကျွန်တော်လဲ အလုပ်များနေတယ်။ မနက်ဖြန်ကျယင် ကျွန်တော့်စာကြည့်ဆောင်ကိုလာခဲ့။ ဥယျာဉ်ထဲကိုလဲ လိုက်ပြမယ်"

ပေါက်ယုသည် မြင်းပေါ်သို့ လွှားခနဲခုန်တက်လိုက်လေရာ သူ့အစေတော်များလည်း နောက်မှလိုက်လာခဲ့ကြ၏။ သူတို့သည် ဦးကြီးကျိရှဲအိမ်သို့လာ၍ ဦးကြီး၏ အခြေအနေကို မေးမြန်းကြည့်ရာ ရောဂါအထူးအထွေမဟုတ်ဘဲ သာမန်အအေးမိခြင်းမျိုးလောက်သာ ဖြစ်သည်ကို သိရလေ၏။ ပေါက်ယုသည် ကျိရှဲအား မယ်မယ်က မှာလိုက်သည့် အကြောင်းတို့ကို ပြောဆိုပြီးလျှင် ထိုင်၍ကန်တော့လေ၏။ ကျိရှဲသည် မယ်မယ်အား အခြေအနေကောင်းကြောင်း ပြောလိုက်ရန် မတ်တတ်ထ၍ ပြောဆိုပြီးလျှင် သူ့ဇနီးထံသို့ ပေါက်ယုကိုခေါ်သွားရန် အစေတော်တစ်ယောက်ကို ခိုင်းလေ၏။

ပေါက်ယုသည် နောက်ဘက်ရှိ ဒေါ်လေးဆင့်၏ခန်းဆောင်ထဲသို့ လာခဲ့၏။ ဒေါ်လေးဆင့်သည် မတ်တတ်ထကာ မယ်မယ်အားနှုတ်ဆက်လိုက်ရန် ပြောဆိုသဖြင့် ပေါက်ယုမှာလည်း ထိုင်၍မဖြစ်သေးဘဲ ခေါင်းညွှတ်၍ နားထောင်နေရလေ၏။ ထို့နောက်မှ ဒေါ်လေးဆင့်သည် ပေါက်ယုအား ခုတင်မီးဖိုကြီးပေါ်သို့တက်၍ သူ့အနီးတွင်ထိုင်စေပြီးနောက် ကျန် အိမ်သူအိမ်သားများ အကြောင်းကို မေးမြန်းလျက်ရှိ၏။ သူတို့နှစ်ယောက် လက်ဖက်ရည် သောက်နေကြစဉ် ဒေါ်လေးဆင့်သည် ပေါက်ယုကို နှုတ်ဆက်ရန်အတွက် ကျိဆုန်ကို အခေါ်ခိုင်းလိုက်သဖြင့် ကျိဆုန်ရောက်လာလေ၏။

"ကဲ၊ ဒီလို မျောက်ကလေးမျိုးကို မြင်ဖူးရဲ့လား ပေါက်ယု။ ငါ့တူမှာ သန့်ရှင်း ဖြီးလိမ်းပေးဖို့ အထိန်းတော်၊ အချော့တော်တွေ မရှိတော့ဘူးလား။ ဘယ်ရောက်ကုန်ကြပြီလဲ။ ကောင်မတွေ သေကုန်ကြပြီလား။ ကြည့်စမ်းပါဦး။ မျက်နှာကလဲ ပေရေလို့။ အမျိုးကောင်းသားနဲ့မှတူဘူး။ တကယ့် လမ်းဘေးကလူပြိုက်နဲ့ တူနေတယ်"





ထိုအခိုက် ကျိဟုန်နှင့် သူ့တူ ကျိလန်တို့သည်လည်း ဒေါ်လေးဆင့်ကို ကန်တော့ရန် ရောက်လာကြသဖြင့် ဒေါ်လေးဆင့်သည်သူတို့ကို ကုလားထိုင်များပေါ်တွင် ထိုင်စေ၏။ သို့ရာတွင် ကျိဟုန်မှာ သူ့ဒေါ်လေးဆင့်နှင့် မှိုအုံးတစ်အုံးတည်းထိုင်၍နေသည့် ပေါက်ယုကိုတယုတယလုပ်နေသည့် ဒေါ်လေးဆင့်ကို မြင်လိုက်သည်နှင့် အကြီးအကျယ်ဒေါ်ပွကာ ပြန်ထွက်ရန် ကျိလန်ကို အချက်ပေးလိုက်၏။ သို့ဖြင့် ခဏမျှကြာလျှင် ကျိဟုန်နှင့်ကျိလန်သည် အကြောင်းရှာကာ အပြင်သို့ထွက်သွားရန် ပြင်နေကြ၏။ ပေါက်ယုကလည်း ပြန်ရန်ဟန်ပြင်လိုက်သည်တွင် ဒေါ်လေးဆင့်ကပြုံး၍ တားထား၏။

"နေစမ်းပါဦးကွယ့်။ ငါ့တူကို ပြောစရာ ရှိလို့ပါ။ ထိုင်စမ်းပါဦး"

ပေါက်ယုမှာ ပြန်ထိုင်ရ၏။ ဤတွင် ကျိဟုန်နှင့် ကျိလန်တို့ကိုလည်း ထိုင်ရန်ပြောလေ၏။

"အိမ်ပြန်ရောက်ယင် မင်းတို့မေဖျားကို ဒေါ်လေးဆင့်က နှုတ်ဆက် လိုက်တယ်လို့ ပြော။ ကြားလား။ အစတုန်းကတော့ မင်းတို့ကို ညစာကျွေးပြီးမှ ပြန်လွှတ်မလို့ စိတ်ကူးထားတာ။ ဒါပေမယ့် အိမ်မှာ နေတဲ့ကလေးမတွေ ဆူညံကြလွန်းလို့ ဒေါ်လေးလဲ ခေါင်းနောက်နေပြီ။ စားနိုင်တော့မှာ မဟုတ်ဘူး"

ကျိဟုန်နှင့်ကျိလန်မှာ နှုတ်ဆက်၍ ပြန်သွားကြလေ၏။ ပေါက်ယုက

"မလေးတို့တစ်တွေ ဦးကြီးကို လာမေးတယ်ဆို။ ခု သူတို့တစ်တွေ ဘယ်မှာလဲ"

"စောစောကတော့ ဒေါ်လေးအနားမှာရှိတာပဲကွယ့်။ ခုတော့ နောက်ဖေးဆောင်ဘက်မှာ ထင်ပါရဲ့"

"ကျွန်တော့်ကို ပြောစရာရှိလို့ဆို ဒေါ်လေး"

"ဘာပြောမလို့ပါလိမ့်။ ဪ မှတ်မိပြီ။ ကလေးမလေးတွေနဲ့အတူတူ ညစာစားသွားလို့ ပြောမလို့ပါကွယ်။ ပြီးတော့ မင်းကို အပြန် လက်ဆောင်တစ်ခုလဲ ပေးလိုက်စရာရှိတယ်"

သူတို့ တူဝရီး နှစ်ယောက်သည် ညစာစားချိန်အထိ ထိုင်၍ စကားပြောနေကြလေ၏။ စားပွဲများ၊ ကုလားထိုင်များကို ပြင်ဆင် ခင်းကျင်းပြီးနောက် သူတို့ တူဝရီးနှစ်ယောက်သည် လူမမာ မေးလာကြသော မိန်းကလေးများနှင့်အတူ ထမင်းစားကြ၏၊ ထို့နောက်တွင် ပေါက်ယုသည် ဦးကြီးကျိရှဲတို့ အိမ်သားများအား နှုတ်ဆက်၍ သူ့အစ်မများ၊ ဝမ်းကွဲအစ်မများနှင့်အတူ စံအိမ်သို့ ပြန်လာခဲ့လေ၏။

သူတို့တစ်သိုက်သည် မယ်မယ်ကို ကန်တော့ပြီးနောက် ဒေါ်လေးဝမ်နှင့် စကားပြောဆိုကာ အသီးသီး အိပ်ရာသို့ ဝင်ခဲ့ကြ၏။

ကျိလျံကို လာတွေ့သည့် ကျိယွန်ဆိုသည့် သူငယ်ကလေး၊ အကြောင်းကို ပြန်ကောက်ကြဦးစို့။

"ဦးလေးကျိလျံ၊ ကျွန်တော့်အတွက် အလုပ်ကလေး ဘာလေး မရသေးဘူးလား"

"တလောတုန်းကတော့ ရှိတယ်ကွ။ ဒါပေမယ့် မင့်ဒေါ်လေး၊ ငှက်မယ်က ကျိချင်းကို အယင်ပေးလိုက်ပါဆိုလို့ ပေးလိုက်ရတယ်။ ဒါပေမယ့် မကြာခင် ဥယျာဉ်ထဲက သစ်ပင်တွေ၊ ပန်းပင်တွေကို ရေလောင်းဖို့အလုပ်တစ်ခု ပေါ်မယ်လို့ ပြောတယ်။ အဲဒီအလုပ် ပေါ်လာယင် မင်းပေးမယ်လို့ မင့်ဒေါ်လေး ငှက်မယ်က ပြောထားသားပဲကွာ"

ကျိယွန်သည် အတန်ကြာမျှ တိတ်ဆိတ်လျက်ရှိ၏

"ဒီလိုဆိုယင် ကျွန်တော်စောင့်ရမှာပေါ့ ဦးလေးရာ၊ ဒါပေမယ့် ဦးလေးဆီကို ဒီကိစ္စနဲ့ပတ်သက်လို့ ကျွန်တော်လာတယ်ဆိုတာကိုတော့ မပြောလိုက်ပါနဲ့၊ နောက်တစ်ခါ ကျွန်တော်တွေ့ယင် ကျွန်တော့်ဘာသာ ဒေါ်လေးကို ပြောပါမယ်"

"ငါက ဘာဖြစ်လို့ ပြောရမှာလဲကွ။ ငါ့မှာ ဒီလိုအသေးအမွှားကလေးတွေကိုပြောဖို့ အချိန်မရပါဘူး။ မနက်ဖြန် မနက်လင်းအားကြီး ဆိုယင် ငါ ရှင်ယီကို သွားစရာရှိတယ်။ ညနေကျမှ ပြန်ရောက်မှာ။ ဒီတော့ မင့်ကိစ္စကို သန်ဘက်ခါထိအောင် စောင့်ကြည့်လိုက်ဦး။ ဒါပေမယ့် မိုးချုပ်ကျမှ လာခဲ့နော်။ အဲဒီအချိန်ကျမှ ငါအားမှာ"





ယွန်းစံအိမ်ကြီးမှ ပြန်လာခဲ့သည့်အခါ၌ ကျိယွန်၏ ခေါင်းထဲတွင် အကြံတစ်ခုပေါ်လာလေ၏။ ထို့ကြောင့် ကျိယွန်သည် သူ့အမေ ဘက်မှ တော်စပ်သည့် ဦးလေးပူရှိကျင်၏အိမ်သို့ လာခဲ့လေ၏။ ပူရှိကျင်မှာ နံ့သာဆိုင်တစ်ဆိုင် ဖွင့်ထားလေရာ ကျိယွန်ရောက်သွားသည့်အခါတွင် ဆိုင်မှပြန်ရောက်ခါစပင် ရှိသေး၏။

"ဦးလေးဆီကို ကျွန်တော် အကူအညီတစ်ခုတောင်းချင်လို့ပါ။ ဦးလေးရဲ့နံ့သာဆိုင်မှာ စူမတြာပရုပ်နဲ့ ကတိုးများမရှိဘူးလား။ ရှိယင် ကျွန်တော့်ကို လေးကျပ်သားစီလောက် ရောင်းပါ။ ပိုက်ဆံတော့ နောင်များမှ ပေးပါ့မယ်။ အလွန်ဆုံး ဆြည့်ပွဲ နောက်ဆုံးပေါ့ဗျာ"

သူ့ဦးလေးက အေးစက်စက်ဖြင့်

"အကြွေးစကားတော့ သိပ်မပြောနဲ့ကွာ။ တစ်ခါတုန်း က ဆိုင်ကကောင်လေးတစ်ယောက် သူ့အမျိုးဆိုပြီး နံ့သာတွေ ရောင်းလိုက်တာ နည်းတဲ့ တန်ဖိုးလား။ ခုထိ 'တစ်ပြား မှ မ ရ တော့ ဘူး။ ဒါကြောင့် အဲဒီအကြွေးကို ကာမိအောင် ပြန်လုပ်နေရတယ်။ ဘယ်ဆွေမျိုး ဘယ်မိတ်ဆွေကိုမှ အကြွေးမရောင်းတော့ဘူးလို့ တို့လင်မယားနှစ်ယောက် ပြောထားကြရတယ်။

"ပြီးတော့ အဲဒီနံ့သာမွှေးတွေကလဲ ခု တော်တော်ဈေး ရှားနေတယ်ကွ။ မင်းက လက်ငင်းပေးပြီး ဝယ်ပါ့မယ်ဆိုတောင် တို့လို ဆိုင်ကလေးတွေမှာ မင်းပြောသလောက် ရောင်းစရာမရှိဘူး၊ တခြားက ရှာပေးရမှာ။ ဒါကတစ်ချက်။

"နောက်တစ်ချက်က မင်း ဒီပစ္စည်းတွေကို အရေးတကြီးလိုချင် နေတာကို ငါ တယ်ပြီးမသင်္ကာချင်ဘူး။ ကောင်း တဲ့ ရည် ရွယ် ချက် နဲ့ လိုက်ရှာနေတာ မဟုတ်ဘူးလို့ ငါထင်တယ်။ ဘာလုပ်မလို့မှန်းသာ မှသိတယ်၊ တစ်ခုခုတော့ တစ်ခုခုပဲ။ ဒီလိုပြောလို့ ငါက တွေ့တိုင်း မင်းကိုအပြစ်ရှာနေတယ်လို့ မထင်လိုက်နဲ့။ မင်းတို့လူငယ်ကလေးတွေက ဘာမှစဉ်းစားတတ်တာ မဟုတ်ဘူး။ တကယ်လို့သာ မင်းမှာ အစာ

ရေစာ ဝဝလင်လင်၊ ဝတ်ကောင်းစားလှကို ဝတ်လို့၊ ကိုယ့်အလုပ် ကိုယ့်အကိုင်ဆလေးနဲ့ ဖြစ်နေတာကို မြင်ရယင် ငါ့အနေနဲ့ ဘယ်လော ဝမ်းသာမလဲ''

ကျီယွန်ကစ လေပျော့ကလေးဖြင့်

''ဦးလေးပြောတာ မှန်ပါတယ်။ အဖေ ဆုံး တုန်း က တော့ ကျွန်တော်ကလဲ ငယ်ငယ်ကလေးရှိသေးတော့ ဘာမှ ကောင်းကော နားမလည်ဘူးပေါ့။ ဒါပေမယ့် အဖေ့ အလောင်းကို လှလှပပ မြေ နိုင်ခဲ့တာဟာ ဦးလေးကျေးဇူးကြောင့်ဆိုတာ နောက်ကျတော့ အမေ ခဏခဏပြောပါတယ်။ ပြီးတော့ ဦးလေး ကောင်းကောင်းသိပါတယ် ဦးလေးရယ်။ ကျွန်တော် သုံးရဖြုန်းရအောင်ဆိုလို့ အဖေဆုံးတော့ ဘာများ ထုပ်ထုပ်ထည်ထည် ကျန်ခဲ့လို့လဲ။ ကျွန်တော်တို့မှာ ဘာမှ မကျန်ရစ်ခဲ့ဘူး။ အတွင်းပစ္စည်းလဲ မကျန်ခဲ့ဘူး။ 'အင်မတန် လိမ္မာ အိမ်ရှင်မတောင်မှ ဆန်မရှိယင် ထမင်းမချက်တတ်ဘူး'ဆိုတဲ့ စကာ ရှိသားပဲ။ ဒီတော့ ကျွန်တော်လဲ ဘယ်လောက်ပဲ ကြိုးစား ကြိုးစာ ကျောထောက်နောက်ခံမှု မရှိတာ ဘာတတ်နိုင်မှာလဲ။ ကျွန်တော်ဟာ ဒီပြင်လူငယ်တွေလို အူတူတူ အတတထဲကတော့ မဟုတ်ပါဘူး။ တဏှာ လို့သာ ကျွန်တော်ဟာ ခပ်ဖျင်းဖျင်းကောင်ဆိုယင် ဦးလေးဆီ ဗိုနေ လာပြီး ဆန်နို့ ဆီဘူး တစ်လုံးနှစ်လုံး လာချေးလိုက်၊ မနက်ဖြန်ကျယ ပဲဆန်တစ်လုံးနှစ်လုံး လာချေးလိုက်နဲ့ လုပ်နေမှာပေါ့။ ဒီလိုလာလာပြ ချေးနေယင် ဦးလေး ဘယ့်နှယ်လုပ်ငြင်းလို့ ရမှာလဲ''

''အေးလေ၊ ငါ့မှာရှိတာတော့ မင်းတောင်းနိုင်ပါတယ်။ ဒါ အရေးမကြီးပါဘူး။ ဒါပေမယ့် ငါခေါင်းရှုပ်နေတာက မင်းခေါ်၊ မသုံးတဲ့ကိစ္စပဲ။ ဒီအကြောင်းကို မင်းဒေါ်လေးကိုလဲ ခဏခဏ ပြော တယ်။ အ ဓောင်း ဆုံး က တော့ ဟောဟိုက စံအိမ်ကြီးကိုသွားတ အကောင်းဆုံးလို့ထင်တယ်။ တဏယ်လို့ သခင်လေးတွေနဲ့တွေ့ခွင့်မရတ ဆိုယင်တော့ ကိုယ့် ဂုဏ် တွေ မာ န တွေ ခ ဏ ဘေး ချိတ် ထား ပြ အောက်က ပစ္စည်းထိန်းတွေ၊ အစေတော်တွေနဲ့ ဝင်တွေ့ပေါ့ကွ။ သူတို့နဲ့တွေ့ယင် အလုပ်ကလေး ဘာလေး ရနိုင်ပါတယ်။ တစ်နေ့ကပဲ





မြို့ပြင်မှာ မင်း သုံးဝမ်းကွဲဦးလေးရဲ့ စတုတ္ထသားရယ်၊ မြည်းတစ်ကောင် စီးလို့၊ နောက်က လှည်းငါးစီးနဲ့။ ကိုရင် အ ပါး လေး ငါး ဆယ် လောက်ကို သူတို့ကျီဆွေမျိုးစု ကိုးကွယ်တဲ့ သံသေကျောင်းကိုပင့်သွား တာ တွေ့လိုက်သေးတယ်။ မြင်တယ်မဟုတ်လား။ တခြားလူကျတော့ ဘယ်လောက် လျင်သလဲ၊ ချက်ကောင်းပေါ်လာတာနဲ့ တစ်ပြိုင်နက် အလုပ်ကို ရအောင်လုပ်သွားတာ''

ကျီယွန်သည် ရှည်လျားလှသော သြဝါဒကို နားထောင်ရသဖြင့် စိတ်တိုလာကာ ပြန်ရန်ဟန်ပြင်လိုက်၏။ သူ့ဦးလေးက

''နေဦးလေ၊ ဘာများအရေးတကြီးကိစ္စ ရှိလို့တုံး။ ထမင်းလေး ဘာလေး စားသောက်ပြီးမှ ပြန်ပါလား''

ဤတွင် ဦးလေးမိန်းမက

''တော်ရူးနေသလား။ အိမ်မှာ ဆန်တစ်စေ့မှမရှိလို့ ထမင်းမချက် ရသေးဘူး။ ဆန်မရှိလို့ အိမ်မှာရှိတဲ့ခေါက်ဆွဲလေးပဲ ပြုတ်ထားရတယ်။ ဒါတောင် များများစားစားရှိတာ မဟုတ်ဘူး။ တော်တစ်ယောက် စာပဲ ရှိတာ။ ကိုယ့်ကိုယ်ကို သူဌေးကြီးဂိုက်လဲ သိပ်ဖမ်းမနေနဲ့။ ဒီမှာ နေယင် ဘာမှစားရမှာ မဟုတ်ဘူး''

''မရှိယင်လဲ နောက်ထပ် ခေါက်ဆွဲလေးတစ်ဆယ်သားလောက် ဝယ်ချည်ကွာ''ဟု ပူရှိကျင်က ပြောလေ၏။ ဤတွင် သူ့မိန်းမသည် လှမ်း၍

''ဟဲ ယင်ချိရေ၊ ယင်ချိ၊ ဒီကို ခဏလာစမ်း။ ဟောဟိုဝင်းကြီး ထဲက ဒေါ်လေးဝမ်တို့ဆီ သွားပြီး ငွေနှစ်ဆယ် အစိတ်လောက် သွား ချေးချည်စမ်း။ မနက်ဖြန်မှာ ဆက်ဆက်ပြန်ပေးပါ့မယ်လို့ ပြောခဲ့''ဟု ခိုင်းလိုက်၏။

''ဟာ နေပါစေ၊ အလကားဒုက္ခရှာလို့''ဟု ပြောကာ ကျီယွန် သည် သူ့ဦးလေးအိမ်မှ ခပ်သုတ်သုတ်ပြန်လာခဲ့၏။

ကျီယွန်သည် ရှက်ကလည်း ရှက်၊ စိတ်ကလည်း တိုတိုဖြင့် သူ့ ဦးလေးအိမ်မှ ထွက်လာကာ ခေါင်းငိုက်စိုက်ချ၍ အိမ်ဘက်သို့လျှောက်

လာခဲ့စဉ် အရက်မူးလာသည့်လူတစ်ယောက်နှင့် ဝင်တိုက်မိ၏။ ကျိယွန်မှာ ဝင်တိုက်မိသည့်အတွက် လန့်ဖျပ်သွားသော်လည်း အရက်မူးသမားမှာ သူ့ကို ဆဲရေးတိုင်းထွာလျက် ရှိလေ၏။

"မအေ....လား။ လူကိုမမြင်ဘူးလားကွ။ ကန်းနေသလား"

ကျိယွန်က ရှောင်ထွက်မည်ပြုစဉ် အရက်မူးသမားသည် သူ့အင်္ကျီကို ဖမ်းဆွဲထား၏။ သေသေချာချာ ကြည့်လိုက်သည့်အခါတွင် အရက်မူးလာသူမှာ အခြားသူမဟုတ်။ သူနှင့်အိမ်နီးချင်းဖြစ်သည့် နီအဲခေါ် ယစ်ထုပ်စိန်ကြီးဖြစ်ကြောင်း တွေ့ရလေ၏။ ယစ်ထုပ်စိန်ကြီးမှာ ငွေတိုးပေးစားပြီး ရသမျှငွေတိုးကလေးဖြင့် ဖဲရိုက်၊ အရက်သောက်နေသူဖြစ်လေ၏။ စိန်ကြီးသည် အရက်ကို အမြဲမူးလျက်ရှိပြီး ရန်ဖြစ်တတ်သူ တစ်ယောက် ဖြစ်၏။ ယခုလည်း သူ့မြီရှင်တစ်ယောက်ထံမှ ငွေတိုးတောင်းကာ အရက်သောက်ပြီး ပြန်အလာတွင် ယခုကဲ့သို့ ကျိယွန်နှင့် လူချင်းတိုက်မိခြင်း ဖြစ်၏။ နီအဲသည် သတ်ပုတ်တော့မည့်ဟန်ဖြင့် လက်ကို မြှောက်လိုက်စဉ် ကျိယွန်က

"ဗျို့ ဦးလေးစိန်ကြီး။ ကျွန်တော်ပါဗျ"

ထိုအသံကြောင့် ယစ်ထုပ်စိန်ကြီးသည် ရီဝေသောမျက်လုံးများဖြင့် လှမ်းကြည့်လိုက်သည်တွင် ကျိယွန်ဖြစ်နေကြောင်းကို တွေ့ရ၏။ ထို့ကြောင့် အင်္ကျီကို ဆွဲထားရာမှ လွှတ်လိုက်ပြီး ယိုင်တီးယိုင်တိုင်ဖြစ်လျက်ရှိရာမှ ပြုံးလိုက်ရင်း

"လက်စသတ်တော့ ကျိယွန်ကိုးကွ။ သေလိုက်ပါတော့ကွာ။ ကံကောင်းလို့ လူမှားတော့မလို့။ နေစမ်းပါဦး။ မင်းက ခု ဘယ်က ပြန်လာတာလဲ"

"မမေးစမ်းပါနဲ့ဗျာ။ ကျွန်တော့တစ်သက်မှာ ဒီလိုစော်ကားတာမျိုး တစ်ခါမှ မခံခဲ့ရဖူးဘူး"

"ဘယ်သူက စော်ကားလိုက်လို့လဲ။ဘာသောက် ဂရုစိုက်ရမှာလဲ။ ပြောစမ်း။ မင်းကို ဘယ်သူစော်ကားလွှတ်လိုက်သလဲ။ ငါလိုက်ချမယ်။ ဟော၊ ဒီနားတစ်ဝိုက်က လမ်းမှတန်း သုံးလမ်းနဲ့ လမ်းကြားခြောက်ခုမှာ ဘယ်သူ့ကိုမှ ဗိုလ်မထားဘူးကွ။ နီအဲတဲ့။ တစ်ယောက်တည်းရှိတယ်။





ယစ်ထုပ်စိန်ဆိုယင် လူတိုင်းသိတယ်။ ယစ်ထုပ်စိန်ကြီးရဲ့ အိမ်နီးနားချင်းကို ဘယ်သူစော်ကားသလဲ။ ပြောစမ်း။ စော်ကားတဲ့ကောင် မယားမုဆိုးမဖြစ်ပြီး အိမ် ပြာပုံဖြစ်စေရမယ်။ ဘယ်လိုကောင်မျိုး အေးစက်မေ့နေသလဲ"

"နေပါဦး ဦးလေးစိန်ကြီးရယ်။ ဒီလောက်လဲ ဒေါသမကြီးပါနဲ့ဦး။ ကျွန်တော်ပြောပြပါဦးမယ်"ဟု ဆိုကာ ကျိယွန်က သူ့ဦးလေးလင်မယားက သူ့အား မည်သို့မည်ပုံ ပြောဆိုလွှတ်လိုက်ကြောင်းကို ပြောပြ၏။

နီအဲခေါ် ယစ်ထုပ်စိန်ကြီးမှာ အကြီးအကျယ် ဒေါပွလျက်ရှိလေပြီ။

"ဟင်း၊ မင်းဦးလေးဖြစ်နေလို့ပေါ့ကွာ။ နို့မို့ယင် ဘယ်သက်သာမလဲ။ သောက်အလားကောင်တွေ။ နေပေ့စေ။ သူတို့မချေးယင် ငါချေးမယ်။ ငါ့မှာ ငွေစနည်းနည်း ပါလာတယ်။ ရော့၊ လိုယင်ငါ့ဆီက ယူသွား။ အဲ တစ်ခုတော့ရှိတယ်။ ငါတို့ အိမ်နီးနားချင်း နေလာခဲ့ကြတာ ကြာလှပြီ။ ငါ ငွေတိုးပေးစားနေတာ လူတိုင်းသိတယ်။ ဒါပေမယ့် မင်းတို့အနေနဲ့ ငါ့ဆီကိုလာပြီး တစ်ခါမှ မချေးခဲ့ဖူးဘူး။ ဘာဖြစ်လို့ မချေးခဲ့သလဲ။ ငါဟာ ဆူဆူညံညံလုပ်တတ်တဲ့ကောင်မို့လို့ မပတ်သက်ချင်ဘဲ အေးအေးဆေးဆေး နေချင်လို့လား၊ ဒါမှမဟုတ် ငါယူတဲ့အတိုးက များလို့လား။ ဘာဖြစ်လို့လဲဆိုတာတော့ ငါမသိဘူး။ ဒီတော့ ငါပြောလိုက်မယ်။ မင်းအနေနဲ့ ဒီလိုထင်တယ်ဆိုယင် ခုပိုက်ဆံအတွက် ငါ့ကို အတိုးတစ်ပြားမှ မပေးနဲ့။ ဒီအတိုင်းယူထား။ လက်မှတ်တောင် ထိုးမထားနဲ့။ အလွတ်ယူ။ ဒါ မင်းကြိုက်မှချေးနော်။ ငါ့ဆီကငွေချေးရလို့ မျက်နှာငယ်တယ်၊ အောက်ကျနောက်ကျ ဖြစ်တယ်လို့ထင်ယင် မယူနဲ့။ မင့်သဘော။ ကိုယ့်ထမင်းကိုယ်စားပြီး ကိုယ့်လမ်းကိုယ်သွားနေတဲ့ လူချည်းပဲ"

ထိုသို့ ပြောပြီးနောက် ယစ်ထုပ်စိန်ကြီးသည် ပြောပြောဆိုဆိုဖြင့် သူ့အိတ်မှ ငွေစအချို့ကို ထုတ်ပေးလေ၏။

"အင်း၊ စိန်ကြီးဆိုတဲ့လူဟာ လူဆိုးတစ်ယောက် ဖြစ်ချင်ဖြစ်မယ်။ ဒါပေမယ့် နှမြောတွန့်တိုခြင်း မရှိဘူး။ ရက်ရောတယ်။ ပြီးတော့ အရေးတကြီးကြုံယင် ကိုယ့်မိတ်ဆွေ အပေါင်းအသင်းဘက်က ရဲရဲဝံ့ဝံ့ရပ်တယ်။ သူက လိုလိုချင်ချင် ထုတ်ချေးတဲ့ပိုက်ဆံကို ငါမယူယင် စိတ်မကောင်းဖြစ်တော့မယ်။ ငါ့ကို ထစ်မျိုးထင်တော့မယ်။ ဟုတ်တယ်။ ငါယူလိုက်မယ်။ ပြီးတော့ သူ့ကို နှစ်ဆပြန်ပေးမယ်"ဟု ကျိယွန်တွေးလျက် ရှိသည်။

ကျိယွန်က

"ဦးလေးစိန်ကြီး စိတ်ကောင်းရှိတာကို ကျွန်တော်သိပါတယ်ဗျာ။ ဒါကြောင့် ဦးလေးစိန်ကြီးဆီကိုလာပြီး ချေးမယ်လို့တော့ စိတ်ကူးမိပါသေးရဲ့။ ဒါပေမယ့် ဦးလေးရဲ့ မိတ်ဆွေအပေါင်းအသင်းတွေက လူကုံထံတွေ၊ ကြေးရတတ်တွေ။ ကျွန်တော်တို့က မျက်နှာမွဲတွေ။ ဒါ့ကြောင့်မို့ ကျွန်တော်တို့လိုဟာမျိုးကိုတော့ ချေးမှာမဟုတ်ဘူး ဆိုပြီး မလာတော့တာ။ ခု ဦးလေးစိန်ကြီးက ကျွန်တော်ထင်သလို မဟုတ်ဘဲ ရက်ရက်ရောရော ချေးတော့ ကျွန်တော် မငြင်းရက်ဘူးဗျာ။ အိမ်ပြန်ရောက်ယင် ငွေချေးတဲ့ စာချုပ်ကို လက်မှတ်ထိုးပြီး ပို့လိုက်ပါ့မယ်"

ယစ်ထုပ်စိန်ကြီးသည် တဟားဟားရယ်လိုက်လျက်

"ဟော့ကောင် အပိုတွေပြောမနေနဲ့။ မကြားချင်ဘူး။ မင်းပြောတဲ့အတိုင်း တို့နှစ်ယောက်ဟာ မိတ်ဆွေဆိုယင် အတိုးယူလို့ကောင်းမလားကွ။ အတိုးယူတာဟာ မိတ်ဆွေရဲ့ အပြုအမူလား။ တော်ပြီကွာ။ ဒီအကြောင်းကို မပြောနဲ့တော့။ မင်းငါ့ကို ငွေတိုးချေးစားတဲ့လူဆိုပြီး အထင်မှားသေးဘူး မဟုတ်လား။ ရော့ငွေ။ သိပ်တော့ မများဘူးကွ။ ပါတာကိုပေးရတာ။ ဆယ့်ငါးကျပ်သား ကျော်ကျော်လောက် ရှိမယ်။ ငါ့ကို ငွေချေးတဲ့လက်မှတ်တွေဘာတွေ ထိုးပေးမနေနဲ့။ စာချုပ်တွေဘာတွေ လုပ်နေမှတော့ မင်းကိုချေးပါ့မလား။ တခြားလူကိုပဲ အတိုးနဲ့ ချေးတော့မှာပေါ့"

ကျိယွန်က ငွေစများကို လှမ်းယူလိုက်ရာ





"ကောင်းပါပြီဗျာ။ ကျွန်တော် ခင်ဗျားဆီကို စာချုပ် လက်မှတ်ထိုး မပို့တော့ပါဘူး။ ကဲ စိတ်မဆိုးနဲ့နော်"

ဒီအခါ ယစ်ထုပ်စိန်ကြီးသည် ရယ်လိုက်လျက်

"ဘာဖြစ်လို့ စိတ်ဆိုးရမှာလဲကွ။ မှောင်သွားလို့ကွာ။ မမှောင်ယင် မင့်ကို ငါ အရက်ဆလေးဘာလေး တိုက်လိုက်ချင်သေးတယ်။ ငါ့မှာ ကိစ္စကလေးတွေလဲ ရှိသေးတယ်။ ဒီတော့ မင်းပြန်တော့။ အိမ်ရောက်ယင်သာ ဒီည ငါ့ကိုစောင့်မနေကြနဲ့၊ တံခါးကို စောစောပိတ်ပြီးအိပ်ကြ၊ ငါ ပြန်မလာဘူးလို့ ပြောလိုက်စမ်းပါ။ ဒုက္ခပေးတယ်လို့ မအောက်မေ့နဲ့။ အရေးတကြီး ကိစ္စရှိယင် ငါ့သမီးကို လွှတ်လိုက်လို့ပြော။ ငါ ဒီနေ့ည မြင်းကုန်သည် ဂျပု ဝမ်အိမ်မှာ အိပ်မယ်လို့"

ယစ်ထုပ်စိန်ကြီးသည် ယိုင်တီးယိုင်တိုင်ဖြင့် ထွက်သွား၏။

ကျိယွန်သည် အချောင်ရလိုက်သည့် ငွေစများကို လက်တွင် ဆုပ်ကိုင်ထားရာမှ

"ယစ်ထုပ်စိန်ကြီးဆိုတဲ့လူက လူတစ်မျိုးရယ်။ ငါ့ကို အရက်ကလေးဘာလေးတိုက်သွားယင် ဘယ်လောက်ကောင်းလိုက်မလဲ။ ပြီးတော့ ခုသာကောင်းပြီကောင်းရဲ့နဲ့။ မနက်ဖြန်ကျယင် နှစ်ဆပြန်ဆိုအတိုးပေးရမယ်လို့ ပြောလာယင် ဘယ့်နှယ့်လုပ်မလဲ။ အို ဘာပဲဖြစ်ဖြစ်။ နောင်ခါလာ နောင်ခါချေးပေါ့။ အလုပ်အကိုင်ကလေးရယင် ငါလဲ သူ့ပိုက်ဆံကို ပြန်ပေးနိုင်မှာပါ"ဟု စိတ်နှလုံးကို တုံးတုံးချလိုက်၏။

ကျိယွန်သည် ငွေစများကိုကိုင်လျက် အနီးရှိ ငွေဆိုင်တစ်ဆိုင်သို့ သွား၍ချိန်ကြည့်ရာ ယစ်ထုပ်စိန်ကြီး ပြောသည့်အတိုင်း ဆယ့်ငါးကျပ်သားနှင့် သုံးဆယ့်လေးပဲသား ရှိသည်ကိုတွေ့ရ၏။ ကျိယွန်သည်အိမ်သို့ မပြန်သေးဘဲ ယစ်ထုပ်စိန်ကြီး အိမ်သို့သွား၍ သူမှာလိုက်သည့်စကားကို သွားပြော၏။ အိမ်သို့ ပြန်ရောက်သည့်အခါ၌ ခုတင်မီးဖိုပေါ်တွင် ထည်းလုံးရစ်နေသော သူ့အမေကိုတွေ့ရ၏။ သူ့အမေက တစ်နေ့လုံး ဘယ်ပျောက်နေသနည်းဟု မေးသည့်အခါတွင် စိတ်မကောင်းဖြစ်မည်စိုးသည့်အတွက် သူ့အစ်ကိုထံသွား၍ ပိုက်ဆံချေးသည့် အကြောင်းကို မပြောတော့ချေ။

"အနောက်ဘက်စံအိမ်ကြီးက ဦးလေးကျိလျှံကို သွားစောင့်နေတာအမေရဲ့။ အမေကော ထမင်းစားပြီးပလား"

"အမေတော့ပြီးပြီ။ မင်းဖို့ချန်ထားတယ်"

အမေသည် အိမ်စေတစ်ယောက်အား ထမင်း ခူးခိုင်းလိုက်၏။ မီးထွန်းချိန် ရောက်နေလေပြီ။ ထမင်း စားပြီးသည့် နောက်တွင် ကျိယွန်လည်း မောမောဖြင့် အိပ်ရာသို့ တန်းဝင်ခဲ့လေ၏။

နောက်တစ်နေ့ မနက်မိုးသောက်၍ အိပ်ရာမှထ၊ အဝတ်အစားလဲပြီးသည်နှင့် ကျိယွန်သည် မြို့တောင်တံခါးရှိ နံ့သာဆိုင်ကြီးတစ်ဆိုင်သို့သွားကာ ပရုပ်နှင့်ဇာတိုးတို့ကို ဝယ်ပြီးနောက် ယွန်းစံအိမ်ကြီးသို့လာခဲ့၏။ စံအိမ်တွင် ကျိလျှံရှိမရှိ သေချာအောင် စုံစမ်းပြီးသည့် အခါတွင် ကျိယွန်သည် ကျိလျှံကိုနောက်ဖေးကွက်လပ် တလင်းပြင်သို့လာခဲ့၏။ တလင်းထဲ၌ သူငယ်တော်အချို့သည် မတ်တတ်တံမြက်စည်းကြီးများဖြင့် အမှိုက်လှည်းလျက်ရှိကြ၏။ ထိုစဉ် ချူယွှီ၏မိန်းမသည် ထွက်လာကာ

"ကောင်လေးတွေ။ အမှိုက်လှည်းတာ မပြီးကြသေးဘူးလား။ တော်တော့၊ ငှက်မယ်သခင်မလေး လာနေပြီ"

ကျိယွန်သည် အနားသို့ကပ်လာကာ

"အကြီးရေ၊ ငှက်မယ် သခင်မလေးက ဘယ်သွားမလို့တုံး" ဟု မေး၏။

"မယ်မယ့်အဆောင်ကို သွားမှာပေါ့။ အင်္ကျီကိုက်ခိုင်းမလို့ထင်ပါရဲ့"

ထိုစဉ်တွင် နတ်ငှက်မယ်သည် နောက်လိုက် နောက်ပါများနှင့် အတူ အဆောင်ထဲမှ ထွက်လာသည်ကို မြင်ရ၏။ နတ်ငှက်မယ်သည် အမြောက် ကြိုက်ရှိမျှမက အဆောင်အယောင်၊ အခမ်းအနားတို့ကိုလည်း အလွန်ကြိုက်တတ်သူ ဖြစ်သည်ကိုသိသည့်အတွက် ကျိယွန်သည် ရှေ့သို့တိုးလာကာ ဦးညွှတ်နှုတ်ဆက်ပြီးနောက် သူ့ဒေါ်လေး သုံးလ ဝမ်းကွဲတော်သည့် နတ်ငှက်မယ်သခင်မလေး၏ ကျန်းမာရေးကို မေးမြန်းစုံစမ်း၏။





သို့ရာတွင် နတ်ငှက်မယ်ကမူ သူ့ကိုလှမ်း၍မျှပင် မကြည့်လိုက်ဘဲ ဆက်လက်၍လျှောက်သွားရင်းက သူ့မိခင်၏ ကျန်းမာရေးနှင့် စံအိမ်သို့ အဘယ်ကြောင့် လာရောက်ခြင်းမပြုကြောင်းကို မေးမြန်း၏။

"အမေက ကောင်းကောင်း နေမကောင်းဘူး ဒေါ်လေး။ ဒေါ်လေးကိုတော့ သတိရပါတယ်။ လာလဲလာချင်ပါတယ်။ ဒါပေမယ့် အပြင်ကိုထွက်လို့မရလို့"

နတ်ငှက်မယ်က ရယ်လိုက်၏။

"နင် ငါ့ကို ညာမနေစမ်းပါနဲ့ဟယ်။ ဒီစကားက ငါမေးမှ ပြောတာမဟုတ်လား"

"ကျွန်တော်မလိမ်ပါဘူး ဒေါ်လေးရယ်။ လိမ်တယ် ဆိုယင် မိုးကြိုးကြိုးပစ်ရပါစေရဲ့။ ဒေါ်လေးအကြောင်းကို မနေ့ကတွင် ပြောနေပါသေးတယ်။ နင့်ဒေါ်လေးက ကြည့်တော့သာနုနုနယ်နယ်ကလေး ရယ်တဲ့။ ဒါပေမယ့် အိမ်ကြီးတစ်အိမ်လုံးရဲ့ကိစ္စတွေကို သူပဲ စီမံ အုပ်ချုပ်နေရတာပဲတဲ့။ ဒီလောက်များတဲ့ ကိစ္စတွေကို သူပဲမှမောမပန်းလုပ်နိုင်တယ်တဲ့။ တော်တော့်လူဆိုယင် မောတာနဲ့ သေရချည်ရဲ့တဲ့"

နတ်ငှက်မယ်သည် ထိုစကားကို ကြားလျှင် တစ်မျက်နှာလုံးဝင်းထိန်သွားအောင် ပြုံးလိုက်ပြီးနောက် ရပ်တန့်လိုက်ကာ

"ကြည့်စမ်း၊ ကြည့်စမ်း၊ ဒါဖြင့် မင်းတို့သားအမိ ကွယ်ရာမှာ ငါ့အတင်းကို ပြောနေကြတာပေါ့လေ ဟုတ်လား"

"စကားစပ်မိသွားကြလို့ပါ ဒေါ်လေးရဲ့။ ကျွန်တော်တို့ရဲ့မိတ်ဆွေတစ်ယောက်က အယင်တုန်းက နံ့သာဆိုင်ကလေး တစ်ဆိုင် ပိုင်တယ် ဒေါ်လေးရဲ့။ ခု သူက ယူနန်နယ်က မြို့ပိုင်နေရာကလေး တစ်နေရာဝယ်လိုက်တော့ အဲဒီကို တစ်အိမ်လုံး ပြောင်းကြရမှာ။ ဒါနဲ့ သူတို့နံ့သာဆိုင်ကိုပိတ်လိုက်တယ်။ ပိတ်လိုက်တော့ တချို့ကို ပေးပစ်လိုက်တယ်။ ဝပ်ပေါပေါပစ္စည်းတွေကို ရောင်းလိုက်တယ်။ ရှားပါးတဲ့အဖိုးတန် နံ့သာတွေကိုတော့ မိတ်ဆွေ ရောင်းရင်းတွေနဲ့ ဆွေမျိုးတွေကို လက်ဆောင်ပေးတယ်။ ကျွန်တော့်မှာ စူမတြာပရုပ်တွေနဲ့ ဇာတိုးတွေ ရလိုက်တယ်။ အစတုန်းကတော့ ရောင်းလိုက်မယ်လို့ စိတ်ကူးမိပါ

သေးရဲ့။ ဒါပေမယ့် ဒေါ်လေးရယ်၊ တော်တော့်လူက ဒီလောက် အဖိုးတန်ကြီးတွေကို ဘယ်မှာ ဝယ်ပြီး သုံးနိုင်ပါ့မလဲ။ အင်မတန် ချမ်းသာပါတယ်ဆိုတဲ့လူတွေတောင် သုံးနိုင်ယင် နည်းနည်းပါးပါး လောက်ပဲ သုံးနိုင်မှာပေါ့။ တကယ်လို့ ကျွန်တော်တို့က လက်ဆောင် ပေးတယ်ဆိုတောင်မှ ဘယ်သူက ဒါတွေကိုသုံးမှာလဲ။ ပြန်ပြီး ရောင်း စားကြမှာပေါ့။ ဒီမှာတင် ဒေါ်လေးကတော့ ဒီလို နံ့သာမျိုးဆိုယင် သိပ်ကြိုက်တတ်တာပဲ၊ ဟိုတုန်းကဆိုယင် ဒေါ်လေးမှာ နံ့သာဖိုးတော ချည်း မနည်းကုန်တာကို သွားပြီး အမှတ်ရကြတယ်။ ဒီနှစ်ဆိုယင် ပိုကုန်မှာပေါ့။ ရွှေနန်းတော်ကြီးက ထိပ်ထားဆီကိုလဲ မကြာမကြာ အခစားဝင်ရတယ်၊ ပြီးတော့ နဂါးလှေပွဲကလဲ ကပ်နေပြီဆိုတော့ ဒေါ်လေးမှာ နံ့သာဖိုး တော်တော်ကုန်မှာပဲလို့ သွားပြီး သတိရကြ တယ်။ ဒီတော့ ကိုယ့်မှာလဲ ဒါတွေသုံးလို့မကုန်နိုင်အောင် ရှိနေတော့ ဒေါ်လေးကို လက်ဆောင်ပေးရယင် အကောင်းဆုံးပဲဆိုတာကျွန်တော် တို့ သွားအမှတ်ရကြတယ်။ ကျွန်တော်တို့မှာလဲ အလကား မဖြစ်တော့ ဘူးပေါ့”

ကျိယွန်သည် ဖဲ့စဖြင့်ထုပ်ထားသည့် နံ့သာသေတ္တာကလေးကို လှပ်ပြကာ လက်နှစ်ဖက်ဖြင့်ကိုင်၍ တရိုတသေပေး၏။

နတ်ငှက်မယ်မှာ နဂါးလှေပွဲတော်တွင် လက်ဆောင်များပေး ရန်အတွက် နံ့သာ အမွှေးအကြိုင်များနှင့် ဆေးမွှေးများ ဝယ်ရည့် ဆဲဆဲဖြစ်သည့်အလျောက် ယခုကဲ့သို့ မှမျှော်လင့်သည့် လက်ဆောင်ကို ရလိုက်သည့်အပြင် ကျိယွန်၏ စကားများကြောင့်လည်း အကြီးအကျယ် ဝမ်းသာသွား၏။ ဖုန်အဲဘက်သို့လှည့်ကာ

“ဖုန်အဲရေ၊ ရော့ ငါ့တူတော်မောင်ကပေးတဲ့ လက်ဆောင်ကို ပင်အဲကိုသွားပေးပြီး အသိမ်း ခိုင်းချည်စမ်း”ဟု ခိုင်းလိုက်ပြီးနောက် တစ်ဆက်တည်းမှာပင် ကျိယွန်ဘက်သို့ ပြန်လှည့်လိုက်ကာ

“ငါ့တူက အလိုက်သိတာပဲ။ ဒါကြောင့် မင့်ဦးလေးက ခဏ ခဏပြောတာ။ စကားပြောလဲ ကောင်းတယ်တဲ့။ အကင်းလဲ ပါး တယ်တဲ့”





ထိုမျှလောက်ဆိုလျှင် သူ့အတွက် အခြေအနေ ကောင်းပြီဟု ကျိယွန် သဘောပေါက်လိုက်လေပြီ။ ထို့ကြောင့်ကျိယွန်သည် အနီးသို့ တိုးလာကာ

“ဦးလေးက ကျွန်တော့်အကြောင်း ဘာမျှများပြောသေးသလဲ ဒေါ်လေး”ဟု တိုက်ရိုက်ကြီး မေးချလိုက်၏။

နတ်ငှက်မယ်သည် သူ့အတွက် မဟာနန္ဒာ ဥယျာဉ်ကြပ်အဖြစ် ခန့်ရန်စိတ်ကူးထားကြောင်းပြောလိုက်မည်ဟုစိတ်ကူးမိသေးသော်လည်း ယခုအချိန်တွင်ပြောလိုက်လျှင် သူ့ နံ့သာလက်ဆောင်များကို ရသည့် အတွက် ဤသို့လုပ်ပေးခြင်းဖြစ်သည်ဟု ထင်မှည်စိုးသဖြင့် ထိုအကြောင်း ကိုမပြောတော့ဘဲ ထားလိုက်၏။ နတ်ငှက်မယ်သည် ကျိယွန်နှင့်စကား ပြောဆိုပြီးနောက် မယ်မယ်ထံသို့ ထွက်လာခဲ့၏။ ကျိယွန်မှာ ထို အကြောင်းကို တစ်လုံးမျှ မပြောလိုက်ရဘဲ အိမ်သို့ ပြန်လာခဲ့ရလေ၏။

ပေါက်ယုသည် သူ့ စာကြည့်ဆောင်သို့ လာရန် ယမန်နေ့က ဖိတ်ခေါ်ခဲ့သည့်အတွက် ကျိယွန်သည် ထမင်း စားသောက်ပြီးနောက် မယ်မယ်၏ အဆောင်များဘက်သို့သွားသည့် ပွဲတော်ဝင်တံခါး အပြင် ဘက်ရှိ တိမ်ပန်းချီဆောင်သို့ လာခဲ့၏။ အဆောင် အပြင်ဘက်တွင် သူငယ်တော်ပေ့မင်းနှင့်ချူယောင်တို့သည် စစ်တုရင်ကစားရင်း ငြင်းခုံ လျက်ရှိကြပြီး တခြား သူငယ်တော် လေးယောက်ဖြစ်သည့် ရင်ချွမ်း၊ ရှုစကဲ့ဟွာ၊ ထရောင်ယွန်းနှင့် ဖုန့်ဟဲတို့မှာ အမိုးပေါ်သို့ တက်ပြီး ငှက်သိုက်နှိုက်နေကြ၏။ ဝင်းထဲသို့အရောက်တွင် ကျိယွန်က ခြေထောက် ကို ပေပြင်းပြင်း ဆောင့်လိုက်ပြီးနောက်

“ဟေ့ကောင်တွေ ဆော့နေကြပြန်ပလား။ ညှော်သည်လာတာ တောင် မမြင်တော့ဘူးလား”

ထိုအသံကြောင့် သူငယ်တော်များအားလုံးသည် ထွက်ပြေးကြ လေ၏။ ကျိယွန်လည်း စာကြည့်ဆောင်ထဲသို့ ဝင်လာခဲ့၏။

“ဒီနေ့ ဒီကို သခင်လေးပေါက်ယု လာသလား”

“မလာဘူးခင်ဗျ။ အစ်ကိုတွေ့ချင်တယ်ဆိုယင်တော့ ကျွန်တော် လိုက်ရှာပေးမယ်” ဟု ဆိုကာ ပေ့မင်းသည် အပြင်သို့ ထွက်သွား၏။

သူတစ်ယောက်တည်း ကျန်ခဲ့၍ ထမင်း တစ်ဝိုင်းစားလောက် ကြာသည့်အချိန်အတွင်း၌ ကျွန်ုပ်သည် ခန်းဆောင်ထဲတွင်လျှောက်ကာ လက်ရေး ပန်းချီများ၊ ပန်းချီကားများနှင့် ရှေးဟောင်း အလှအပ ပစ္စည်းများကို ကြည့်နေ၏။ ပေ့မင်းမှာ ရုတ်တရက် ပြန်မလာနိုင် သဖြင့် ကျွန်ုပ်သည် အခြားသူငယ်တော်များကို ရှာကြည့်၏။ သို့ရာ တွင် ၎င်းတို့မှာလည်း ကစားလျက်ရှိသည့်အတွက် တစ်ယောက်မျှမတွေ့ ရချေ။ ကျွန်ုပ်တစ်ယောက်တည်း ပျင်းရိငြီးငွေ့လျက်ရှိစဉ် "အစ်ကို" ဟူသော သာယာချိုမြသော အသံတစ်သံကို ကြားလိုက်ရသဖြင့် လှည့် ကြည့်လိုက်ရာ အသက် ဆယ့်ခြောက်နှစ်၊ ဆယ့်ခုနစ်နှစ် လောက်မျှသာ ရှိပြီး အရပ်မြင့်မြင့်၊ သွယ်သွယ်နွဲ့နွဲ့နှင့် ချောမောလှပ၍ အကင်းပါး ဟန်ရှိသော မိန်းမပျိုကလေးတစ်ယောက်ကို တွေ့ရ၏။ ပေ့မင်းပြန်လာ သည်ကို မြင်သည့်အခါ၌ ထိုမိန်းမပျိုသည် ခပ်သုတ်သုတ်ထွက်သွား၏။

"အတော်ပဲ၊ ငါလဲ တစ်ယောက်ယောက်ကို အပြောခိုင်းမလို့ မျှော်နေတာ"

ကျွန်ုပ်သည် ပေ့မင်းထံသို့ လျှောက်လာခဲ့လေ၏။

"ကျွန်တော်လဲ သခင်လေးတို့ အဆောင်ရှေ့ကို သွားစောင့်နေ တာခင်ဗျ။ ဘယ်သူမှထွက်မလာဘူး။ ဟောဒီအစ်မလေးက နီမောင်း ပျော်ဖွယ် အဆောင်ဘက်ကပဲဟုဆိုကာ ပေ့မင်းသည် မိန်းမပျိုဘက်သို့ လှည့်လိုက်ပြီးလျှင်

"အစ်မလေးရာ။ သခင်လေးဆီကို သွားပေးပါလား။ နောက် ဘက်လမ်းသွယ်က အစ်ကိုလေးကျွန်ုပ်လာတယ်လို့ ပြောပေးပါလား"

ကျွန်ုပ်သည် သူတို့သခင်၏ ဆွေမျိုးထဲကမှန်း သိသည့်အခါ၌ အစေတော်သည် စောစောတုန်းကလို ခပ်ရှောင်ရှောင် လုပ်မနေတော့ ဘဲ တစ်ချက်နှစ်ချက်မျှ လှမ်းကြည့်လိုက်၏။

ကျွန်ုပ်က နောက်သလို ပြောင်သလိုဖြင့်

"နောက်လမ်းသွယ်ကတွေ ဘာတွေ ပြောမနေပါနဲ့။ ကျွန်ုပ် လာတယ်လို့သာ ပြောလိုက်ပါ"

အစေတော်သူငယ်မလေးသည် ခပ်ယဲ့ယဲ့ပြုံး၏။





"အရေးမကြီးယင် မနက်ဖြန်မှ လာတွေ့ပါလားရှင်။ ကျွန်မ ဒီနေ့ညနေမှာ အခွင့်သာယင် ပြောထားလိုက်ပါ့မယ်"

"ဘာဖြစ်လို့လဲ။ ခု ပြောမပေးနိုင်ဘူးလား" ဟု ပေ့မင်းက မေး၏။

"သခင်လေးက ဒီနေ့ နေ့လယ်က မအိပ်ဘူးရှင့်။ ဒီတော့ ညစာ ကို စောစောစားပြီး အိပ်မယ်ထင်တယ်။ ဒီနေ့ည ဒီကိုလာချင်မှ လာ တော့မှာ။ မသေချာယင် ဘာဖြစ်လို့ ဒီကအစ်ကိုလေးကို စောင့်ခိုင်း ထားဦးမှာလဲ။ ဒီကောင်းဆုံးက ထမင်းမစားရသေးယင် အိမ်ပြန်ပြီး ထမင်းစား၊ မနက်ဖြန်ကျမှ အေးအေးဆေးဆေးလာတာ အကောင်း ဆုံးပဲ။ ခုနေ တစ်ယောက်ယောက်ကို သွားပြောမပေးပါဆိုယင်လဲ ပြော ချင်မှ ပြောမှာ"

ထိုမိန်းမပျို စကားပြောပုံမှာ တိကျပြတ်သားလှသည့်အတွက် ကျွန်ုပ်သည် သဘောကျသွားကာ မိန်းမပျို၏ အမည်ကို မေးမည် စိတ်ကူးသေး၏။ သို့ရာတွင် ထိုမိန်းမပျိုမှာ ပေါက်ယု၏ အစေတော် ထဲမှ တစ်ယောက်ယောက် ဖြစ်လိမ့်မည်ဟု တွက်လိုက်သဖြင့် မမေးဖြစ် တော့ချေ။

"ကောင်းပြီလေ။ ဒီလိုဆိုယင်လဲ မနက်ဖြန်မှ လာခဲ့တော့မယ်"

မပြန်ခင် ပေ့မင်းက လက်ဖက်ရည်သောက်သွားရန် ပြော၏။

"တော်ပါပြီကွာ။ ကျေးဇူးတင်ပါတယ်။ ငါ့မှာ ကိစ္စလေး ရှိသေးလို့"

ကျွန်ုပ်သည် ထွက်လာခဲ့ရာမှ ခပ်လှမ်းလှမ်းသို့ အရောက်တွင် ကျန်ရစ်ခဲ့သည့် မိန်းမပျိုကို နောက်တစ်ဖန် လှည့်ကြည့်မိ၏။ ထို့နောက် အိမ်သို့ ပြန်ခဲ့လေ၏။

နောက်တစ်နေ့တွင် ကျွန်ုပ်သည် ယွန်းစံအိမ်ကြီးဆီသို့ လာခဲ့ ပြန်၏။ အလယ်တံခါးမကြီး ရှေ့တွင် မယ်မယ်တို့အား ကန်တော့ရန် ထွက်လာသည့် နတ်ငှက်မယ်ကို တွေ့ရ၏။ နတ်ငှက်မယ်သည် ရထား

ပေါ်မှနေ၍ ကျိယွန်လာနေသည်ကို မြင်လိုက်သည့်အခါတွင် လက်ပါ စေတစ်ယောက်ကို ခေါ်၍ ကျိယွန်အား အရပ်ခိုင်းပြီးလျှင် ရထား မြီတင်းဝမှနေ၍ ပြုံးလျက်

"ကြည့်စမ်း၊ ကျိယွန်။ မင်း ဒေါ်လေးကို တစ်ပတ်ရိုက်တယ် ပေါ့ ဟုတ်လား။ ဒေါ်လေးကတော့ နံ့သာဘူးလက်ဆောင်ပေးတာ အဟုတ်ကြီးထင်လို့။ လက်စသတ်တော့ မင်းက မင်းအကြောင်းနဲ့မင်း ပေးတာကိုး။ မင်းလာသွားတယ်ဆိုတာ မင်းဦးလေးက ဒေါ်လေးကို ပြောပြီးပါပြီ"

ကျိယွန်က ပြုံးလိုက်လျက်

"တော်ပါတော့ ဒေါ်လေးရယ်။ ဒီအကြောင်းကို မပြောစမ်းပါနဲ့တော့။ ဦးလေးကို သွားပြောမိတာ ကျွန်တော့်မှာ စကားအဖတ် တင်ရှုံပဲရှိတယ်။ ဒေါ်လေးကိုသာ စောစောစီးစီး ဖွင့်ပြောလိုက်ယင် ခုလောက်ဆို ကိစ္စပြီးနေရော့မယ်။ ဦးလေးဆီကို ပြောရတာ မဟန် ပါဘူး"

နတ်ငှက်မယ်က ရယ်လိုက်၏။

"သိပါတယ်။ ခု မင်းဦးလေးပြောလို့ ဟန်ပုံမရတော့ ဒေါ်လေးဆီကို လာတာပေါ့ ဟုတ်လား"

"ဒီလိုလဲ မဟုတ်ပါဘူး ဒေါ်လေးရယ်။ ဒီလိုသဘောထား မရှိ ပါဘူး။ ဒီကိစ္စအတွက်သာ လာတယ်ဆိုယင် ဒေါ်လေးကို ကျွန်တော် မနေ့က တစ်ခါတည်း ဖွင့်ပြောမှာပေါ့။ ခုတော့ ဒေါ်လေးလဲ သိနေ ပြီဆိုတော့ မထူးတော့ပါဘူး။ ဦးလေးကိုကျော်ပြီး ဒေါ်လေးကိုပဲ ပြောရတော့မှာပေါ့။ ဒေါ်လေး ကျွန်တော့်ကိစ္စလေးတွေကို ကြည့် လုပ်ပေးပါနော်"

နတ်ငှက်မယ်က လှောင်ပြုံးပြုံးလိုက်လျက်

"အမယ်လေး၊ ဒီလောက်တောင်သွယ်ဝိုက်ပြောမနေပါနဲ့ကွယ်။ မင်းကြည့်ပြီး ပင်ပန်းလှတယ်။ ဒေါ်လေးကိုသာ စောစောစီးစီးပြော ယင် ဒီလောက်ကိစ္စလေးက သာခက်တာ မှတ်လို့။ ဥယျာဉ်ထဲမှာ





ပန်းပင်အသစ်တွေနဲ့ နောက်ထပ်သစ်ပင်တွေ စိုက်ရမယ်။ အဲဒါကို ငါ့တူက ကြီးကြပ်ပေးရမှာပေါ့။ စောစောကသာ ပြောလိုက်ယင် ခုလောက်ဆို ကိစ္စပြီးနေလောက်ပြီ"

"ဒီလိုဆိုယင် ဒေါ်လေးရယ် ကျွန်တော်လုပ်ပါရစေလား"

နတ်ငှက်မယ်သည် အတန်ကြာမျှ တွေးနေ၏။

"မကောင်းပါဘူး ထင်ပါရဲ့ကွယ်။ နှစ်သစ် ကူးချိန်လောက် အထိ စောင့်လိုက်ပါလား။ အဲဒီအချိန်လောက်အထိ စောင့်ယင် ဒီထက် ကောင်းတဲ့အလုပ် ရနိုင်တာပေါ့။ အဲဒီအခါကျတော့ မင်းကို မီးရှူး မီးပန်းတွေနဲ့ မီးပုံးတွေဝယ်ဖို့ အဝယ်တော်တာဝန်ပေးမယ်"

"လောလောဆယ်မှာ ခုအလုပ်ကိုပဲ တာဝန်ပေးထားပါလား ဒေါ်လေးရယ်။ ဒီအလုပ်မှာ ကျေနပ်တော့မှ ကျွန်တော့်ကို နောက် အလုပ်ထပ်ပေးပေါ့။ ဘယ့်နှယ်လဲ"

နတ်ငှက်မယ်က ရယ်လိုက်လျက်

"ငါ့တူကလဲ အမြော်အမြင် တယ်ကြီးတာကိုး။ ကောင်းပြီလေ။ ပါပေမယ့် တစ်ခုတော့ပြောလိုက်မယ်နော်။ မင်းဦးလေးက မင်းအတွက် မထောက်ခံဘူးဆိုယင်တော့ ဒေါ်လေး လုပ်မပေးနိုင်ဘူး။ ခုတော့ ဒေါ်လေးအပြင်ထွက်မလို့။ မနက်စာစားချိန်သာသာဆိုယင် ပြန်ရောက် မယ်။ ဒီတော့ ငါ့တူလာပြီး ပိုက်ဆံထုတ်လှည့်။ အလုပ်ကတော့ သန်ဘက်ခါမှ ဆင်းတော့ပေါ့"

နတ်ငှက်မယ်သည် မြင်းရထားကို အမောင်းခိုင်းလိုက်ပြီး ထွက် သွား၏။

ကျိယွန်သည် ဝမ်းသာအားရဖြင့် တိမ်ပန်းချီဆောင်တွင် စာကြည့်နေသည့် ပေါက်ယုထံသို့ လာခဲ့၏။ သို့ရာတွင် စာကြည့်ဆောင်သို့ ရောက်သည့်အခါ၌ ပေါက်ယုကို မတွေ့ရတော့ချေ။ ယနေ့ နံနက် အစောကြီး ကတည်းကပင် ပေ့ကျင်း ကိုယ်တော်လေးကို တွေ့ဆုံရန် အတွက် အပြင်သို့ ထွက်သွားကြောင်းဖြင့် သိရ၏။ ကျိယွန်သည် ထိုနေ့ တစ်မနက်လုံး တိမ်ပန်းချီဆောင်တွင် ထိုင်လျက် ရှိလေရာ နတ်ငှက်မယ် ရောက်လာသည့် အခါတွင် ငွေရပြေစာကို ပေးပြီးနောက်

တာလီပြားကို ထုတ်ယူရန် ထွက်လာခဲ့၏။ ကျွန်ုပ်သည် ဝင်းအပြင်တွင် အကြာကြီးစောင့်ဆိုင်းနေ၏။ အစေခံတစ်ယောက်က ကျွန်ုပ်လာသည်ဟု ပြောသည့်အခါတွင်မှ တိုင်မင်းထွက်လာကာ သူ့ငွေရပြေစာကို ယူသွား၏။ ထုတ်ရမည့်ငွေ အရေအတွက်နှင့် နေ့စွဲကို ရေးသွင်းပြီးသည့်အခါတွင် သူငယ်တော်သည် ကျွန်ုပ်အတွက် တာလီပြားကိုလာပေး၏။ ပြေစာထဲတွင်ကြည့်လိုက်သည့်အခါ၌ ငွေနှစ်ပိဿာကို တွေ့ရသည့်အတွက် ဝမ်းသာသွားကာ ငွေတိုက်သို့ ထွက်လာခဲ့၏။ ထို့နောက် အိမ်သို့ပြန်လာခဲ့သည်တွင် မိခင်လုပ်သူမှာလည်း ဝမ်းမြောက်ဝမ်းသာ ဖြစ်လျက်ရှိ၏။

နောက်တစ်နေ့မနက်၌ ကျွန်ုပ်သည် နီအဲခေါ် ယစ်ထုပ်စိန်ကြီးထံသို့ လာကာ မနေ့ကချေးသွားသည့် အကြွေးကို ပြန်ပေးသည်တွင် ယစ်ထုပ်စိန်ကြီးကလည်း ကျွန်ုပ်တွင် ငွေကြေးတောင့်တင်းလျက်ရှိသည်ကို မြင်ရသည့်အတွက် သူ့အကြွေးကို ပြန်ယူလိုက်၏။

ထို့နောက် ကျွန်ုပ်သည် အနောက်တံခါးအပြင်ဘက်တွင် နေထိုင်သည့် ဥယျာဉ်မှူး ဖန်ချွန်းထံသို့သွားကာ သစ်ပင်ပန်းပင်များကို ငွေငါးဆယ်ဖိုး ဝယ်ခဲ့၏။

ပေါက်ယုအကြောင်းကို ပြန်ကောက်ကြဦးစို့။ ထိုနေ့က ပေါက်ယုသည် ကျွန်ုပ်အား သူ့ဆီသို့အလည်လာရန် ဖိတ်ခဲ့ခြင်းမှာ သခင်လေးတို့ထုံးစံအတိုင်း လွယ်လွယ်ပြောလိုက်ခြင်းမျှသာ ဖြစ်သည့်အလျောက် ပြောပြီးသည်နှင့်တစ်ပြိုင်နက် ထိုစကားကို မေ့သွားခဲ့လေပြီ။ ညနေပိုင်း၌ ပေ့ကျင်းကိုယ်တော်လေးဆီမှ ပြန်လာသည့်အခါ၌ ပေါက်ယုသည် မိမိနေထိုင်ရာဥယျာဉ်ရှိ အဆောင်များသို့ မပြန်မီ မယ်မယ်နှင့် သခင်မဝမ်ကို သွားရောက်နှုတ်ဆက်၏။ ထို့နောက် ဥယျာဉ်သို့ပြန်လာကာ နန်းတွင်းအဝတ်အစားတို့ကိုလဲပြီးလျှင် ရေချိုးရန် စောင့်ဆိုင်းလျက်ရှိ၏။

ထိုအချိန်၌ မာလာမှာ ပေါက်ကြည်ကခိုင်းသဖြင့် ပေါက်ကြည်၏ ဆံပင်ကို ကြယ်သီးဆုံး ထုံးပေးလျက်ရှိ၏။ ချူ့ဝမ်းနှင့် ပီတင်းတို့မှာ အစေခံများအား ရေဆွဲခိုင်းလျက်ရှိ၏။ အခြားအစေတော် တစ်





ယောက်ဖြစ်သည့် တန်ယွန်းမှာ အမေနေမကောင်းသည့်အတွက် အိမ်သို့ပြန်သွားပြီး ရှဲယွေ့မှာလည်း နေထိုင်မကောင်းသဖြင့် အိပ်ရာထဲတွင်လဲလျက်ရှိ၏။ အလုပ်ကြမ်းလုပ်ရသည့် အခြားအစေခံများမှာလည်း ယခုအချိန်တွင်သူတို့အတွက် အလုပ်ပါးသည်ထင်သဖြင့် မိတ်ဆွေများထံ သွားရောက်လည်ပတ်လျက်ရှိကြ၏။ သို့ဖြင့် ပေါက်ယုမှာ တစ်ယောက်တည်း ဖြစ်နေ၏။ ထိုအချိန်တွင် ပေါက်ယုသည် လက်ဖက်ရည်သောက်ချင်လာ၏။ ပေါက်ယုသည်အစေတော်များကို အော်ခေါ်သော်လည်း တစ်ယောက်မျှ ပေါ်မလာကြချေ။ နောက်ဆုံးတွင် အထိန်းတော် အဘွားကြီးနှစ်ယောက် သုံးယောက် ဝင်လာကြ၏။ ပေါက်ယုသည် ထိုအထိန်းတော်ကြီးများကိုလက်ပြ၍ နှင်ထုတ်လိုက်လေ၏။

"တော်ပြီ၊ အကြီးတို့ကိုခေါ်တာ မဟုတ်ဘူး"

ထို့ကြောင့် အဘွားကြီးများလည်း ကုပ်ကုပ် ကုပ်ကုပ်နှင့် ပြန်ထွက်သွားကြ၏။

အနီးတွင် အစေတော်မိန်းကလေးတွေ တစ်ယောက်မျှမရှိသည့်အတွက် ပေါက်ယုသည် သူကိုယ်တိုင် ဗန်းကိုကောက်ယူကာ လက်ဖက်ရည်အိုး သွား၍ယူလေ၏။

"သခင်လေး၊ အပူလောင်လိမ့်မယ်။ ကျွန်မ ယူပေးမယ်"ဟု ပြောသံကြားသဖြင့် နောက်သို့ လှည့်ကြည့်လိုက်သည်တွင် မိန်းမပျို တစ်ယောက် ပေါ်လာကာ သူ့လက်မှ လက်ဖက်ရည်ဗန်းကိုယူလိုက်၏။

ပေါက်ယုမှာ အလန့်တကြားဖြစ်သွားကာ

"ဟင်၊ ဘယ်ကပေါ်လာတာလဲ။ လန့်သွားတာပဲ"

မိန်းမပျိုက ပေါက်ယုကို လက်ဖက်ရည်တစ်ခွက် ငှဲ့ပေးလိုက်ပြီးလျှင်

"ကျွန်မ နောက်ဘက်ဝင်းထဲမှာ ရောက်နေတာပါ။ ကျွန်မ ဝင်လာတာကို သခင်လေး မကြားလိုက်ဘူး ထင်တယ်"

ပေါက်ယုသည် လက်ဖက်ရည်သောက်ရင်း သူ့ကို ရှိန်းရှိန်းစားစား ကြည့်လျက်ရှိ၏။ မိန်းမပျို၏ အဝတ်အစားတို့မှာ သစ်သစ်လွင်လွင်ကြီး မဟုတ်လှချေ။ သို့ရာတွင် စုလည်းထုံးထားသော လှပ

နက်မှောင်သည့် ဆံပင်၊ သွယ်လျသော မျက်နှာနှင့် အချိုးအဆစ် ပြေပြစ်၍ မြင့်သွယ်သည့် အရပ်အမောင်းတို့ကြောင့် လှပ၍ ချစ်စရာကောင်းသော မိန်းမပျိုတစ်ယောက်ဖြစ်သည်ကို တွေ့ရ၏။

''ဒီမှာ အလုပ်လုပ်သလား''ဟု ပေါက်ယုက ပြုံး၍မေးလိုက်၏။

''ဟုတ်ပါတယ်''

''ဒီလိုဆိုယင် ခင်ဗျားကို ကျွန်တော် တစ်ခါမှမမြင်ဖူးပါလား''

မိန်းမပျိုက ရယ်၍

''ဒီစံအိမ်လေးမှာ သခင်လေး မမြင်ဖူးတဲ့ အစေတော်တွေ အများကြီး ရှိတယ်ရှင့်။ ကျွန်မက အဲဒီထဲက တစ်ယောက်ပါ။ ကျွန်မကို သခင်လေး ဘယ်နှယ်လုပ်သိနိုင်ပါ့မလဲ။ ကျွန်မက သခင်လေးအနားမှာ ပြုစုစောင့်ရှောက်ရတဲ့လူလဲ မဟုတ်ဘူး။ သခင်လေးအနားမှာ အခိုင်းအစေခံရသူလဲ မဟုတ်ဘူး''

''ဘာဖြစ်လို့လဲ''

''မပြောတတ်ဘူးလေ။ ခုလာတဲ့ကိစ္စကတော့ သခင်လေးကို ဆတင်းပို့စရာ ရှိလို့ပါ။ မနေ့က ကျိယွန်ဆိုတဲ့ အစ်ကိုလေးတစ်ယောက် သခင်လေးကို လာရှာပါတယ်။ ကျွန်မ သခင်လေး အလုပ်များနေတယ် ထင်တာနဲ့ မနက်ဖြန်မနက်မှလာပါလို့ ပေ့မင်းကို အပြောခိုင်းလိုက်တယ်။ ဒါပေမယ့် အဲဒီအချိန်တုန်းက သခင်လေးက ပေ့ကျင်းကိုယ်တော်လေးဆီကို အဖူးမြော်ဝင်နေတယ် မဟုတ်လား''

ထိုအချိန်တွင် အစေတော်နှစ်ယောက်ဖြစ်သည့် ချူဝမ်းနှင့် ပိဟင်းတို့သည် ရယ်လား မောလား၊ တွန်းလား ထိုးလားဖြင့် လက်တစ်ဖက်ဆီမှ သူတို့ဝတ်လာသည့် ဝတ်ရုံများကို မကာ အခြားလက်တစ်ဖက်နှင့် ရေတစ်ပုံးကို နှစ်ယောက်ဆွဲလာကြ၏။ မိန်းမပျိုသည် သူတို့နှစ်ယောက်ဆီသို့ ခပ်သုတ်သုတ်သွားကာ ရေပုံးကို ကူ၍ဆွဲပေး၏။

''ကောင်မ၊ ညည်းလုပ်တာနဲ့ ငါ့မှာ စိုကုန်ပြီ''ဟု ချူဝမ်းက ပိကင်းကို ပြောလေ၏။

''စိုမှာပေါ့။ ညည်းက ငါ့ဖိနပ်ကို တက်နင်းမိတာကို၊'' ဟု ပိကင်းက ပြော၏။





သူတို့ကို ရေပုံးကူဆွဲပေးသည့်မိန်းမပျိုကို ကြည့်လိုက်သည့်အခါတွင် ရှောက်ဟုန်ဖြစ်နေသည်ကို တွေ့ရ၏။ သူတို့နှစ်ယောက်သည် ရှောက်ဟုန်ကို မြင်သည့်အခါတွင် အံ့အားသင့်လျက်ရှိကာ ရေပုံးကို ချပြီးလျှင် ပေါက်ယုရှိရာသို့ ပြေးလာခဲ့ကြ၏။ ပေါက်ယု တစ်ခုခုများ ဖြစ်လေသလောဟု စိုးရိမ်လျက်ရှိကြ၏။ ခန်းဆောင်ထဲသို့ ရောက်၍ ရေဇလုံတို့ကိုပြင်ဆင်ကာ ပေါက်ယု၏အဝတ်အစားများကို ချွတ်ပေးပြီးနောက်တွင် သူတို့နှစ်ယောက်သည် အခန်းတံခါးကိုပိတ်၍ ရှောက်ဟုန်ရှိရာ နောက်ဖေးဘက်သို့ ထွက်လာခဲ့ကြ၏။

''ညည်းက ဘာကိစ္စ ဒီခန်းဆောင်ထဲကို လာရတာလဲ''

''ကျွန်မခန်းဆောင်ထဲ မဝင်ပါဘူး။ ဝင်းထဲမှာ လက်ကိုင်ပဝါ ကျပျောက်ခဲ့လို့ ရှာနေတုန်း သခင်လေးက လက်ဖက်ရည်လာငှဲ့ပေးစမ်းလို့ လှမ်းခေါ်လို့ပါ။ ငှဲ့ပေးပြီးအပြန်မှာ အစ်မတို့နဲ့ တွေ့တာပါ''

ချူဝမ်းက ရှောက်ဟုန်၏မျက်နှာကို တံတွေးနှင့် ထွေးလိုက်၏။

''တော်တော်သောက်ရှက်နည်းတဲ့ ဖာသည်မ။ ငါက အစေခံတွေကို ရေမြန်မြန်ခပ်လာလို့ ပြောချည် ခိုင်းလိုက်တုန်းကတော့ မအားတူးလေးဘာလေးနဲ့။ ငါတို့ကိုယ်တိုင် ရေသွားခပ်ရအောင် တမင်လှည့်ထုတ်တယ်။ တို့လဲမရှိရော သခင်လေးအနားကပ်ပြီး ဟိုဟာလုပ်ပေးသလို သည်ဟာလုပ်ပေးသလိုလိုနဲ့ လူလုံးသွားပြတယ်။ ကောင်မက ကိုယ်နဲ့ တန်ရာတန်ရာမှာ မနေဘူး၊ ဟင်း။ ညည်းလိုကောင်မမျိုး ဒီအဆောင်ထဲ လာရမယ်များ ထင်နေသလား။ ကိုယ့်ရုပ်ကို မှန်ထဲပြန်ကြည့်ဦး။ ရုပ်ကဖြင့် နှစ်ပြားမတန်ဘူး။ ညည်းလိုရုပ်မျိုးနဲ့ သခင်လေးကို လက်ဖက်ရည်လာငှဲ့ပေးရသေးလား''

ဤတွင် ပိဟင်းက

''မနက်ဖြန်ကျယင်တော့ အဆောင်က အစေတော်တွေကိုပြောရဦးမယ်။ သခင်လေးက ရေတို့ လက်ဖက်ရည်တို့ လိုချင်ယင် ယူမပေးကြနဲ့လို့။ သူလုပ်ပေးလိမ့်မယ်လို့''ဟု ချူဝမ်းကို လှည့်၍ ပြောနေလေ၏။

"ဒါပေါ့အေ့တို့က သူလာယင် ရှောင်ပေးရမှာပေါ့"

သို့ဖြင့် ရှောက်ဟုန်ကို ရှေ့တွင်ထားကာ ကြောင်တောင်ပြေ၊ နေကြစဉ် အထိန်းတော်အဘွားကြီးတစ်ယောက် ရောက်လာကာ

"မနက်ဖြန်ကျယင် ဥယျာဉ်ထဲမှာ သစ်ပင်တွေ စိုက်မယ်တဲ့။ ဒါကြောင့် ဥယျာဉ်ထဲကိုဆင်းပြီး အ၀တ်လှန်းလား၊ ထဘီလှန်းလား၊ မလုပ်ကြနဲ့တဲ့။ တောင်ကမူတွေပေါ်က သစ်ပင်တွေကို ရှင်းပစ်လိမ့်မယ်တဲ့၊ ငှက်မယ်သခင်မလေးက မှာလိုက်တယ်"

"အလုပ်သမားတွေကို ဘယ်သူကြီးကြပ်မှာတဲ့လဲ"

"နောက်ဖေးလမ်းသွယ်က ကျိယွန်နီလို့ ပြောတာပဲ။ သခင်လေး တို့ အမျိုးထဲကတဲ့"

ထိုအမည်သည် ချူ၀မ်းနှင့် ပီဟင်းတို့အဖို့ ဘာမျှအဓိပ္ပာယ်မရှိ ချေ။ ထို့ကြောင့် သူတို့နှစ်ယောက်တို့သည် အခြားမေးခွန်းများကို မေးမြန်းလျက်ရှိကြ၏။ သို့ရာတွင် ထိုလူငယ်မှာ မနေ့က စာကြည့်ဆောင် အပြင်ဘက်တွင် သူတွေ့လိုက်သည့် လူငယ်ဖြစ်ကြောင်း ရှောက်ဟုန် သိလိုက်လေပြီ။

ရှောက်ဟုန်၏ ဆွေမျိုးနာမည်မှာ လင် အမျိုးဖြစ်ပြီး ငယ်နာမည်မှာ ဟုတ်ယု(ကျောက်စိမ်းနီ)ဖြစ်လေ၏။ သို့ရာတွင် "ယု" ကျောက်စိမ်းဟူသော အမည်မှာ ထိုက်ယု၊ ပေါက်ယုစသည့် သခင်လေး၊ သခင်မလေးတို့၏ အမည်များထဲတွင် ပါနေသည့်အတွက် သူ့အမည်ကို ရှောက်ဟုန်ဟု အမည် ပြောင်းလိုက်ရခြင်း ဖြစ်၏။ ရှောက် ဟုန်၏ အဆက်အနွယ်များသည် ကျိဆွေမျိုးစုအဆက်ဆက်ထဲတွင် အလုပ်လုပ် ခဲ့သည်မှာ ကြာခဲ့လေပြီ။ ရှောက်ဟုန်၏ အဖေမှာ လယ်ယာများနှင့် စံအိမ်တော်ဝင်း အပြင်ဘက်ရှိ လုပ်ငန်းများကို ကြီးကြပ်ရသူဖြစ်၏။ ရှောက်ဟုန်သည် ယခုနှစ်တွင် ဆယ့်ခြောက်နှစ်ပြည့်ခဲ့လေပြီ။ မဟာနန္ဒာ ဥယျာဉ်သို့ အပို့ခံခဲ့ရစဉ်က ရှောက်ဟုန်မှာ နီမောင်းပျော်ဖွယ်ရိပ်သာ တွင် ပထမဆုံး နေခဲ့ရ၏။ ထိုစဉ်က နီမောင်းပျော်ဖွယ် ရိပ်သာသည်





အလွန်အေးချမ်းတိတ်ဆိတ်သည့် နေရာဖြစ်ခဲ့၏။ သို့ရာတွင် နီမောင်း ပျော်ဖွယ်သို့ ပေါက်ယုနှင့် မိန်းမပျိုများ ရောက်လာသည့်အခါတွင် ရှောက်ဟုန်သည် ရိုးအသည့် မိန်းကလေးတစ်ယောက်ပီပီ သူတို့နှင့် ရင်းရင်းနှီးနှီးနေရခြင်းကို အားကျလျက်ရှိ၏။ သို့ဖြင့် ရှောက်ဟုန်သည် ပေါက်ယု သတိပြုမိလေအောင် လူလုံးပြရန် အခွင့်အရေးကို စောင့် လျက်ရှိသည့်တိုင် ပေါက်ယုအပါးတွင် ရှိနေသည့် အစေတော်များမှာ အကင်းပါးသူများပီပီ သူ့ကို အနားကပ်ခွင့် မရအောင် ဝန်းရံထားခဲ့ ကြ၏။ ယနေ့တွင်မူ သူမျှော်လင့်တောင့်တနေသည့် အခွင့်အရေးကို ရခဲ့လေပြီ။ သို့ရာတွင် ချူ၀မ်းနှင့် ပီဟင်းတို့သည် သူ့ကို ရက်စက်စွာ ပြောဆိုကြိမ်းမောင်း လွှတ်လိုက်သည့်အတွက် ရှောက်ဟုန်၏ မျှော်လင့် ချက်တို့သည် ပြိုကွဲသွားခဲ့ရလေပြီ။ သို့ဖြင့် ရှောက်ဟုန်သည် စိတ်ပျက် အားငယ်လျက်ရှိစဉ် အထိန်းတော်ကြီးတစ်ဦးရောက်လာသဖြင့် ဥယျာဉ် သို့ ကျိယွန်နီရောက်လာမည်ဟု သိလိုက်ရသည့်အခါ၌တား အကြံတစ်ခုရ လိုက်လေ၏။ ရှောက်ဟုန်သည် မိမိနေထိုင်ရာ အခန်းကလေးသို့ ပြန်လာ ကာ အိမ်ရာပေါ်တွင်လှဲရင်း ထိုအကြောင်းကို စဉ်းစားကာ တလူးလူး တလှိမ့်လှိမ့် ဖြစ်လျက်ရှိစဉ်

"ရှောက်ဟုန်ရေ၊ မင့်လက်ကိုင်ပ၀ါလေးကို အစ်ကိုကောက်ရ ထားတယ်"ဟူသော ခပ်တိုးတိုးပြောလိုက်သည့် အသံကို ပြတင်းပေါက် နားဆီမှ ကြားလိုက်ရ၏။

ရှောက်ဟုန်သည် အိပ်ရာမှ လူးလဲထကာ ပြတင်းပေါက်နားဆီ သို့ လာခဲ့၏။ ထိုသူမှာ အခြားသူမဟုတ်။ ကျိယွန်ဖြစ်၏။ ရှောက်ဟုန် က မျက်နှာတလေး နီရဲလျက်ဖြင့်

"ဟင်၊ အစ်ကိုက ဘယ်ကကောက်ရတာလဲ"

ကျိယွန်က ရယ်လိုက်ပြီး

"လာ၊ အစ်ကိုပြောမယ်"

ကျွယ္ဒန်သည် ရှောက်ဟုန်ကို လှမ်းဖက်လိုက်၏။ ရှောက်ဟုန်တ ချာခနဲ လှည့်ထွက်ပြေးသည်တွင် အပေါက်ဝ၌ ခလုတ်တိုက်၍ လဲကျသွားပြီးနောက် အိပ်ရာမှလန့်နိုးလာခဲ့၏။ တကယ်မဟုတ် အိပ်မက်မျှသာ တတား။

မည်သို့ အဆုံးသတ်သည်ကို သိလိုပါမူ နောက်တစ်ခန်းကို ဖတ်ပါလေ။







## အခန်း ၂၅

### ပေါက်ယုနှင့် နတ်ငှက်မယ်တို့အား အမှောင့်ပယောဂ ဝင်ပူးခြင်း။ ရဟန်းနှစ်ပါးသည် မနောမသိဒ္ဓိ ကျောက်စိမ်းတုံးကို ခန်းဆောင်နှိ အိပ်မက်ထဲတွင် မြင်ရခြင်း။

ရှောက်ဟုန်သည် အချစ်အကြောင်းကို တွေးတောရင်း အိပ်ပျော်သွား၏။ ကျွယ္ဒန်က သူ့ကို လိုက်ဖမ်းသည့် အခါတွင် ထွက်ပြေးရင်း အပေါက်ဝတွင် ခလုတ်တိုက်မိ၍ လဲကျအသွား၌ လန့်နိုးခဲ့သည့်အခါမှ အိပ်မက်ဖြစ်ကြောင်းကို သိရ၏။ သို့ဖြင့် ရှောက်ဟုန်သည် အိပ်ရာထဲတွင် တလူးလူးတလှိမ့်လှိမ့်ဖြင့် နံနက်မိုးသောက် အလင်းသို့ရောက်ခဲ့သည်တွင် တခြားအစေတော်များက တံမြက်လှည်းရန်၊ ရေခပ်ရန် ခေါ်နေသံကို ကြားရ၏။ သည်တော့မှ ရှောက်ဟုန်သည် အိပ်ရာမှ လူးလဲထကာ မှန်ရှေ့တွင်ထိုင်ကာ ဆံပင်ကို အမှတ်မထင် ဝတ်ကျေတမ်းကျေမျှသာ ပြုပြင်ပြီးနောက် ကိုယ်လက်သန့်စင်ကာ ခါးစည်းကို စည်းပြီး အလုပ်ခွင်သို့ ဆင်းခဲ့၏။

ပေါက်ယုမှာ မနေ့က ရှောက်ဟုန်ကိုမြင်ခဲ့ကတည်းက သဘောကျလျက်ရှိသဖြင့် ရှောက်ဟုန်ကို သူ့အနီးတွင် ထားချင်သည့် တိုင်မှာလာနှင့် အခြားအစေတော်များ စိတ်ဆိုးမည်ကို စိုးရိမ်လျက်ရှိ၏။ ထို့ပြင် ရှောက်ဟုန်သည် မည်သည့်မိန်းကလေးမျိုး ဖြစ်သည်ကို မသိ

သည့်အတွက်လည်း အခက်ကြုံလျက်ရှိ၏။ ရှောက်ဟုန်သည် ကျေနပ်လောက်သော မိန်းကလေးတစ်ယောက် ဖြစ်ပါက အကြောင်းမဟုတ်။ သို့ရာတွင် ကျေနပ်လောက်သော မိန်းကလေးတစ်ယောက်မဟုတ်ခဲ့လျှင် ခေါ်ပြီးကာမှ ပြန်လွှတ်ရသည်မှာ ရှုပ်ပျက်လှန်း၏။ သို့ဖြင့် ပေါက်ယုသည်လည်း ဝေခွဲမရဖြစ်ကာ အိပ်ရာမှထထိုင်ပြီး ကိုယ်လက် သန့်စင်ခြင်း၊ ခေါင်းဖြီးခြင်းပင် မပြုတော့ဘဲ ငိုင် တိုး ငိုင် တိုင် ဖြစ် လျက်ရှိလေ၏။

ထိုစဉ် ပြတင်းပေါက်တံခါးများကို ဖွင့်လိုက်သဖြင့် ဥယျာဉ်ထဲတွင် တံမြက်စည်း လှည်းကျင်းနေကြသော အစေတော်များကို ပြတင်းဇာခန်းဆီးကြားမှ မြင်နေရ၏။ သူတို့အားလုံးမှာ နံ့သာလိမ်းခြယ်ကာ နှုတ်ခမ်းဆိုးဆေးတို့ကို ဆိုးထားကြပြီးလျှင် ခေါင်းတွင်လည်း ပန်းပွင့်များ၊ မိုးမခခက်များကို ပန်ထားကြ၏။ သို့ရာတွင် ရှောက်ဟုန်၏ အရိပ်အာ့ယောင်ကိုမျှ မမြင်ရချေ။ ပေါက်ယုသည် ဖိနပ်ကိုစီး၍ ပန်းပွင့်များကို ကြည့်ချင်သဖြင့် အပြင်သို့ထွက်လာပုံမျိုးကို ဆောင်ကာ ဥယျာဉ်ထဲသို့ဆင်းလာပြီး ဟိုကြည့်သည်ကြည့် ကြည့်လာစဉ် ပန်းသီးရိုင်းချုံပင်ကြီး၏ နောက်ဘက် အမိုးမိုးထားသည့် စကြံ့ကျောက်ဖြူသား လက်ရန်းပေါ်တွင် ကုန်းနေသော သဏ္ဍာန်တစ်ခုကို တစ်ပိုင်းတစ်စ မြင်ရ၏။ ထို့ကြောင့် ပေါက်ယုသည် သစ်ပင်ဘက်သို့ ကွေ့ပတ်လာပြီး ထိုသဏ္ဍာန်ကို သေချာစွာကြည့်သည်တွင် သူ ထင် သည့်အတိုင်းပင် ထိုသဏ္ဍာန်မှာ မနေ့က သူမြင်ခဲ့ရသည့် မိန်းကလေးဖြစ်ပြီး တစ်စုံတစ်ရာကို တွေးတောနေဟန်ရှိ၏။ ပေါက်ယုသည် ထိုမိန်းမပျိုထံ သွားရမည်လောဟု စဉ်းစားနေစဉ် နောက်မှ ပီဟင်းရောက်လာကာ မျက်နှာသစ်ဖို့ လိုက်ခေါ်နေသဖြင့် ပီဟင်းနောက်သို့ပြန်လိုက်သွားရ၏။

ရှောက်ဟုန်သည် တစ်ယောက်တည်းငေးနေစဉ် သူ့ကို လက်ယပ်ခေါ်နေသည့်မာလာကို မြင်လိုက်ရသည့်အတွက် အကျိုးအကြောင်း သိရန် လာခဲ့၏။

"တို့ဥယျာဉ်ထဲက ရေပန်းကရားတွေက ပြန်ပြီးမပြင်ရသေးဘူး။ မလေးထိုက်ယုတို့ ရိပ်သာက ပန်းကရားတွေ ငှားချည်စမ်း"





ရှောက်ဟုန်သည် ဝေဠုဝန်ရိပ်သာဘက်သို့ လာခဲ့၏။ နှင်းမြူစိမ်းတံတားကို ဖြတ်သန်းလာခဲ့သည်တွင် သစ် ပင် တွေ ခုတ် ထား သော တောင်ကမူများကို လှမ်းမြင်လိုက်သဖြင့် သစ်ပင်အသစ်ထပ်စိုက်မည့်နေ့ ဖြစ်ကြောင်း သတိရလိုက်၏။ ခပ်လှမ်းလှမ်းတွင် အလုပ်သမားများသည် ကျင်းများကို တူးလျက်ရှိပြီး ကျောက်တုံးကြီး တစ်တုံးပေါ်တွင် ထိုင်နေသည့် ကျီယွန်ကိုလည်း လှမ်းမြင်လိုက်ရ၏။ ရှောက်ဟုန်သည် ကျီယွန်၏အနားသို့ မသွားရဲသည့်အတွက် ဝေဠုဝန်ရိပ်သာသို့သွားကာ ရေပန်းက ရား များ ကို ငှား၍ ပြန်လာခဲ့၏။ ထို့နောက် အခန်းသို့ ပြန်ကာ အိပ်ရာပေါ်တွင် လှဲလျက်ရှိ၏။ အခြား အစေတော်များမှာ ရှောက်ဟုန် နေထိုင်မကောင်းဖြစ်သည်ဟု ထင်သဖြင့် ဘာမျှ မပြောတော့ဘဲ လုပ်စရာရှိသည်တို့ကို လုပ်နေကြ၏။ သို့ဖြင့် ထိုနေ့မှာ များစွာ စိတ်ဝင်စားစရာ မကောင်းလှဘဲ ကုန်ဆုံးသွားခဲ့လေ၏။

ထိုနေ့၏ နောက်တစ်နေ့မှာ ဝမ်ဇူတိန်၏မိန်းမ မွေးနေ့ဖြစ်၏။ မယ်မယ်နှင့် သခင်မဝမ်တို့ကိုလည်း မွေး နေ့ သို့ ဖိတ် ထား ၏။ သူ့ယောက္ခမကြီးဖြစ်သူ မယ်မယ်မသွားသဖြင့် သခင်မဝမ်လည်း မွေးနေ့ပွဲသို့ မသွားဖြစ်တော့ချေ။ သို့ရာတွင် ဒေါ်လေးဆွေ့၊ နတ်ငှက်မယ်၊ တန်ချွန်းတို့ ညီအစ်မသုံးယောက်အပြင် ပေါက်ကြဲည်နှင့် ပေါက်ယုတို့လည်း လိုက်ပါသွားကြကာ ညနေကျမှ ပြန်လာခဲ့ကြ၏။

ထိုနေ့ညနေ၌ ကျီဟုန် ကျောင်းမှပြန်လာသည့်အခါတွင် သခင်မကြီး ဝမ်သည် တရားစာများကို ကူးခိုင်းသဖြင့် ကျီဟုန်လည်း ခုတင်မီးဖိုကြီးပေါ်တွင်ထိုင်ကာ ဖယောင်းတိုင်များကို အ ထွန်း ခိုင်း ပြီး ဟန်ကျပန်ကျဖြင့် ကူးနေ၏။ ထိုမျှမက အ စေ တော် များ ဖြစ်သည့် ဆိုင်ရှိကိုခေါ်၍ လက်ဖက်ရည်ငွဲခိုင်းခြင်း၊ တစ်ဖန် ယုချွန်းကိုခေါ်၍ ဖယောင်းတိုင်မှ မီးစာများကို အခြေခိုင်းခြင်း၊ သူ စာကူးနေရာတွင် အရိပ်လာကွယ်နေသည်ဟုဆိုကာ ချင်ချွန်းအား ငေါက်ငမ်းခြင်းဖြင့် ဟိတ်ထုတ်လျက်ရှိ၏။ အစေတော်များမှာ ကျီဟုန်ကို မနှစ်သက်ကြသည့်အလျောက် သူပြောသည့်စကားကို မကြားဟန်ပြုနေကြ၏။ ဆိုင်ရှိ

တစ်ယောက်သာလျှင် သူနှင့်အလွမ်းသင့်သည့်အလျောက် ကျိုဟုန်ကို လက်ဖက်ရည် ငှဲ့ပေးပြီးနောက် သခင်မဝမ်နှင့် ညှိသည်တစ်ယောက် စကားပြောနေသည်ကို မြင်သဖြင့်၊

''သိပ်မဆူနဲ့လေ။ ငြိမ်ငြိမ်နေမှပေါ့။ သခင်လေးကို ဒါကြောင့်မို့ လူတွေက မကြိုက်တာ''ဟု ခပ်တိုးတိုးပြော၏။

"ငါ့ဘာသာငါလုပ်တာ ဘာဖြစ်သလဲ။ ငါသိပါတယ်။ နင်ကလဲ အစ်ကိုပေါက်ယုကိုသာ ဂရုစိုက်တာပါ။ ငါ့ကျတော့ ခပ်ရှောင်ရှောင်နဲ့''

ဆိုင်ရှိက နှုတ်ခမ်းကို ကိုက်ကာ ကျိုဟုန်၏နဖူးကို လက်ဖြင့် တောက်လိုက်၏။

"နင် ငါ့ကို တော်တော်ကျေးဇူးကန်းပါ။ နင်က ကိုယ့်ကျေးတဲ့လက်ကို ပြန်ကိုက်တဲ့ခွေးနဲ့ အတူတူပဲ''

ထိုစဉ် မွေးနေ့ပွဲမှ နတ်ငှက်မယ်တို့ ပြန်ရောက်လာကြသည့်အတွက် နတ်ငှက်မယ်က မွေးနေ့ပွဲတွင် လာသည့် ဧည့်သည်များ အကြောင်း၊ အကျွေးအမွေး အကြောင်းနှင့် ပြဇာတ်အကြောင်းတို့ကို ပြောဆိုလျက်ရှိ၏။ မကြာမီ ပေါက်ယုလည်း ရောက်လာ၏။ ပေါက်ယုသည် မိခင်ဖြစ်သူ သခင်မဝမ်နှင့် စကားပြောဆိုပြီးနောက် အစေတော်များအား ဖိနပ်၊ အင်္ကျီ၊ လက်ဖွဲ့စသည်တို့ကို အယူခိုင်းကာ မိခင်အနားတွင် ပွတ်သီးပွတ်သပ် လုပ်နေ၏။ သခင်မဝမ်က ပေါက်ယုကျောကို ပွတ်သပ်ပေးသည့်အခါတွင် ပေါက်ယုသည် မိခင်၏ လည်ပင်းကို ဖက်လိုက်ရင်း စကားပြောနေ၏။

"သားက အရက်ချိုတွေသောက်လာပြန်ပြီလင်တယ် ဟုတ်လား။ ကြည့်စမ်း။ မျက်နှာကို နီရဲနေတာပဲ။ သောက်လာယင်လဲ အိပ်ရာထဲသွားပြီး ငြိမ်ငြိမ်ကလေးလှဲနေ။ နို့မို့ဆိုယင် မူးနေလိမ့်မယ်''

သခင်မဝမ်က ခေါင်းအုံးတစ်လုံးကို အယူခိုင်းလိုက်သဖြင့် ပေါက်ယုသည် သခင်မဝမ်၏နောက်တွင် လှဲနေရင်း ဆိုင်ရှိကိုခေါ်၍





အနှိပ်ခိုင်းလေ၏။ သို့ရာတွင် ပေါက်ယုက သူ့ကိုနောက်ပြောင်သည့်အခါတွင် ဆိုင်ရှိသည် မကြားယောင်ပြုကာ ကျိုဟုန်ကို လှမ်းကြည့်၏။ ဤတွင် ပေါက်ယုက ဆိုင်ရှိ၏လက်ကို လှမ်းကိုင်လိုက်ကာ

''ကောင်းကောင်းနှိပ်ပါ ဆိုင်ရှိရာလဲ''

ဆိုင်ရှိက လက်ကို ရုန်းထွက်လိုက်၏။

''သခင်လေး၊ ဒီလိုမလုပ်နဲ့နော်။ ကျွန်မအော်လိုက်မှာ''

စာကူးနေသည့် ကျိုဟုန်သည် သူတို့နှစ်ယောက် ပြောနေသည့် စကားများကို ကြားလိုက်၏။ သူ့ရှေ့တွင် ဆိုင်ရှိကို စနေသည်ကိုမြင်သည့်အခါတွင် ကျိုဟုန်၏ရင်ထဲတွင် မနာလိုစန့်တိုစိတ်သည် တဖွားဖွား ပေါ်ပေါက်လာခဲ့လေပြီ။ ကျိုဟုန်သည် မည်သို့မျှမပြောရဲသည့်အတွက် ပေါက်ယုအား မည်သို့ထိခိုက်အောင် လုပ်ရမည်နည်းဟု အကြံထုတ်လျက်ရှိ၏။ သူတို့နှစ်ယောက်မှာ များစွာ မဝေးလှသည့် အတွက် ကျိုဟုန်အဖို့ အကွက်ကောင်းကို ရလိုက်လေပြီ။ ကျိုဟုန်သည် ပေါက်ယု၏မျက်နှာကို ဖယောင်းစက်များဖြင့်ပက်ရန် ကြံလေ၏။ ကျိုဟုန်သည် ဖယောင်းတိုင်ခုံကို မှောက်ချလိုက်ရာ ဖယောင်းရည်များသည် ပေါက်ယု၏မျက်နှာပေါ်သို့ ဖိတ်စဉ်ကုန်ကြ၏။ ပေါက်ယု၏ အော်သံကြောင့် အားလုံး လန့်ဖျပ်သွားကြကာ မီးခွက်များ၊ မှန်အိမ်များဖြင့် ရောက်လာကြ၏။ ပေါက်ယု၏ မျက်နှာတစ်ခုလုံးမှာ ဖယောင်းရည်တွေဖုံးလျက်ရှိသည်ကို တွေ့ရ၏။ မယ်မယ်မှာ အကြီးအကျယ်ဒေါသထွက်ကာ အစေတော်များအား ပေါက်ယု မျက်နှာမှ ဖယောင်းစက်များကို အသုတ်ခိုင်းပြီးနောက် ကျိုဟုန်ကို မာန်မဲဆူပူလျက်ရှိလေ၏။

နတ်ငှက်မယ်သည် ခုတင် မီးဖိုကြီး ပေါ်တွင် လှဲနေသည့် ပေါက်ယုကို လာ၍ပြုစုရင်း

''မောင်လေးကိုကမောင်လေးပါပဲ။ ကျိုဟုန်ကိုသိပ်အရောမဝင်ပါနဲ့လို့ ပြောထားရက်သားနဲ့။ သူ့အမေကလဲ သူ့သားကို ကောင်းကောင်း ဆုံးမဟန် မတူဘူး''

သခင်မဝမ်သည် ကျိုဟုန်ကို ဆူပူခြင်းမပြုရန် ပြောဆိုပြီးနောက် ကျိုဟုန်၏မိခင် အမြှောင်မယား ချောကို အခေါ်ခိုင်းလိုက်၏။

"လာစမ်းကောင်မ၊ ညည်းသားကို မဆုံးမဘူးလားဟင်။ ငါက ကလေးပဲဆိုပြီး သူ ဒီလိုလုပ်တာကို တစ်ကြိမ်မက သည်းခံခဲ့ပြီ။ ဘာမှ မပြောခဲ့ဘူး။ ခုတော့ စော်ကားသထက် စော်ကားလာတယ်"

အမြှောင်မယားဖြစ်သည့် ချောသည် နတ်ငှက်မယ်နှင့် ပေါက်ယုတို့ကို မနာလိုဝန်တိုဖြစ်သည့်တိုင် မည်သို့မျှ မပြောရဲခဲ့ချေ။ သို့ရာတွင် ယခုကိစ္စတွင်မူ ကိုယ့်သားဘက် လွန်နေသည့် အလျောက် မည်သို့မျှ မပြောသာတော့ဘဲ တောင်းပန်ရ၏။ ပေါက်ယု၏ လက်ဝဲဘက်ပါးမှာ ဖယောင်းရည်လောင်သည့် ဒဏ်ရာကြောင့် နီရဲလျက်ရှိ၏။ သို့ရာတွင် ကံကောင်းသဖြင့် မျက်လုံးကိုမထိချေ။ သခင်မဝမ်မှာ မနက်ဖြန်တွင် မယ်မယ်ကမေးလျှင် မည်သို့ပြောရမည်နည်းဟုတွေးကာ စိတ်ညစ်လျက် ရှိ၏။ သခင်မဝမ်သည် အမြှောင်မယား ချောကို ဆူပူမာန်မဲကာ ပေါက်ယုအနားသို့သွား၍ ပါးကို ပိုးသတ်ဆေးဆီတို့ဖြင့် သုတ်လိမ်းပေးလျက်ရှိ၏။

"ကိစ္စမရှိပါဘူး မေဖျားရယ်။ နည်းနည်းစပ်တာ တစ်ခုပါပဲ။ မနက်ဖြန် မယ်မယ်နဲ့တွေ့ယင် သား ဘာသာ သား အပူလောင်သွားတာလို့ ပြောပါ့မယ်"

နတ်ငှက်မယ်က ပြုံးကာ

"မောင်လေး ပြောတာက အရေး မကြီးဘူး။ ဒါပေမယ့် ဒီလောက် ဂရုမစိုက်ဘဲ ပစ်ထားရသလားဆိုပြီး ငှက်မယ်တို့ကို ဆူမှာ သိရဲ့လား။ မောင်လေးက ဘယ်လိုပဲပြောပြော မယ်မယ်က ဆူမှာက တော့ သေချာတယ်"

သခင်မဝမ်သည် ပေါက်ယုကို သူ့အဆောင်သို့ ပြန်အပို့ခိုင်းလိုက်၏။ မာလာတို့တစ်သိုက်မှာ ပေါက်ယု၏ အခြေအနေကိုကြည့်၍ အလန့်တကြားဖြစ်လျက် ရှိကြ၏။

ထိုနေ့တစ်နေ့လုံး ထိုက်ယုမှာ ပေါက်ယုမရှိသည့်အတွက် ပျင်း၊ နေလေ၏။ ပေါက်ယု ပြန်ရောက်မရောက် အကြည့်ခိုင်းရသည်မှာလည်း အခါပေါင်း မရေနိုင်တော့ပြီ။ ထိုသတင်းကိုကြားသဖြင့် ပေါက်ယု အဆောင်သို့ လိုက်လာသည့်အခါတွင် မှန်ရှေ့တွင်ထိုင်၍ ဆေးဆီလိမ်း





နေသော ပေါက်ယုကိုတွေ့ရ၏။ ဖယောင်းရည်လောင်သည့် ဒဏ်ရာမှာ အတော်ပြင်းသည်ဟုထင်သဖြင့် ထိုက်ယုက ကြည့်မည်ပြုသေး၏။ သို့ရာတွင် ထိုက်ယုမှာ ရှုတတ်သူဖြစ်ကြောင်း သိသည့်အတွက် ပေါက်ယုသည် သူ့လက်ဝဲဘက်ပါးကို လက်ဖြင့် အုပ်ရင်း အနားသို့ မလာရန် လက်ဖြင့်ပြနေ၏။ ထိုက်ယုကလည်း ကိုယ့်အကြောင်းကို ကိုယ်သိ၏။ သူ့ဒဏ်ရာကိုမြင်လျှင် ရှုမည်စိုးသည့်အတွက် ပေါက်ယုကသူ့အနားသို့ အကပ်မခံခြင်းဖြစ်သည်ကို သိလိုက်၏။

"ဘယ်နား လောင်သွားသလဲဆိုတာ ကြည့်ရုံလေးပါ မောင်လေးရယ်။ ဘာဖြစ်လို့ ဖုံးထားရတာလဲ"ဟု ချိုသာစွာမေး၏။

ထိုက်ယုသည် အနားသို့ကပ်လာကာ ပေါက်ယုကို ခေါင်းကို လှည့်၍ ကြည့်လေ၏။

"တော်တော် နာသွားသလားဟင်"

"သိပ်မနာပါဘူး။ နှစ်ရက်သုံးရက်လောက်ရှိယင် ကောင်းသွားမှာပါ"

ထိုက်ယုသည် ပေါက်ယု အနီးတွင် အတန်ကြာ ထိုင်နေပြီးနောက် စိတ်မကောင်းဖြစ်လျက် ပြန်လာခဲ့၏။

နောက်တစ်နေ့တွင် မိမိ ဘာသာ လောင်ခြင်း ဖြစ်သည်ဟု ပေါက်ယုကပြောသည့်တိုင် မယ်မယ်သည် မကျေနပ်နိုင်ဘဲ အဲစေတော်များအား ပေါ့လျော့ရမည်လောဟုဆိုကာ မာန်မဲဆူပူလျက်ရှိ၏။

နောက်တစ်နေ့ လွန်မြောက်ခဲ့လေ၏။ ထို နောက်တစ်နေ့တွင် သူတို့စံအိမ်သို့ ပေါက်ယုငယ်ငယ်က ခမဲပေး၍ မွေးစားအမေ လုပ်ခဲ့သည့် နတ်ဆတော်ကြီး ရောက်၍လာ၏။ ပေါက်ယုကို မြင်သည်တွင် အထိတ်တလန့်ဖြစ်ကာ စိတ်ပူသဖြင့် အကျိုးအကြောင်းကိုမေးမြန်း၏။ အပူလောင်ကြောင်း သိရသည့် အခါတွင် နတ်ဆတော်ကြီးသည် ခေါင်းကိုညိတ်ကာ သက်ပြင်းချလိုက်ရင်း ခေါင်းပေါ်တွင် လက်တင်ပြီးနောက် ဂါထာရွတ်၍ မန်းမှုတ်ပေး၏။

"ခဏနေယင် ပျောက်သွားတော့မှာပါ။ အင်း ခုလိုဖြစ်တာ ကံဇာတာနိမ့်နေတုန်းမို့ ဖြစ်ရတာ။ မယ်မယ်များ သိမလားမသိဘူး။ တရားတော်တွေထဲမှာ မကြာခဏပါတတ်တယ် မယ်မယ်ရဲ့။ အမျိုးမြတ်တဲ့ အိမ်ထောင်တွေမှာ မွေးဖွားလာကြတဲ့ ယောကျ်ားလေးများမှာမကောင်းတဲ့နတ်များက အမြဲတမ်းလိုက်ပြီးနှောင့်ယှက်ဖျက်ဆီးလေ့ရှိကြတယ်တဲ့။ အနာရောဂါကျအောင် လုပ်တတ်သတဲ့။ ကိုယ်လက်မသန်မစွမ်းဖြစ်အောင် လုပ်တတ်သတဲ့။ ဒါမှ မဟုတ်ယင်လဲ အငတ်ငတ် အပြတ်ပြတ်ဖြစ်အောင် လုပ်တတ်သတဲ့။ လမ်းသွားယင်လဲ လမ်းမှာ ဥပဒ် အန္တရာယ်တွေ့အောင် လုပ်တတ်သတဲ့။ ဒါကြောင့်မို့ အမျိုးမြတ်တဲ့ အိမ်ထောင်များမှာမွေးတဲ့ ယောကျ်ားလေးများဟာငယ်ငယ် ရွယ်ရွယ်နဲ့ သေကြရတာတဲ့"

"ဒီလိုမဖြစ်အောင် မကာကွယ်နိုင်တော့ဘူးလား နတ်ဆရာတော်ကြီးရယ်"ဟု မယ်မယ်က စိုးရိမ်တကြီးဖြင့်မေး၏။

"ရပါတယ်။ သူ့အတွက် ယတြာချေရမယ်။ ကုသိုလ်ကောင်းမှု ပြုရမယ်။ မကောင်းတဲ့ နတ်တွေကို နှင်တဲ့ တရားစာတွေ ရှိတယ်လေ မယ်မယ်ရဲ့။ သုတ္တန်တစ်ခုမှာဆိုယင် အဲဒီ မကောင်းတဲ့ မိစ္ဆာနတ်တွေကို နိုင်တဲ့ ဗောဓိသတ္တ တစ်ပါးရှိတယ်။ အဲဒီဗောဓိသတ္တရဲ့တန်ခိုးကြောင့် သူတ်ကိုရွတ်လို့ရှိယင် ဘယ်မိစ္ဆာမှမနေနိုင်ဘူးတဲ့။ တချို့ကတော့ အဲဒီ ကိုယ်တော်ကြီးကို အထူး ကိုးကွယ်ကြတဲ့ အတွက် သားစဉ် မြေးဆက် ဘယ်လို အမှောင့်ပယောဂမျိုးမှ မဝင်နိုင်ဘူးလို့ ယူဆကြတယ်"

"အဲဒီ ဗောဓိသတ္တ ကိုယ်တော်ကြီးကို ဘယ်လိုများ ပသရမလဲ ဆရာမကြီးရယ်"

"သိပ်အထူးအထွေ မလိုပါဘူး။ အမွေးတိုင်နဲ့ ဖယောင်းတိုင် ရယ်၊ မီးအိမ်ကြီးပဲ့ ပူဇော်ဖို့အတွက် ကိုယ်တော်ကြီးကို နေ့စဉ် ဆီ နည်းနည်းလှူရမယ်။ မီးအိမ်ကြီးကတော့ ကိုယ်တော်ကြီးကို ကိုယ်စား ပြုပြီး လှူတဲ့သဘောပေါ့လေ။ အဲဒီကိုယ်တော်ကြီးရှေ့မှာရှိတဲ့ မီးအိမ် ကြီးကို နေ့ရောညရော ထွန်းထားရမယ်"





"နေ့ရော ညရော အဆက်မပြတ် မီးပူဇော်ထားဖို့အတွက် ဆီက ကော ဘယ်လောက်များ လိုမလဲ နတ်ဆရာတော်ကြီးရယ်။ ဆရာကြီးပြောယင် ကျွန်မလှူပါ့မယ်"

"ဘယ်ရွေ့ဘယ်မျှ လှူရမယ်လို့ ကန့်သတ်ချက် မရှိပါဘူး။ စေတနာရှိသလောက်ပါ။ နန်းတော်ကြီးက မိဖုယားငယ်တွေ၊ ကိုယ်လုပ်တော်တွေတော့ ဆရာကြီးတို့ဆီကို မကြာမကြာလာပြီး လှူကြတာပဲ။ နာနန်းကိုယ်တော်လေးရဲ့ မယ်တော်ကြီး ဆိုလို့ရှိယင် ဆရာကြီးတို့ဆီမှာ လာပြီး တစ်နေ့ကို ဆီ နှစ်ဆယ့်နှစ်ပိဿာ။ မီးစာက အစိတ်သား လာလာပြီး လှူတယ်။ ဒီတော့ နာနန်းမင်းသားလေး မယ်တော်ရဲ့ မီးအိမ်ဆိုယင် စဉ့်အိုးကြီးတွေလောက်ရှိတယ်။ သူ့နောက်မှာ မီးအိမ်ကြီးထွန်း ပူဇော်တဲ့သူကတော့ ကျင်တျန်မြို့စား ကတော်ပဲ။ သူက ဆယ့်တစ် ပိဿာလှူတယ်။ တချို့လဲ သုံးပိဿာ၊ နှစ်ပိဿာ၊ တစ်ပိဿာ စသဖြင့် ကိုယ်တတ်နိုင်သလောက် လှူကြတာပေါ့လေ။ ဒါက အကြောင်းမဟုတ် ပါဘူး။ တချို့ဆင်းရဲတဲ့လူများကျတော့လဲ ငါးဆယ်သား။ အစိတ်သား စသဖြင့် တတ်နိုင်သလောက်ပဲ လှူကြတာပေါ့။ ဘယ်လောက်ပဲ လှူလှူ ဆရာကြီးတို့ကတော့ သူ့အတွက် မီးအိမ်ကြီးကို နေ့ရောညပါ လင်းနေအောင် ထိုက်သင့်တဲ့ မီးအိမ်အရွယ်ကို ရွေးပြီး မီးပူဇော်ပေးရ တာပေါ့"

မယ်မယ်သည် စဉ်းစားရင်း ခေါင်းတညိတ်ညိတ်ဖြင့်နားထောင် လျက် ရှိ၏။

"တကယ်လို့ ကိုယ်တော်ကြီးကို ပူဇော်ရုံတွင် မကဘူး၊ ဆရာ သမား မိဘများကို ပူဇော်ချင်တယ်ဆိုယင် ဆီတို့ မီးစာတို့ လှူလို့ရပါ တယ်။ ဒါပေမယ့် မယ်မယ်က မြေးအတွက်လှူမှာဆိုတော့ မီးအိမ်က သိပ်ကြီးလို့ မကောင်းဘူး။ အတန်အသင့်လောက်ဆိုယင် တော်ပါပြီ။ သိပ်ကြီးလွန်းယင် ကလေးအတွက် ကံဇာတာကို သွားပြီးထိခိုက်နိုင် တယ်။ ဒီတော့ တစ်နေ့ကို တစ်ပိဿာ၊ တစ်ပိဿာခွဲလောက် ဆိုယင် တော်ပြီ"

"ကဲ ဒါဖြင့် တစ်နေ့ကို တစ်ပိဿာအစိတ်လှူမယ် ဆရာကြီး ရယ်။ အဲဒါ တစ်လအတွက် ကုန်ကျစရိတ်ကို ဆရာကြီးဆီမှာပဲ အပ် လိုက်ပါ့မယ်"

"အင်း၊ သာဓုပါတော်၊ သာဓုပါ။ အမိဒ္ဓဗုဒ္ဓ မြတ်စွာဘုရား စောင်မတော်မူပါစေ။ ဗောဓိသတ္တကိုယ်တော်ကြီး စောင့်ရှောက်တော် မူပါစေ"

"ဟဲ့၊ နောက်တစ်ခါ ပေါက်ယု အပြင်တို့ဘယ်တို့ကိုထွက်ယင် အစေတော်တွေရဲ့ လက်ထဲကို ငွေတစ်ထုပ်လောက် အပိုထည့်လိုက်။ ရဟန်းတော်တွေ၊ ကိုရင်တွေ၊ ဆင်းရဲသားတွေကို လှူလို့လဲပြော၊ ကြား လား"ဟု မယ်မယ်သည် အစေတော်များကို မှာနေ၏။

နတ်ဏတော်ကြီးသည် မယ်မယ်တို့နှင့် အတန်ကြာထိုင်၍ စကား စမြည်ပြောဆိုပြီးလျှင် အခြားအဆောင်များသို့ လှည့်ပတ်ကာ နောက် ဆုံး၌ ချော၏အဆောင်သို့ ရောက်လာခဲ့၏။ ချောသည် နတ်ကတော် ကြီးအား ဝတ်ပြုပြီးနောက် လက်ဖက်ရည်တိုက်၏။ ခုတင်မီးဖိုပေါ် တွင် ကိုက်ထားသည့် ဖွဲ့စများကို တွေ့ရသည့်အတွက် အိမ်တွင်းစိ၊ရန် ဖိနပ်ချုပ်နေကြောင်း သိသာနိုင်ပေ၏။

"အမယ်၊ အတော်ပဲချောရေ့။ အကျွန်လဲ ကိုယ့်ဘာသာကိုယ် ဖိနပ်ချုပ်တတ်တယ်တော့။ ပိုတဲ့ ဖွဲ့စကလေးများရှိယင် အကျွန့်ကိုလှူ လိုက်စမ်းပါ။ ဘယ်အရောင်ဖြစ်ဖြစ်ပေါ့"

ချောက သက်ပြင်းချလိုက်ပြီး

"ကျွန်မဆီမှာကတော့ ဖဲစကောင်းကောင်းရယ်လို့ မရှိပါဘူး ဆရာကြီးရယ်။ ဖဲစကောင်းကောင်းဆိုယင် ကျွန်မတို့ဆီကို မရောက်လာ ပါဘူး။ ဟိုဘက်အဆောင်တွေမှာတွင် ကုန်သွားတာပါပဲ။ ဆရာကြီး ကြိုက်တာ တွေ့တယ်ဆိုယင်တော့ အဲဒီအထဲက ရွေးယူသွားပေတော့"

နတ်ကတော်ကြီးသည် ဖွဲ့စများကို ကောက်ယူလိုက်ပြီးလျှင် လွယ် ဝတ်ရုံကြားထဲသို့ ထိုးထည့်လိုက်၏။





"မနေ့တုန်းက ငွေငါးရာ လှူလိုက်တယ် ဆရာကြီးရဲ့။ အဲဒါ ကျွန်မအတွက် အရှင်ကြီးတင်လိုက်ရဲ့လား"

"တင်လိုက်ပါတယ်တော်"

"အမိဒ္ဓဗုဒ္ဓ မြတ်စွာဘုရား။ ကျွန်မသာတတ်နိုင်ယင် ဒီထက်မက လှူပါတယ်ရှင်။ ခုတော့ ကျွန်မမှာလဲ ချောင်ချောင်လည်လည်မရှိဘူး မဟုတ်လား"

"ကိစ္စမရှိပါဘူးလေ။ ချောရဲ့သားကြီးကျိဟုန် ကြီးလာယင် ဒီလို မနေပါဘူး။ သူလဲ အရာထမ်းတို့ဘာတို့ ဖြစ်လာမှာပေါ့။ အဲဒီတော့ ကိုယ်ကြိုက်သလောက် ကုသိုလ်ကောင်းမှု ပြုနိုင်မှာပေါ့"

"ကဲပါလေ။ ဒါတွေ ပြောမနေပါနဲ့တော့။ ခုတော့ အမေမြင် တဲ့အတိုင်း ကျွန်မတို့သားအမိက ဒီစံအိမ်မှာ အောက်ဆုံးတန်းကနေကြ ရတာ။ ပေါက်ယုကတော့ ထားပါတော့လေ။ တစ်အိမ်လုံးရဲ့ အသည်း ကိုး။ ခုမှ ကလေးပဲရှိသေးတာ။ ဒါ့ကြောင့် သူ့ကို အလိုလိုက်တာကို ကျွန်မ ဘာမှ မပြောချင်ပါဘူး။ ဒါပေမယ့် အဲဒီဟာမ ကိုတော့ အောက်မကျို့နိုင်ဘူး အမေရေ့"ဟု ဆိုကာ ချောက လက်နှစ်ချောင်း ကို ထောင်ပြ၏။

"ဘယ်သူ့ကို ပြောတာလဲ၊ သခင်လေးကျိလျံရဲ့ မိန်းမ နတ်ငှက် မယ်ကို ပြောတာလား"

ချောက တိတ်တိတ်နေရန် လက်ထောင်ပြ၏။ ထို့နောက် သေချာ အောင် ခန်းဆီးကိုသွား၍ ဖယ်ကာ အပြင်တွင် လူသူရှိမရှိ ကြည့်လိုက် ပြီးနောက် ပြန်လာပြီး လေသံကလေးဖြင့်

"တစ်အိမ်လုံး သူပဲ ခြယ်လှယ်နေတာပဲ။ ခုလဲ စံအိမ်မှာ ရှိသမျှ ပစ္စည်းတွေကို သူ့အမေအိမ်ကို ကဲ့ကဲ့ပြီး ပို့နေတာ။ သူဒီအတိုင်းဆက် လုပ်တာကို ခံနေယင်တော့ ကျွန်မတို့လဲ လူ့ပြည်မှာ နေလို့တောင် မကောင်းတော့ဘူး"

ထိုစကားကိုကြားသည့်အခါတွင် နတ်ဏတော်ကြီးသည် သူ့ကို နောက်ထပ်မေးမြန်း အစ်အောက်ကြည့်ဦးမည်ဟု သတိရလိုက်သဖြင့်

"အမယ်လေး၊ အမေ့ကို ဒါတွေ မပြောစမ်းပါနဲ့။ ဒီကလဲ ဒီလောက်တော့သိပါတယ်။ ဒါကတော့ ချောတို့ကလဲ ငုံ့ခံနေကြပေ သကိုး။ ဟိုက သူစိတ်ထင်တိုင်း လုပ်တော့မှာပေါ့။ အကျန်တို့ဖြင့် ဒါမျိုး တွေ့ဖူးပေါင်"

"မခံလို့ ဘယ်နှယ်လုပ်မလဲ အမေရဲ့။ ကျွန်မတို့က သူ့ကို ဘာ ပြောရဲတာမှတ်လို့"

နတ်ကတော်ကြီးက ဟက်ခနဲ တစ်ချက် ရယ်လိုက်ပြီးနောက် အတန်ကြာစဉ်းစားလျက် ရှိ၏။ ပြီးမှ

"သူများကိစ္စကို အမေတို့လဲ ကြားထဲက ဝင်မပါချင်ပါဘူး။ ဒါပေမယ့် ကိုယ့်ကိုယ်တိုင်က ခံနေတော့ သူများကိုလဲအပြစ်မဆိုနဲ့လေ။ ဒီလိုလုပ်တာကို မကျေနပ်လို့ ကိုယ်တိုင် ပြောင်ပြောင်တင်းတင်း မပြော ရဲ မလုပ်ရဲယင်လဲ တစ်နည်းနည်းနဲ့လုပ်ပေါ့။ ဒါပဲရှိတော့တာပေါ့"

ချောသည် ထိုစကားထဲတွင် လေးနက်သည့် အဓိပ္ပာယ်ပါ ကြောင်းကို သိလိုက်သဖြင့် မျက်နှာဝင်းထိန်သွားရာမှ

"မသိအောင် တစ်နည်းနည်းနဲ့ လုပ်ရမယ်ဟုတ်လား။ ဘယ်လို များလုပ်ရမှာလဲ အမေရယ်။ ပြောစမ်းပါဦး၊ ကျွန်မလဲ တတ်သမျှ မှတ် သမျှတော့ စဉ်းစားတာပဲ။ ဒါပေမယ့် စဉ်းစားလို့ကိုမရဘူး။ အမေ များသိယင် ပြောပြစမ်းပါဦး။ လုပ်တန်လုပ်ရမှာပေါ့"

"အလိုလေး။ အမိဒ္ဓပုဒ္ဓ မြတ်စွာဘုရား၊ ဒါတွေကို အမေ့ကို မမေးပါနဲ့။ ဒါမျိုးတွေ အမေ မပြောချင်ဘူး။ အကုသိုလ် များလှ တယ်"

သို့ရာတွင် သူတို့နှစ်ယောက်စလုံးတွင် အကြံတူနေကြကြောင်း ကိုမူ နတ်ကတော်ကြီး သိလိုက်လေပြီ။

"ပြောပါအမေရယ်။ အမေဟာ ဒုက္ခရောက်သူကို ကူညီတတ် တယ်မဟုတ်လား၊ ကျွန်မတို့သားအမိကို ဒီဟာမက သူထင်တိုင်း ခြယ် လှယ်နေတာကို အမေ ဒီအတိုင်း ကြည့်နေတော့မှာလား။ ဒါမှမဟုတ် ကျွန်မက အမေ့ကို ကျေးဇူးကန်းမယ်လို့ထင်လို့ မပြောတာလား"





နတ်ကတော်ကြီးသည် ပြုံးနေ၏။

"ချောတို့သားအမိကို နိုင်ထက်စီးနင်းလုပ်တာကို ခံနေရတာကို မြင်တော့ စိတ်တော့မကောင်းပါဘူး။ ဒါပေမယ့် အမေ့ကို ကျေးဇူး ဆပ်ပါ့မယ်ဆိုတဲ့ စကားကတော့ မပြောပါနဲ့ချောရယ်။ အမေ ဒီလို မအောက်မေ့ပါဘူး။ ကဲ ထားပါတော့။ အမေက ကျေးဇူးကန်းမှာ ကြောက်တယ်ဆိုလို့ရှိယင် ချောက အမေ့ကို ဘယ်လိုများ ကျေးဇူး ဆပ်မှာလဲ"

နတ်ကတော်ကြီးသည် သူ့ဘက်သို့ ပါလာကြောင်းကို ချော သိလိုက်လေပြီ။

"အမေကလဲရှင်။ ဒီလောက်ပဲ အံ့ရသလား။ အဲဒီမယားကြီး ဝမ်းနဲ့ သူ့တူမ ငှက်မယ်ဆိုတဲ့ဟာမကို အိမ်မှာဝပ်သွားအောင် အင်းတို့ ဘာတို့နဲ့ လုပ်ပေးလို့ရှိယင် ဒီအိမ်က ရှိသမျှပစ္စည်းဟာ ကျွန်မသား ကျိဟုန်ရဲ့လက်ထဲကို ရောက်ရမှာပေါ့။ ဒီလို ဖြစ်လာလို့ကတော့ ဘာ ပြောစရာ လိုတော့သလဲ။ အမေလိုချင်တာ ရနိုင်တာပေါ့"

နတ်ကတော်ကြီးသည် အတန်ကြာမျှ ခေါင်းငုံ့လျက်ရှိ၏။

"ဟုတ်တော့ဟုတ်ပါတယ်လေ။ ဒါပေမယ့် ချောတို့အိတ်ထဲကို ပစ္စည်းတွေအားလုံးရောက်ပြီးမှ အမေ့ကိုပစ်ထားခဲ့ယင် ဘယ့်နှယ်လုပ် မလဲ။ ချောတို့က စာလေးပေလေးနဲ့ ကတိဝန်ခံချက်ပေးယင်တော့လဲ အကောင်းသားပေါ့"

"အမယ်လေး၊ ဒါများ ဘာခက်တာမှတ်လို့။ ခုလောလော ဆယ်မှာတော့ ကျွန်မမှာ သိပ်မချောင်လည်ဘူး။ ဒါပေမယ့် ကျွန်မ စုထားတဲ့ ငွေကလေးဘစလွေး နည်းနည်းပါးပါးတော့ ရှိပါတယ်။ ပြီးတော့ အဝတ်အစားကလေးနဲ့ လက်ဝတ်လက်စား ကလေးတွေလဲ ရှိပါသေးတယ်။ ခုလောလောဆယ်မှာ အမေ့ကို အဲဒီအထဲက နည်း နည်းပါးပါး ခွဲပေးလိုက်မယ်။ ဒါနဲ့မှ မကျေနပ်သေးဘူး ဆိုယင်လဲ ကျွန်မ အမေ့ကို စာနဲ့ရေးပြီး ဝန်ခံချက် ပေးထားမယ်။ နောင်မှာ ကတိအတိုင်း ပေးပါ့မယ်ဆိုတာ စာရေး ပေးလိုက်မယ်။ သက်သေ ခေါ်ချင်ယင် ခေါ်ဦး"

"ချော တကယ်ပြောတာလား"

"အို ဒီလောက်အရေးကြီးတဲ့ ကိစ္စကြီးမှာ ကျွန်မ အလကား ပြောပါ့မလား အမေရဲ့"

ချောသည် စိတ်ချရသည့် အစေခံတစ်ယောက်ကိုခေါ်ကာ တစ်ခုံ တစ်ရာကို တီးတိုး ပြောဆိုလိုက်ရှိ၏။ အစေခံသည် ထွက်သွားကာ အတန်ကြာလျှင် ငွေငါးရာပေးပါမည်ဟူသော စာချုပ်တစ်ခုကို ယူ၍ ပြန်လာ၏။

ချောသည် သူ့လက်ဗွေပုံစံကို စာရွက်ပေါ်တွင် နှိပ်လိုက်ပြီး သေတ္တာကိုဖွင့်ကာ ငွေအချို့ကို နတ်ကတော်ကြီးအား ပြသလိုက်ပြီး

"ရော့၊ လှူစရာ၊ ပသစရာရှိတာလုပ်ဖို့ ဒါကို အယင်ယူသွားပါဦး၊ ဒီလောက်ဆိုယင် တော်ပြီမဟုတ်လား"

ပြောင်လက်နေသည့် ငွေစများနှင့် စာချုပ်ကို မြင်သည့် အခါတွင် နတ်ကတော်ကြီးမှာလည်း ဣန္ဒြေ မဆောင်နိုင် တော့ချေ။ နတ်ကတော်ကြီးသည် ငွေစများကို ပထမ ယူလိုက်ပြီးနောက် စာချုပ်ကို ယူလိုက်၏။ ထိုနောက် အင်္ကျီအိတ်ထဲကို မွှေနှောက် ရှာလိုက်ပြီးလျှင် အိတ်ထဲမှ စက္ကူအရုပ်ကလေး ဆယ့်နှစ်ရုပ်ကိုထုတ်ယူလိုက်၏။ နှစ်ရုပ်မှာ လူရုပ်ကလေးများဖြစ်ပြီး ဆယ်ရုပ်မှာ ဆံပင်ဖွာဖွာ၊ မျက်နှာပြားပြားနှင့် သရဲရုပ်ကလေးများ ဖြစ်ကြ၏။ နတ်ကတော်ကြီးသည် ထိုအရုပ်ကလေးများကို ချောသို့ပေးလိုက်ပြီး လေသံလေးဖြင့်

"ဟောဒီ အရုပ်နှစ်ရုပ်ပေါ်မှာ သူတို့ဇာတာခွင်ကိုရေးချ။ ပြီးတော့ တစ်ရုပ်ကို သရဲရုပ်ငါးရုပ်စီနဲ့ အတူတွဲပြီး သူတို့အိပ်ရာပေါ်မှာ သွားချထားချည်။ ဒါလေးပဲလုပ်ထား။ ကျန်တာကိုတော့ အိမ်အနေပြီး အမေ မန်းမှုတ်ပေးမယ်။ မယုံစောင့်ကြည့်ပါ။ သိသာပါလိမ့်မယ်။ သတိထားပြီးလုပ်နော်။ သိပ်ပြီးမကြောက်နဲ့"

ထိုသို့ တိုင်ပင်နေကြစဉ် သခင်မဝမ်ထံမှ အစေတော်တစ်ယောက် ရောက်လာသည့်အတွက် သူတို့နှစ်ယောက် စကားပြတ်သွားကြ၏။

"ဩော် လက်စသတ်တော့ အမေက ဒီရောက်နေတာကိုး။ ဟိုမှာ သခင်မကြီး စောင့်နေတယ်"





သို့ဖြင့် သူတို့နှစ်ယောက်သည် လူချင်းခွဲလာခဲ့ကြ၏။

သို့ရာတွင် ထိုက်ယုအကြောင်းကို ပြန်ကောက်ကြဦးစို့။ ပေါက်ယုမှာ ဖယောင်းရည်ပွလောင်သည့် ဒဏ်ရာကြောင့် အိပ်ရာထဲတွင် လှဲနေရလေရာ ထိုက်ယုသည် သူ့ထံသို့ မကြာခဏသွားကာ စကားပြောနေတတ်၏၊ ယနေ့တွင်လည်း ထိုက်ယုသည် စာအုပ်တစ်အုပ်ကို ဖတ်လျက်ရှိရာ အတန်ကြာလျှင် ပျင်းလာ၏။ ဇူချွန်းနှင့်အတူ တက်တင်းထိုးနေသော်လည်း ပို၍ပင် ငြီးငွေ့လာ၏။ ထို့ကြောင့် ထိုက်ယုသည် တက်တင်းထိုးရာမှ ပြတင်းပေါက်အနီးသို့ ထလာကာ ပြတင်းပေါက်အနီးတွင်ရပ်ရင်း ငေးနေ၏။ ထို့နောက် လှေကားရင်းတွင် ပေါက်နေသည့် ဝါးပင်မှ အစို့အညှောင့်ကလေးများကို ကြည့်ရန် အောက်သို့ဆင်းလာခဲ့၏။ တစ်ဖန် ရည်ရွယ်ချက်မရှိဘဲ ဝင်းထဲသို့ ဆင်း၍ လျှောက်လာခဲ့ပြန်၏။ ဥယျာဉ်ထဲတွင် ရောင်စုံပွိုးပြက်လျက်ရှိသည့် ပန်းပွင့်များနှင့် မိုးမခပင်ရိပ်များမှအပ လူသူအရိပ်အယောင်ကို မမြင်ရချေ။ ငှက်တို့၏ တေးသီသံများနှင့် စမ်းရေတသွင်သွင်စီးသံမှအပ တခြားဘာသံကိုမျှလည်း မကြားရချေ။ သို့ဖြင့် ထိုက်ယုသည် နီမောင်းပျော်ဖွယ်ရိပ်သာဆီသို့ လျှောက်လာခဲ့၏။ အစေတော်အချို့သည် ရေခပ်ပြီးသည့်အတွက် ဝရန်တာတွင်ရပ်ကာ တိန်ညင်းငှက်ကလေးများ ရေချိုးနေကြသည်ကို ငေးကြည့်နေကြ၏။ အဆောင်ထဲမှ ရယ်သံများကို ကြားရသဖြင့် ထိုက်ယုသည် အထဲသို့ဝင်သွားသည်တွင် လိဝမ်း၊ နတ်ငှက်မယ်နှင့် ပေါက်ကြည်တို့ ရောက်နေသည်ကို တွေ့ရ၏။ သူတို့သည် ထိုက်ယုကိုမြင်လျှင် ပြုံး၍ နှုတ်ဆက်ကြ၏။

"ဟော တစ်ယောက်လာပြန်ပြီ"

"ဒီမှာလာပြီး စုကြဖို့ ဖိတ်စာများ ရထားကြသလား မသိဘူးနော်" ဟု ထိုက်ယုက ပြုံး၍ ပြော၏။

"မနေ့က ထိုက်ယုဆီကို လက်ဖက်ရည်ကရား နှစ်ကရားပို့လိုက်တယ်။ ဘယ်သွားနေသလဲ"

"ဩော်၊ ဟုတ်ကဲ့။ မေ့နေတယ်။ ကျေးဇူးတင်ပါတယ် မလေးငှက်မယ်"

"ဘယ့်နှယ်လဲ ကောင်းတယ် မဟုတ်လား"ဟု နတ်ငှက်မယ်က မေး၏။

"ကောင်းတော့ ကောင်းပါတယ်။ ဒါပေမယ့် ထိုက်ယုကတော့ အမွှတ်တမဲ့ပဲ။ ဒီပြင်လူတွေတော့ ဘယ့်နှယ်နေမလဲမသိဘူး"

"အနံ့ကလေးကတော့ ကောင်းပါတယ်။ ဒါပေမယ့် အရောင်က သိပ်မကောင်းလှဘူး"ဟု ပေါက်ကြည်က ပြော၏။

နတ်ငှက်မယ်က

"အယုဒ္ဓယက ရွှေနန်းတော်ကြီးကို လက်ဆောင်ပဏ္ဏာအဖြစ် ဆက်လိုက်တဲ့ လက်ဖက်ခြောက်လေ။ ထိပ်ထားက ပို့လိုက်လို့ ပြောလို့သာ ပြောရတယ်။ ငှက်မယ်တို့တော့ ဒီမှာ နေ့တိုင်းသောက်နေရတဲ့ လက်ဖက်ခြောက်တွေလောက် မကြိုက်ပေါင်"

"ထိုက်ယုတို့ကတော့ ကြိုက်ပါတယ်။ အေးလေ၊ ကိုယ့်အကြိုက်နဲ့ ကိုယ်ပေါ့"

"ဒီလိုဆို ပေါက်ယုဆီမှာ လက်ဖက်ခြောက်တွေ အများကြီး ကျန်သေးတယ်။ ယူပါလား"

"ထိုက်ယု ကြိုက်တယ်ဆိုယင် ငှက်မယ်မှာ အများကြီးရှိပါတယ်"

"ကောင်းတာပေါ့။ ထိုက်ယု အစေတော်တစ်ယောက်ကို အယူခိုင်းလိုက်မယ်လေ"

"အမယ်လေး မလိုပါဘူး ထိုက်ယုရယ်။ ငှက်မယ် အပို့ခိုင်းလိုက်မှာပေါ့။ မနက်ဖြန်မှာ လက်ဖက်ခြောက်လဲ ပို့လိုက်မယ်။ ပြီးတော့ ထိုက်ယုကိုလဲ တစ်ခု အကူအညီတောင်းရဦးမယ်"

"ဟော ကြည့်စမ်း၊ ကြည့်စမ်း။ ထိုက်ယုကို လက်ဖက်ခြောက်ကလေး နည်းနည်းပါးပါးပေးပြီးတော့ ခိုင်းတော့မလို့"ဟု ထိုက်ယုက ပြောလိုက်၏။

နတ်ငှက်မယ်က တခစ်ခစ်ရယ်လိုက်လျက်





"အမယ်လေး၊ အကူအညီကလေး ဒီလောက်တောင်းတာများ နှမြောနေလိုက်တာ။ အကူအညီတောင်းတာကလဲ သိပ်မများပါဘူး။ ဟိုရှေးစာထဲကလို 'တို့တိုက်သည့်ရေ၊ တို့လက်ဖက်ရည်သောက်၊ တစ်ကျိုက်လောက်နှင့်၊ တစ်ယောက်ချွေးမ၊ တော်စပ်ရမူ' ဆိုတဲ့ စာလိုလေ"

အားလုံးပွဲကျသွားကာ ဝါးခနဲ ရယ်လိုက်ကြသဖြင့် ထိုက်ယုမှာ မျက်နှာလေး နီရဲလျက်ရှိရာက ဘာမှမပြောနိုင်တော့ဘဲ တစ်ဖက်သို့ လှည့်နေလေ၏။

လီဝမ်းက ခပ်ပြုံးပြုံးဖြင့် ပေါက်ကြည်ဘက်သို့ ကြည့်လိုက်ရင်း "ဟောဒီက ယောင်းမကကော၊ ပြက်လုံးထုတ်စမ်းပါဦး"

ထိုက်ယုက ဆတ်ခနဲလှည့်လိုက်ကာ

"ဘာပြက်လုံးလဲ။ ဒါမျိုးမနောက်နဲ့။ ထိုက်ယု မကြိုက်ဘူး"

နတ်ငှက်မယ်က အပြုံးမပျက်ဖြင့် ပေါက်ယုဘက်သို့ လက်ညှိုးထိုးပြလိုက်ကာ

"ဘာတွေဖြစ်နေတာလဲ။ ပေါက်ယုက ငှက်မယ်တို့တူ။ ဒီတော့ ထိုက်ယုက ငှက်မယ်တို့ရဲ့တူမ-ချွေးမ မဖြစ်ချင်ဘူးလား။ ကြည့်စမ်း၊ ပေါက်ယုက ဘယ်လောက်ချောသလဲ။ ရုပ်ကလဲ ပြောစရာမရှိ၊ မျိုးရိုးဆိုလဲ ပြောစရာမရှိ၊ ပစ္စည်းဆိုလဲ ပြောစရာမရှိ။ ဒီလောက် ရွှေသွားနောက်လိုက်ညီတာ ဘယ်ရှိမလဲကွယ်၊ မဟုတ်ဘူးလား"ဟု နတ်ငှက်မယ်က စ၏။

ထိုက်ယုသည် ပြန်ရန် ဟန်ပြင်လိုက်၏။

"ထိုက်ယုကလဲကွယ်။ နောက်တာပဲ၊ စိတ်ဆိုးစရာလား။ လာပါ၊ ပျော်ပျော်ပါးပါးပေါ့"ဟု ပေါက်ကြည်က လှမ်းခေါ်လိုက်၏။

ပေါက်ကြည်သည် ထိုက်ယုနောက်မှ ပြေးလိုက်လာ၍ ခေါ်၏။ သို့ရာတွင် တံခါးမသို့အရောက်၌ ပေါက်ယုကို လိုက်ရှာနေကြသော အမြှောင်မယားချောနှင့် ချူတို့ကို တွေ့ရ၏။ လီဝမ်း၊ ပေါက်ကြည်နှင့် ပေါက်ယုတို့က သူတို့နှစ်ယောက်ကို လက်ဖက်ရည်သောက်ရန် ဖိတ်ခေါ်ကြ၏။ သို့ရာတွင် နတ်ငှက်မယ်ကမူ သူတို့နှစ်ယောက်ကို အလျဉ်း ဂရုမစိုက်ဘဲ ထိုက်ယုနှင့် စကားပြောလျက်ရှိ၏။ ပေါက်ကြည်က တစ်စုံ

တစ်ရာ ပြောမည်အပြုတွင် သခင်မဝမ်ထံမှ အစေတော်တစ်ယောက် ရောက်လာကာ မိန်းမပျိုများအား ဝမ်ဇူတိန်၏မိန်းမက တွေ့လိုသဖြင့် အခေါ်လွှတ်လိုက်ကြောင်းဖြင့် ပြောဆိုလေ၏။ နတ်ငှက်မယ်နှင့် မိန်းမပျိုများအား လိုက်သွားရန် လီဝမ်းကတိုက်တွန်း၏။ ချောနှင့် ချူတို့လည်း ပေါက်ယုအပါးမှ ခပ်သုတ်သုတ် ထွက်သွားကြ၏။

"ကျွန်တော် အပြင်ထွက်လို့မရဘူး။ ဘာဖြစ်ဖြစ် မလေး ငှက်မယ်တော့ ကျွန်တော့်အနားကို မလာပါစေနဲ့။ သူက အလုပ်များတယ်မဟုတ်လား။ မလေးထိုက်ယု နေခဲ့ပါဦး။ ပေါက်ယု စကားပြောစရာရှိလို့"

ငှက်မယ်က ထိုက်ယုဘက်သို့လှည့်၍ ပြုံးပြလိုက်ပြီး

"ကဲ၊ နေရစ်ခဲ့ဦးရှင့်။ မလေးကို အလိုရှိသတဲ့"

ငှက်မယ်သည် ထိုက်ယုကို အခန်းဆောင်ထဲသို့ တွန်းလွှတ်လိုက်ပြီးလျှင် လီဝမ်းနှင့်အတူ ထွက်လာခဲ့၏။ နှစ်ယောက်တည်းကျန်ခဲ့သည့်အခါတွင် ပေါက်ယုသည် ထိုက်ယု၏အင်္ကျီလက်ဖျားကို ဆွဲကိုင်ထား၏။ သို့ရာတွင် စကားတစ်လုံးမျှ မပြောနိုင်ချေ။ ထိုက်ယုကလည်း မျက်နှာနီရဲလျက်ရှိနေရာမှ အင်္ကျီကို သူ့လက်မှ အတင်းဖြုတ်လျက် ရှိလေ၏။

"အမယ်လေး မလေးရယ်။ လုပ်ပါဦး။ ခေါင်းထဲက ဘယ်လိုကိုက်မှန်း မသိဘူး။ သိပ်ကိုက်တာပဲဗျာ။ လုပ်ပါဦး"ဟု ပေါက်ယုက ရှုတ်တရက် အော်လိုက်၏။

"ကဲ၊ သူများကို မကောင်းကြံချင်တာ၊ မှတ်ဦး"

"အမယ်လေး၊ မလေးထိုက်ယု၊ တကယ်ပြောတာ။ ပေါက်ယု သိပ်နာတယ်၊ လုပ်ပါဦး၊ သေတော့မယ် ထင်တယ်" ဟု အော်ကာ ပေါက်ယုသည် အိပ်ရာပေါ်တွင် ခုန်လျက်ရှိလေ၏။ ဤတွင် ထိုက်ယုနှင့် အစေတော်များသည် အလန့်တကြားဖြင့် မယ်မယ်နှင့် သခင်မဝမ်ဆီသို့ ပြေးလာပြီး ဖြစ်ပုံကိုပြောပြကြ၏။ ထိုအချိန်၌ သူတို့၏အနားတွင် ဝမ်ဇူတိန်၏မိန်းမလည်း ရောက်လျက်ရှိသဖြင့် အားလုံး ပေါက်ယု၏ အခန်းဆောင်ဘက်ဆီသို့ ပြေးလာခဲ့ကြ၏။ ထိုအချိန်၌ကား ပေါက်ယု မှာ ကိုယ့်ကိုယ်ကို သတ်မည်ဟုဆိုကာ ခန်းဆောင်ထဲတွင် တုတ်ဓားစသည့်





လက်နက်တို့ကို အန္တရာယ်ရှာလျက် ရှိလေ၏။ ပေါက်ယုဖြစ်နေပုံကို မြင်သည့်အခါတွင် မယ်မယ်နှင့်သခင်မဝမ်တို့မှာလည်း မကြည့်ရက်နိုင်သဖြင့် အလန့်တကြားဖြင့် ငိုယိုလျက်ရှိကြ၏။ ထိုအချိန်၌ကား စံအိမ်ကြီး တစ်ခုလုံးမှာ ယောက်ယက်ခတ်လျက်ရှိပြီး အိမ်ရှိလူကုန် ဥယျာဉ်ထဲသို့ ရောက်နေကြလေပြီ။ ကျိရှဲ၊ ဒေါ်လေးဆင့်၊ ကျိချိန်၊ ကျိလျံ၊ ကျိဟုန်၊ ကျိယုန်၊ ကျိယွန်၊ ကျိပင်း၊ ဒေါ်လေးဆွေ့၊ ဆွေ့ဖန်နှင့်တကွ ပစ္စည်းထိန်း ချူယွဲ့၏ဇနီးအပါအဝင် အစေတော်များပါမကျန် ရောက်နေကြလေပြီ။

ထိုသို့ ရှုတ်ရှုတ်သဲသဲဖြစ်နေကြစဉ် နတ်ငှက်မယ်သည် ဓားလွှတ်ကြီး တစ်ချောင်းကို ဝှေ့ယမ်းကာ ပြေးဝင်လာလေ၏။ ထိုမျှမက လမ်းတွင်တွေ့သည့် ခွေး၊ ကြက်၊ လူ စသည်တို့ကိုသည်း လိုက်၍ ခုတ်လျက် ရှိလေ၏။ ဤအဖြစ်ကိုမြင်ရသည်မှာ စောစောကအဖြစ်ထက်ပင် ကြောက်စရာ ကောင်းနေပေသေး၏။ ဤတွင် ချူယွဲ့၏ ဇနီး သည် သန်သန်မာမာ အစေတော်များ၏ အကူအညီဖြင့် နတ်ငှက်မယ် ကို အတင်းဝင်လုံးကာ သူ့လက်ထဲမှ ဓားလွှတ်ကြီးကို မနည်းလုယူရ၏။ ထိုနောက် သူတို့တစ်သိုက်သည် နတ်ငှက်မယ်ကို သူ့အခန်းဆောင်သို့ သယ်သွားကြ၏။ နတ်ငှက်မယ်၏ အစေတော်များဖြစ်သည့် ပင်အဲနှင့်ဖုန်အဲတို့မှာ သူတို့သခင်မဖြစ်ပုံကိုကြည့်၍ ရှိုက်ကြီးတငင်ငိုကြွေးလျက် ရှိကြလေ၏။

ကျိချိန်ပင်လျှင် စိတ်ထိခိုက်ကာ ပေါက်ယုနှင့် နတ်ငှက်မယ်တို့ နှစ်ယောက်စလုံးထံသွား၍ ဂရုတစိုက်ပြုစု၏။ အခြားသူများ အထိတ်တလန့်ဖြစ်ပုံမှာအား ဆိုဖွယ်မရှိတော့ချေ။ သို့ရာတွင် အထိတ်လန့်ဆုံးမှာ ဆွေ့ဖန်ဖြစ်၏။ ဆွေ့ဖန်သည် ရှုတ်ရှုတ်သဲသဲတွင် အဒေမဖြစ်သူ ဒေါ်လေးဆွေ့ ကြားညပ်ပြီး တက်နင်းခံရမည်ကိုလည်း စိုးရိမ်၏။ သူ့ညီမပေါက်ကြည်အား လူတကာ ဝိုင်း ဝန်းပိုး ကြမ့်ည် ကို လည်း စိုးရိမ်၏။ သူ့အပျော်မယား ယင်လင်း(မကြာဖြူ)အား တခြားသူများက ဝင်လုမည်ကိုလည်း စိုးရိမ်လျက်ရှိ၏။ စင်စစ်တွင် ယွန်းစံအိမ်ကြီးမှ ကျိချန် စသူတို့သည် လူရမ်းကားများ မဟုတ်လော။ ထိုသို့

တွေ့၍ စိုးရိမ်လျက်ရှိစဉ် သူ့မျက်လုံးများသည် ထိုက်ယုဆီသို့ ရောက် သွားကြလေ၊ ထိုက်ယု၏အလှတွင် ယစ်မူးလျက် မျက်လုံးများကို မခွာ နိုင်အောင်ဖြစ်လျက် ရှိ၏။

ထိုအချိန်၌အား ပေါက်ယုနှင့် နတ်ငှက်မယ်တို့အား မည်သို့ မည်ပုံ ပြုစုသင့်ကြောင်းကို တစ်ယောက်တစ်မျိုးပြောဆိုလျက် ရှိကြ၏။ အချို့က ပယောဂဆရာများကိုပင့်၍ ကုသင့်သည်ဟု အကြံပေးကြ၏။ အချို့က စုန်းမကိုခေါ်၍ ချွတ်ပေးရန် ပြောကြ၏။ အချို့ကလည်း ကျောက်စိမ်းဘုရင် ဝတ်ကျောင်းမှ တာအိုဘုန်းတော်ကြီး ဆရာတော် ချန်းကို ခေါ်ပင့်ရန် အကြံပေးကြ၏။ အချို့ကလည်း ဂါထာများကို ရွတ်ခြင်း၊ မန္တန်များရွတ်ခြင်းဖြင့် တစ်အိမ်လုံး ယောက်ယက်ခတ်လျက် ရှိလေ၏။ သို့ရာတွင် ဘာမျှမထူးခြားချေ။ နေဝင်ချိန်လောက်တွင် ဝမ်ဇူတိန်၏ဇနီးလည်း အိမ်သို့ပြန်လေ၏။

နောက်တစ်နေ့တွင် ဝမ်ဇူတိန်သည် အကျိုးအကြောင်းကို မေး မြန်းရန် သူကိုယ်တိုင်ပေါက်လာ၏။ ထို့ပြင် မြို့စားကတော်လေး ရှိ၏ ကြင်ရာတော်၊ ဒေါ်လေးဆင့်၏ မောင်များနှင့် ဆွေမျိုးများ အပြင် အခြားသက်ဆိုင်ရာ ဆွေမျိုး အများအပြားလည်း ရောက်လာကြ၏။ အချို့က ဆေးမန်းများကို ယူလာကြ၏။ အချို့ကလည်း ပယောဂ အကုအောင်သည့် တာအိုဘုန်းကြီးများကို ပင့်လာကြ၏။ သို့ရာတွင် ဘာမျှထူးခြားခြင်း မရှိချေ။

ပေါက်ယုနှင့် နတ်ငှက်မယ်တို့မှာ သတိလစ်လျက်ရှိကြ၏။ နှစ် ယောက်စလုံးမှာ တစ်ကိုယ်လုံး ခြစ်ခြစ်တောက်ပူလျက်ရှိကာ ကယောင် ကတမ်း ပြောဆိုလျက်ရှိကြ၏။ ညရောက်လာသည့်အခါတွင် မည်သူ့ မှ အစေတော်မျှ သူတို့အနားသို့ မကပ်ရဲကြသည့်အတွက် သူတို့နှစ်ယောက် ကို သခင်မဝမ်၏အဆောင်သို့ ပြောင်းရွှေ့ကာ ကျယ်နိုက်ကို ကြီးကြပ် စေပြီး သူငယ်တော်များနှင့် အစောင့်ထားရ၏။ မယ်မယ်၊ သခင်မ ဝမ်၊ သခင်မဆင့်နှင့် ဒေါ်လေးဆွေ့တို့မှာ စိတ်ထိခိုက်ကာ တရှုပ်ရှုပ် ငိုလျက်ရှိကြပြီး အိပ်ရန်ပြောသည့်တိုင် မအိပ်ဘဲ သူတို့ကိုယ်တိုင် ခေါင်း တွင် စောင့်ကြပ်လျက်ရှိကြလေ၏။





လူကြီးများမှာ စိတ်ထိခိုက်လွန်းပြီး တစ်စုံတစ်ရာ ဖြစ်မည်ကို စိုးသည့်အတွက် ကျီရှဲနှင့်ကျီချိန်တို့ကိုယ်တိုင် တစ်အိမ်လုံးကို ကြီးကြပ် ခန့်ခွဲလျက်ရှိသဖြင့် မည်သူမျှ အနားမရကြဘဲ အလုပ်များလျက် ရှိ၏။ မည်သူမျှလည်း ၎င်းတို့အား အကြံမပေးရဲဘဲ ဖြစ်နေကြ၏။ ကျီရှဲသည် တာအိုဘုန်းကြီးများ၊ ပယောဂဆရာများ ပင့်၍ ကုသသော် လည်း ဘာမျှမထူးသဖြင့် ကျီချိန်မှာ စိတ်မရှည်နိုင်တော့ဘဲ ထိုပယောဂဆရာ များကို နောက်ထပ်ပင့်ခြင်းမပြုရန် မနည်းပြောယူရလေ၏။

ကျီချိန်က

"သူတို့ကုသိုလ်လို့ပဲ အောက်မေ့ရတော့မှာပေါ့ အစ်ကိုကြီး ရယ်။ သတ္တဝါတစ်ခု ကံတစ်ခုပေကိုး။ သူတို့ဖြစ်ပုံက ကြိုတင်လဲသိရ တာမဟုတ်ဘဲ ဗြုန်းစားကြီးလဲ အောက်ဖြစ်ပြီနော်၊ ဆေးဝါးတို့ဘာတို့ တိုက်လို့လဲ မသက်သာဆိုတော့ ဘုရားကိုပဲ ကိုးကွယ် ရတော့မှာပေါ့။ ပီတော့ နောက်ထပ်လဲ ဘယ်ပယောဂဆရာတွေကိုမှ ပင့်မနေနဲ့တော့။ ပီအတိုင်း စောင့်ကြည့်ရတော့မှာပဲ"

သို့ရာတွင် ကျီရှဲသည် ကျီချိန်၏အကြံဉာဏ်ကိုလည်း လက်မခံ ချေ။ နည်းအမျိုးမျိုး စဉ်းစားကာ တစ်မျိုးပြီး တစ်မျိုး ကုသလျက် ရှိ၏။ သို့ရာတွင် အကြောင်းမထူးချေ။

တတိယမြောက် နေ့၌မူ လူမမာနှစ်ယောက်မှာ အခြေအနေ အတော်ဆိုးလာခဲ့လေပြီ။ တစ်အိမ်လုံးမှာလည်း အားလျော့စပြုလေပြီ။ မျော်လင့်ချက်မှုန်သမျှကို စွန့်လွှတ်လိုက်ပြီဖြစ်သည့်အတွက် အသုဘကိစ္စ ကိုပင် ကြိုတင်စီမံလျက်ရှိကြလေပြီ။ မယ်မယ်၊ သခင်မဝမ်၊ ကျီလျံ၊ ပင်အဲနှင့် မာလာတို့မှာ စားလည်း မစား၊ အိပ်လည်း မအိပ်ကြဘဲ အခြားသူများထက် ပူဆွေးသောကရောက်လျက် ရှိကြ၏။ အမြောင် မယား ချောနှင့် သူ့သား ကျီဟုနီတို့သာလျှင် တိတ်တဆိတ် ဝမ်းသာ လျက်ရှိကြလေ၏။

စတုတ္ထမြောက် မနက်တွင် ပေါက်ယုသည် မျက်လုံး ပွင့်လာ လေ၏။

"ပေါက်ယူ သွားရတော့မယ် မယ်မယ်။ မြန်မြန်လုပ်ကြပါ၊ ပေါက်ယူ သွားပါရစေတော့"ဟု ငိုလျက်ရှိသည့် သူ့ဘွားအောက် ပြောဆိုခြင်းပြု၏။ ထိုစကားလုံးများသည် မယ်မယ်၏နှလုံးသားကိုဖျစ် ညှစ်နေသကဲ့သို့ ရှိလေ၏။ ဤတွင် ချောက

"စိတ်ဖြေပါမယ်မယ်ရယ်။ လူလေးမျော သွားတာပဲ ကောင်းပါတယ်။ သူ့ခမျာ ဝေဒနာကိုခံလိုက်ရတာ မမြင်ရက်စရာကြီး။ သူ့ဘာသာသူ အေးအေးဆေးဆေးပဲ အသက်ကုန်ပါစေတော့။ မယ်မယ်က ဒီလောက် သံယောဇဉ်ကြီးနေယင် သူ အသေဖြောင့်မှာလဲ မဟုတ်ဘူး။ နောင်ဘဝကျယင်လဲ ဘဝကူးကောင်းမှာ မဟုတ်ဘူး"

သူ့စကား မဆုံးခင် မယ်မယ်သည် ထွ ခနဲ တံတွေး ထွေး လိုက်ပြီး

"သောက်ကောင်မ တိတ်။ နမိတ်မရှိတဲ့ စကားတွေ ငါ့ကိုလာ မပြောနဲ့၊ နင့်ကို ဘယ်သူကမေးလို့ ပြောရတာလဲ။ နောင်ဘဝကျယင် သူ ဝဋ်ခံရမယ်ဆိုတာ နင်က ဘာဖြစ်လို့ သိတာလဲ။ သေသွားတာပဲ ကောင်းပါတယ်လို့ နင်က ဘာဖြစ်လို့ပြောရတာလဲဟင်။ ငါ့မြေး သေသွားတော့ နင်တို့မှာ ဘာများအကျိုးရှိလို့လဲ။ နင်ဟာ အကောက်ကြံ နေတဲ့ကောင်မ၊ ငါ့မြေးများသေသွားယင် နင့်ကိုအသတ်ပဲ သိလား။ ငါသိတယ်။ ဒီကိစ္စဟာ နင့်လက်ချက်ဖြစ်မှာပဲ။ ကလေးကို စာတွေ အသင်ခိုင်း၊ စိတ်ဓာတ်တွေ အညွန့်ကျိုးအောင်လုပ်ပြီး အဖေကိုမြင် တာနဲ့ ကြောင်ကိုမြင်တဲ့ကြွက်လို လန့်နေအောင်လုပ်ထားတာ။ ခု ငါ့ မြေးကို နင့်စုန်းမတွေ နင့် နတ်ကတော်တွေ ပူစားထားတာ ငါသိ တယ်။ ဒါပေမယ့် နင် ဝမ်းသာမယ်မကြံနဲ့။ နင်ပါ ဒုက္ခလှလှကြီး တွေ့မယ် သိရဲ့လား"

မယ်မယ်၏ငိုသံနှင့် ဆဲဆိုကြိမ်းမောင်းနေသည့် အသံတို့ကိုကြား ရသည့်အခါတွင် ကျီချိန်မှာလည်း အကြီးအကျယ်စိတ်ထိခိုက်ကာ သူ့ အမြောင်မှယား ချောကို နှင်ထုတ်လိုက်ပြီးလျှင် မိခင်ကြီးကိုချော့မော့ နှစ်သိမ့်လျက်ရှိ၏။ ထိုအခိုက်တွင် အစေခံ တစ်ယောက် ဝင်လာကာ





မှာထားသည့်တလားနှစ်လုံး ရောက်လာပြီဖြစ်ကြောင်းဖြင့် ပြောဆို၏။ ဤတွင် မယ်မယ်မှာ ယမ်းပုံမီးကျဖြစ်ကာ ဒေါသထက်ပင် ဒေါသ ထွက်လာခဲ့လေပြီ။

"လာစမ်း၊ ဒီတလားနှစ်လုံးကို ဘယ်သူမှာတာလဲဟင်။ သွား တလားလုပ်တဲ့ကောင်တွေ ခေါ်ခဲ့။ ပြီးတော့ သေအောင်ရိုက်ကြစမ်း"

မယ်မယ်သည် ထိုသို့ဒေါသထွက်နေစဉ် ကြေးစည်သံလိုလို အသံ တစ်ခုကို နားထဲတွင် ကြားလိုက်ရ၏။

"ဗုဒ္ဓမြတ်စွာဘုရားကို ကိုးကွယ်ဆည်းကပ်ကြကုန်။ ပူဆွေးသူ၊ ထိခိုက်သူ၊ ဘေးဒုက္ခရောက်သူ၊ မကောင်းသောပယောဂတို့ ကပ်ငြိသူ တို့အား တရားတော်ကသာလျှင် ကယ်တင်နိုင်ကုန်သည်ဖြစ်၍....။

မယ်မယ်နှင့် သခင်မဝမ်တို့သည် ချက်ချင်းပင် ကိုရင်ကြီးကို အပင့်ခိုင်းလိုက်ကြလေ၏။ ကျီချိန်မှာ ထိုကိုရင်ကြီးကိုမပင့်လိုသည့်တိုင် မယ်မယ်၏စကားကို မလွန်ဆန်သာသဖြင့် လိုက်လျောလိုက်ရ၏။ စံအိမ် တွင်း ကြည်ကြည်လင်လင် ကြားနေရသော ထိုအသံကိုလည်း ကျီချိန် သည် အံ့ဩလျက်ရှိလေ၏။ ကျီချိန်သည် အစေခံတစ်ယောက်ကို ခေါ် ကာ ကိုရင်ကြီးကို အပင့်ခိုင်းလိုက်၏။ ခဏကြာလျှင် ခေါင်းတွင် ဒက် တွေပြည့်နေသည့် ကိုရင်ကြီးတစ်ပါးနှင့် ခြေတစ်ဖက် ကျိုးနေသည့် တာအိုဘုန်းကြီးတစ်ပါးတို့ ကြွလာကြ၏။ ကိုရင်ကြီး၏ သွင်ပြင်မှာ အောက်ပါ ရေးစာဆိုအတိုင်း ဖြစ်လေ၏။

နှာသီးကနီ၊ မျက်တောင်ရှည်၍
ကြယ်ရောင်ပြိုးပြက်၊ မျက်လုံးနက်နှင့်
ဒက်တို့ဆင်ယင်၊ ဦးခေါင်းပြင်နှင့်
ခြေတွင်ကြားညှပ်၊ မြက်ဖိနပ်နှင့်
လေလွင့်သူတော်၊ မြင်ရတော်မူ
အော်ဂလီဆန်၊ ပျို့အန်ချင်ဖွယ်....။

တာအိုဘုန်းတော်ကြီး၏ သွင်ပြင်မှာ အောက်ပါစာဆိုအတိုင်း ဖြစ်လေ၏။

ခြေတစ်ဖက်တိုလို့ ခြေတစ်ဖက်ရှည်(ရှေ)
သူ့တစ်ကိုယ်လုံးမှာ ရွှံတွေသဲတွေဖုံးအုပ်နေ
ဘယ်ကလာလို့ သူငါမေး
သံသရာပင်လယ်ရဲ့ အနောက်ဘက်ကျွန်းကလေး တဲ့။

ကျီချိန်က မည်သည့်ကျေးရင်းတွင် သီတင်းသုံးသနည်းဟု မေး မြန်း၏။ ကိုရင်ကြီးအပြုံးလျက်

"ဒါတွေ မေးမနေပါနဲ့လေ။ တကာကြီးအိမ်မှာ လူမမာရှိတယ် လို့ ကျုပ်တို့ကြားလို့ ကုရအောင်လာတာပဲဗျ"

"မှန်ပါတယ်ဘုရား၊ တပည့်တော်ရဲ့ အိမ်မှာ လူနှစ်ယောက်ကို အမှောင့်ပယောဂ ပူးနေပါတယ် ဘုရား။ ကိုယ်တော်တို့မှာ အစွမ်း ထက်တဲ့ ဆေးကောင်းဝါးကောင်းများ ပါပါသလား ဘုရား"

ခြေတစ်ဖက်ကျိုးနေသည့် တာအိုဘုန်းတော်ကြီးက

"ကျုပ်တို့ဆီကိုလာပြီး ဆေးရှိသလားဘာလားနဲ့ မေးမနေပါနဲ့ တကာကြီး။ တကာကြီးရဲ့ အိမ်မှာ ရောဂါ ဝေဒနာတွေကို ပျောက် အောင်ကုနိုင်တဲ့ ရတနာတစ်ခုရှိတယ်ဗျ"

ထိုသည်နှင့် တစ်ပြိုင်နက် ကျီချိန်သည် အခိပ္ပာယ်ကို ချက်ချင်း သဘောပေါက်လိုက်လေပြီ။

"တပည့်တော်ရဲ့သားဟာ မွေးတုန်းက ခံတွင်းမှာ ကျောက်စိမ်း တုံး တစ်တုံးကိုငုံပြီး မွေးလာတယ်ဆိုတာ မှန်ပါတယ်ဘုရား။ အဲဒီ ကျောက်စိမ်းတုံးပေါ်မှာပါတဲ့ ကမ္ပည်းစာများအလိုအရ ဒီပစ္စည်းဟာ မကောင်းမှုတွေ၊ အန္တရာယ်တွေကို ဖယ်ရှားနိုင်တယ်လို့ဆိုပါတယ်ဘုရား။ သို့သော်လဲ ခုအထိတော့ ဘာမျှမထူးခြားပါဘုရား"

"အဲဒီကျောက်မှာ အလွန် ထူးခြားဆန်းကြယ်တဲ့ တန်ခိုးသတ္တိ တွေ ရှိတယ်ဗျ၊ ခုတော့ ကာမဂုဏ် အာရုံကို ခံစားပြီး နိဝရဏ အညစ် အကြေးတွေ ကပ်ငြိနေလို့ တန်ခိုးပြယ်နေတယ်။ ကဲ ကျုပ်ကို ပေးစမ်း။ နဂိုရှိရင်းစွဲ တန်ခိုးသတ္တိတွေရှိအောင် ကျုပ် မန်းမှုတ်ပေးခဲ့မယ်"





ကျီချိန်သည် ပေါက်ယုလည်တွင် ဆွဲထားသည့် ကျောက်စိမ်း တုံးကိုဖြုတ်၍ပေးလိုက်၏။ တာအိုဘုန်းတော်ကြီးသည် ကျောက်စိမ်း တုံးကို လက်ဖဝါးပေါ်တွင် တရိုတသေတင်ကာ သက်ပြင်းချလိုက်ရင်း

"အင်း၊ သေလာပဗ္ဗတတောင်ထိပ်မှာ သင့်ကို ကျုပ်တို့ထားခဲ့တဲ့ ဆယ့်သုံးနှစ်ကာလဟာ မျက်စိတစ်မှိတ်လောက်ပဲ ကြာလိုက်တယ်လို့ထင် ရပေတယ်။ လူ့ဘဝမှာ အချိန်ဟာ တယ်ပြီး ကုန်လွယ်တတ်ပေတယ်။ ယခု သင့်ကိုကြည့်ရသည်မှာ လောကီစည်းစိမ်တို့ကို တပ်မက်ဆဲဖြစ်တယ်။ ယခင်ကကဲ့သို့ဖြစ်ခဲ့ယင် ဘယ်လောက်များကောင်းမလဲ"

ကောင်းကင်နှင့် မြေကြီးတို့ အနှောင်အဖွဲ့မှ လွတ်မြောက်သည် ဖြစ်၍
ဝမ်းသာခြင်းနှင့် ဝမ်းနည်းခြင်းတို့မှ လွတ်မြောက်သည်ဖြစ်၍
သင်၏ နာမ်ခန္ဓာသည် လွတ်မြောက်စေသတည်း။
သင်၏နာမ်တန်ခိုးကို ထက်မြက်စေရန် ဖန်ဆင်းခဲ့သည့်တိုင်
သင်သည် ဒုက္ခဆင်းရဲကိုရှာရန် လူ့လောကသို့ ရောက်ခဲ့ပေ၏။
ယခုမူ သင်၏ အခြေအနေသည် သနားစဖွယ်ကောင်းလေပြီ။
နံ့သာနှင့် နှုတ်ခမ်းဆိုးဒန်းနီတို့သည်
သင်၏အရောင်ကို မှိန်စေခဲ့ပြီ။
ပိုးခန်းဆောင်ထဲ၌ သင်၏နှလုံးသားသည်
နေ့ညမဟူ ထောင်ချောက်တွင်းသို့ ကျခဲ့ပြီ။
နောက်ဆုံး၌ အသင်သည် အိပ်မက်မှ နိုးလာရပေအံ့။
အကြွေးအားလုံးကို ဆပ်ပြီးသည်၏ အခြားမဲ့၌
ချစ်သူတို့သည် ခွဲခွာကြရပေအံ့။

ထိုသို့ရွတ်ဆိုပြီးနောက် ဘုန်းတော်ကြီးသည် ကျောက်စိမ်းတုံးကို အဖန်ဖန်ပွတ်တိုက်ပြီးနောက် တတွတ်တွတ်ဖြင့် မန်းမှုတ်ကာ ကျီချိန်ကို ပြန်၍ပေးလိုက်၏။

"ရော့ တကာကြီးယူ။ တန်ခိုးသတ္တိတွေ ပြန်ပြီးထက်မြက်လာ ပြီ။ နို့ပေမယ့် အထွတ်အမြတ်ပစ္စည်းတစ်ခုအနေနဲ့ တရိုတသေထားပါ။ ညစ်ညမ်းတဲ့နေရာတွေမှာ မထားပါနဲ့။ လူမမာနှစ်ယောက်ကို တစ်ခန်း

တည်းမှာထားပြီး ဒီကျောက်စိမ်းတုံးကို အခန်းတံခါးဝမှာ ချိတ်ဆွဲထားပါ။ တကာကြီးရဲ့ အမေနဲ့ ဇနီးကလွဲလို့ တခြား ဘယ်မိန်းမမှ အခန်းထဲကို မဝင်ပါစေနဲ့။ နောက်သုံးဆယ့်သုံးရက်အတွင်းမှာ လုံးဝ အကောင်းပကတိ ပြန်ဖြစ်သွားလိမ့်မယ်''

ထိုသို့ပြောဆိုပြီးလျှင် ကိုရင်ကြီးနှင့် တာအိုဘုန်းကြီးတို့သည် ပြန်ကြသွားကြ၏။

ကျိချိန်သည် သူတို့နောက်မှ ခပ်သုတ်သုတ်လိုက်သွားကာ ကျေးဇူးတင်၍ လက်ဖက်ရည်များဘဦးပေးရန် လျှောက်ထားသော်လည်း ကိုရင်ကြီးနှင့် တာအိုဘုန်းကြီးတို့သည် လက်မခံဘဲ ပြန်ကြသွားကြ၏။ မယ်မယ်က အိမ်စေများကို ခေါ်၍ ရဟန်းနှစ်ပါးနောက်သို့ လိုက်သွားကြရန် ခိုင်းသေးသော်လည်း အရိပ်အယောင်ကိုမျှ မတွေ့ရတော့ချေ။

ထိုနောက်တွင် ၎င်းတို့ညွှန်ကြားသည့်အတိုင်း ကျောက်စိမ်းတုံးကို လူမမာနှစ်ယောက်ရှိရာ သခင်မဝမ်၏ ခန်းဆောင်တံခါးဝတွင် ချိတ်ဆွဲထား၏။ ခန်းဆောင်ထဲသို့ မည်သည့်မိန်းမမျှမဝင်ရန် သခင်မဝမ်ကိုယ်တိုင် အထူး စောင့်ကြပ်ကြည့်နေ၏။ ညပိုင်းသို့ ရောက်သည့်အခါတွင် လူမမာနှစ်ဦးစလုံး ပြန်၍ သတိရလာကြကာ ဆာသည်ဟု ပြောသဖြင့် မယ်မယ်နှင့် သခင်မဝမ်တို့မှာ ဝမ်းသာလျက်ရှိကြ၏။ ဆန်ပြုတ်တိုက်ပြီးသည့်အခါတွင် နှစ်ယောက်စလုံးမှာ အတော်အတန် သက်သာလာခဲ့ကာ ပူးကပ်နေသည့် အမှောင့်ပယောဂများသည် ဆုတ်ခွာ ထွက်ပြေးကြ၏။ နောက်ဆုံး၌ အားလုံးအသက်ကို ဖြောင့်ဖြောင့်ရှူကြလေပြီ။ လီဝမ်း၊ တန်ချွန်းတို့ ညီအစ်မများ၊ ပေါက်ကြည်နှင့် ထိုက်ယုတို့သည် အပြင်ဘက်ခန်းတွင် ပင်အဲတို့၊ မာလာတို့နှင့်အတူ စောင့်ဆိုင်းနေကြရာ လူမမာနှစ်ယောက် သတိပြန်ရလာပြီး ဆန်ပြုတ်သောက်နိုင်ပြီဖြစ်ကြောင်းဖြင့် ကြားရ၏။ မည်သူကမျှ စကားမပြောနိုင်မီ ထိုက်ယုက

''အမယ်လေး မြတ်စွာဘုရားဂုဏ်ကျေးဇူးတော်ကြောင့် တော်ပါသေးရဲ့''ဟု ပြောလိုက်၏။





ပေါက်ကြည်က လှည့်ကြည့်လိုက်ရင်း ရယ်လိုက်၏။ ပေါက်ကြည် ရယ်သည်ကို ဆိချွန်းတစ်ယောက်သာလျှင် သတိပြုလိုက်မိ၏။

''ပေါက်ကြည်က ဘာကိုရယ်နေတာလဲဟင်''

''လူတွေဆုတောင်းတိုင်းသာ လိုက်ဖြည့်နေရမယ် ဆိုယင်တော့ ဘုရားမှာ ဘော်တော်အလုပ်များမှာပဲလို့ တွေးမိလို့ပါ။ ဘုရားမှာ သစ္စာလေးပါး တရားကိုလဲ ဟောရသေးတယ်။ လူတွေကို အကျွတ်တရားရအောင်လဲ ကယ်တင်ရသေးတယ်။ ပြီးတော့ လူတွေကို အနာရောဂါမကပ်ရောက်အောင်လဲ စောင့်မတော်မူရသေးတယ်။ ကြည့်လေ၊ ဒီနေ့ဆိုယင် ပေါက်ယုနဲ့ ငှက်မယ်တို့ကို စောင့်မရသေးတယ်။ ဒါနဲ့မပြီးသေးဘူး။ ထိုက်ယုကို လင်ကောင်းသားကောင်း ရအောင်လဲ စောင့်မရဦးမယ်ဆိုတော့ ဘုရားမှာ သိပ်အလုပ်များနေမှာပေါ့၊ ဒါကိုတွေးမိလို့ ရယ်တာပေါ့''

ထိုက်ယု၏မျက်နှာသည် နီရဲသွားကာ ထွီခနဲ တံတွေးထွေးလိုက်၏။

''တော်တော်စိတ်ထားယုတ်တယ်။ ဒီလိုယုတ်တဲ့လူမျိုး ဘယ်လိုတဝများ ရောက်မလဲမဆိုနိုင်ဘူး။ ကောင်းတဲ့လူဆိုက ကောင်းတဲ့အတုတော့ မခိုးဘူး။ မဟုတ်ဘရုတ် လျှောင်ဖို့ပြောင်ဖို့ကျတော့ ငှက်မယ်ဆီက အတုခိုးတယ်''

ထိုက်ယုသည် ခန်းဆီးကို ဆွဲဖယ်ကာ အပြင်သို့ထွက်သွား၏။

မည်သို့ဖြစ်သည်ကို သိလိုမူ နောက်တစ်ခန်းကို ဖတ်ပါလေ။

## အခန်း ၂၆

### ခါချဉ်ခါးတံတား၌ ရှောက်ဟုန်သည် သူ့ခံစားချက်ကို အရိပ်အမြွက်ပြခြင်း။
### ဝေဠုဝန်ရိပ်သာမှ ပျင်းရိဖွယ် နေ့ဦး၌ ထိုက်ယုသည် နှလုံးသားကို ဖွင့်ပြခြင်း။

သုံးဆယ့်သုံးရက်အတွင်း၌ ပေါက်ယုမှာ ခွန် အား ပြည့် လာ ခဲ့ က မျက် နှာ မှ မီးလောင်သည့် ဒဏ်ရာတို့လည်း ပျောက်ကင်းသွားပြီဖြစ် သဖြင့် ဥယျာဉ်ထဲရှိ သူ့ခန်းဆောင်သို့ပြန်၍ ပြောင်းခဲ့၏။

ပေါက်ယုံ မှကျန်းမမာဖြစ်နေသည့် ကာလအတွင်း၌ ကျိယွန် သည် သူငယ်တော်များကိုကြီးကြပ်ကာ ပေါက်ယုအနီးတွင် အမြဲတမ်း စောင့်ကြပ်ကြည့်ရှုခဲ့သည်တွင် ရှောက်ဟုန်နှင့်တကွ အခြားအစေတော် များကို မကြာခဏတွေ့ရသဖြင့် ၎င်းတို့နှင့် ရင်း နှီး လျက် ရှိ လေ ပြီ။ ကျိယွန်ထံတွင် မိမိကျပျောက်ခဲ့သည့် လက်ကိုင်ပဝါနှင့် ဆင်တူသည့် လက်ကိုင်ပဝါတစ်ထည် ရှိနေခြင်းကို ရှောက်ဟုန် သတိပြုမိ၏။ တစ်ခါ တွင် ထုတ်၍မေးမည်ပြုသေးသော်လည်း ရှက်သဖြင့် မမေးဖြစ်ခဲ့ချေ။ ကိုရင်ကြီးနှင့် တာအိုဘုန်းကြီးတို့ ကြွလာပြီးသည့်နောက်တွင် အခန်း ထဲ၌ ယောကျ်ားများ လူမမာစောင့်ရန် မလိုတော့သည့်အတွက် ကျိယွန်





မှာ ဥယျာဉ်ထဲရှိ သစ်ပင်စိုက်သည့်လုပ်ငန်းကို ပြန်လည်လုပ်ကိုင်လျက် ရှိ၏။ ရှောက်ဟုန်သည် လက်ကိုင်ပဝါကိစ္စကို မေးချင်သော်လည်း အခြားအစေတော်များ သက်ာမကောင်းဖြစ်မည် စိုးသည့်အတွက် မမေး ရဲဘဲဖြစ်လျက်ရှိ၏။ သို့ဖြင့် မည်သို့လုပ်ရမည်မသိဘဲဖြစ်နေစဉ် ပြတင်း ပေါက်နားဆီမှ အသံတစ်သံကို ကြားလိုက်ရ၏။

"ရှောက်ဟုန်တစ်ယောက်တည်းလား ဟင်"

ပြတင်းပေါက်မှ လှမ်းကြည့်လိုက်သည့်အခါ၌ မိမိနှင့်လုပ်ဖော် ကိုင်ဘက်ဖြစ်သော ကျိယွန်ကို တွေ့ရ၏။ ရှောက်ဟုန်က အထဲသို့ဝင်လာ ရန် ခေါ်လိုက်သဖြင့် ကျိယွန်လည်း ဝင်လာကာ ခုတင်ပေါ်တွင် ထိုင် လိုက်၏။

"တို့တော့ ပွတာပဲဟေ့။ ငါက ဝင်းထဲမှာ အဝတ်လျှော်နေတုန်း သခင်လေးပေါက်ယုက မလေးထိုက်ယုဆီကို လက်ဖက်ရည် အပို့ခိုင်း တယ်အေ့။ ဒါနဲ့ မာလာက ငါ့ကိုခေါ်ပြီး အပို့ခိုင်းလိုက်တယ်။ အဲဒီတုန်းမှာ မယ်မယ်က သခင်မလေးထိုက်ယုဆီကို ပိုက်ဆံပေးတာနဲ့ ကြုံနေတော့ မလေးထိုက်ယုက တို့အစေတော်တွေကို ခွဲဝေပေးလိုက် တယ်။ ငါ့ကိုမြင်တော့ မလေးထိုက်ယုက ပိုက်ဆံနှစ်ထုပ်ပေးလိုက်တာ ပဲ။ ဘယ်လောက်မှန်းတော့ မသိဘူး။ ဒီမှာ ရေကြည့်စမ်းပါဦး"

ကျိယွန်က လက်ကိုင်ပဝါကိုဖြေကာ အကြွေများကို သွန်ချ လိုက်၏။ ရှောက်ဟုန်က သူ့အတွက်ရေပေးစာ ပိုက်ဆံများကို ပြန် ပေးလိုက်၏။

"နေစမ်းပါဦး၊ မေးရဦးမယ်။ ခုတလော ညည်းကိုကြည့်ရတာ တမှိုင်မှိုင်နဲ့။ နေလို့ထိုင်လို့မှ ကောင်းရဲ့လား။ အိမ်ပြန်ပြီး တစ်ရက် နှစ်ရက် သွားနားပါလား။ နေမကောင်းယင်လဲ ဆေးဆရာပင့်ပြီး ဆေးလေးဘာလေးများ စားဦးအေ့"

"အလို၊ ငါက ဘာများဖြစ်လို့တုံး။ ကောင်းသားပဲ။ ဘာဖြစ် လို့ အိမ်ပြန်ရမှာလဲ"

"အမယ်လေး၊ ညည်းကိုကြည့်တာနဲ့ သိပါတယ်အေ။ သခင်မလေး ထိုက်ယုဆီကို ဆေးလေး ဘာလေး တောင်းစားကြည့်ပါလား။ သူကတော့ နုနုနယ်နယ်ဆိုတော့ အမြဲတမ်း ဆေးဆောင်ထားရတယ်။ သူ့ဆီက ဆေးတောင်းသောက်လိုက်ယင် ကောင်းသွားမှာပေါ့"

"ကြံကြီးစည်ရာအေ။ တွေ့ကရာဆေးကို သောက်သောက်နေလို့ ဖြစ်ပါ့မလား"

"ကြံကြီးစည်ရာတွေ ဘာတွေ လုပ်မနေနဲ့တော့၊ တော်တော်ကြာ မစားနိုင်မသောက်နိုင်ဖြစ်ပြီး မကျန်းမမာဖြစ်လို့ သေတော်ခေါ် နေဦးမယ်"

"သေသွားလဲ အေးတာပေါ့အေ။ စောစောအိပ်ရတာပေါ့"

"ကောင်မကလဲဟယ်။ နမိတ်မရှိနမာမရှိ၊ မပြောပါနဲ့"

"ငါ့ရင်ထဲမှာ ဘယ်လိုဖြစ်နေတယ်ဆိုတာ ညည်းတို့မသိပါဘူး အေ"

ကျီယွမ်သည် ခေါင်းတညိတ်ညိတ်လုပ်ရင်း စဉ်းစားနေ၏။

"အေးလေ။ တကယ်ဆိုတော့လဲ ညည်းကို ဘာမှ အပြစ်ပြောစရာ မရှိပါဘူး။ ခုတလော ငါလဲ ဒီမှာနေရတာ သိပ်မပျော်ဘူးအေ။ မနေ့ကကိစ္စပဲ ကြည့်၊ သခင်လေးပေါက်ယု နေထိုင်မကောင်းတုန်းမှာ ကြိုးကြိုးစားစား ပြုစုတဲ့သူတွေကို သူ့အဆင့်အလိုက် ဆုငွေပေးမယ်လို့ မယ်မယ်က ပြောထားတယ်မဟုတ်လား။ ခုဆိုယင် သခင်လေးပေါက်ယုလဲ နေပြန်ကောင်းပြီပဲ။ တစ်ပြားမှ ဆုမချဘူး။ ငါတို့လို ခပ်ငယ်ငယ် အဆင့်နိမ့်တဲ့ အစေတော်တွေကို ဆုမပေးတာကို ငါဘာမှ မပြောလိုပါဘူး။ ဒါပေမယ့် ညည်းတို့လို အဆင့်ကျတော့ ကောင်းကောင်းပေးသင့်တာပေါ့။ ခုဆို ညည်းကိုချန်ပစ်ခဲ့တယ်။ ဒါကတော့ နည်းနည်းမှ မတရားဘူး။ မာလာက 'သူများထက် ဆယ်ဆလောက်ပိုရတာကိုလဲ ငါ့အခန်နဲ့ မနာလိုဝန်တိုမဖြစ်ပါဘူး။ ရထိုက်ပါတယ်။ တို့အထဲက သူ့ကိုသွားပြိုင်နေလို့တော့ ဘယ်ဖြစ်ပါ့မလဲ။ သူကတော့ တကယ့်ကို ကျိုးကျိုးနွံနွံ စိတ်ပါလက်ပါလုပ်တာကိုး။ ဒါပေမယ့် ငါမခံချင်တာက ချင်ဝမ်းတို့ ရိစိန်တို့ဆိုတဲ့ ကောင်မတွေက သူတို့အဖေ အမေတွေက





ဒီစံအိမ်မှာ အဆင့်မြင့်တဲ့ အစေတော်တွေဖြစ်တာနဲ့ ဒီကောင်မတွေကို ထိပ်တန်းအစေတော်တွေအဖြစ် ဆုပေးတာကိုတော့ နည်းနည်းမှ မကျေနပ်ဘူး။ တရားသလားအေ၊ ညည်းပဲ စဉ်းစားကြည့်ပါဦး"

ရှောက်ဟုန်က

"ဒါကတော့ သူ့ကိုလဲ အဆိုးမဆိုနဲ့လေ။ စကားပုံလဲရှိသားပဲ။ 'အရှည်ကြာဆုံး ပွဲတော်ကြီးဟာလဲ တစ်နေ့မှာတော့ အဆုံးသတ်ရမှာပဲ'တဲ့။ ဒီစံအိမ်မှာ ဘယ်သူတစ်သက်လုံး ကျန်ခံနေနိုင်ပါ့မလဲအေ။ နောက် လေးငါးခြောက်နှစ်လောက်ကြာယင် တို့လဲ တို့လမ်းကို သွားကြရမှာပေါ့။ အဲဒီအခါကျတော့ ဘယ်သူ့အတွက်မှ ငဲ့နေနိုင်ကြမှာ မဟုတ်ပါဘူး"

ထိုစကားများကြောင့် ကျီယွမ် မျက်လုံးတွင် မျက်ရည်ဝဲလာ၏။ သို့ရာတွင် ငိုစရာ ဘာမျှအကြောင်းမရှိသည့်အတွက် အားတင်း၍ ပြုံးလိုက်ရင်း

"ဟုတ်တော့လဲ ဟုတ်ပါတယ်လေ။ မနေ့ကဆိုယင် သခင်လေးပေါက်ယုက ခန်းဆောင်တွေကို ဘယ်လိုပြင်မယ်၊ သူကြီးလာယင် ဘယ်လိုအဝတ်အစားတွေကို ချုပ်မယ်လို့ တို့ကိုပြောပြနေသေးတယ်။ သူ့ဆီမှာ တို့တစ်သက်လုံး ကျန်ခံပြီးနေမယ်လို့များ ထင်နေသလား မသိဘူး"

ရှောက်ဟုန်က မရယ်ချင့်ရယ်ချင် ရယ်လိုက်၏။ ထိုသို့ ပြောဆိုနေကြစဉ် ခေါင်းတုံးနှင့် အစေတော် သူငယ်မကလေးတစ်ယောက် ပေါက်လာကာ စာရွက်များနှင့် ပန်းပုံစံများကို လာပေး၏။ ခေါင်းတုံးမကလေးက

"ရော့၊ အဲဒီပန်းပုံစံနှစ်ခုကို လိုက်ထပ်ပြီး ကူးလိုက်ပါတဲ့"ဟု ဆိုကာ စာရွက်ကို ရှောက်ဟုန်အား လှမ်းပေးလိုက်၏။

"နေစမ်းပါဦး။ ဘယ်သူက ကူးခိုင်းလိုက်တာလဲတဲ့ ကောင်မလေးရဲ့။ သေသေချာချာ ပြောစမ်းပါဦး။ ဒီလောက်တောင် ရေးကြီးသုတ်ပျာဖြစ်နေရအောင် ဘာဖြစ်နေလို့လဲ။ နောက်က ကျားလိုက်လာတဲ့အတိုင်းပဲ။ ဒရောသောပါးနဲ့"





ကလေးမကလေးက "အမရိစိန်က လွှတ်လိုက်တာ"ဟု ပြော ပြီးလျှင် ပြန်၍ပြေး၏။

ရှောက်ဟုန်သည် ပန်းပုံစံ စာရွက်များကို ဘေးသို့ပစ်ချလိုက် ပြီးလျှင် အံဆွဲကိုဖွင့်ကာ စုတ်တံချွန်ချွန်တစ်ချောင်းကို မွှေနှောက်ရှာ လျက်ရှိ၏။ သို့ရာတွင် ပန်းပုံစံကူးရမည့် စုတ်တံချွန်ချွန်ကို ရှာမတွေ့ချေ။

"စုတ်တံအသစ်ကို ဘယ်နားမှာ ထားလိုက်မိသလဲ မသိဘူး။ ဟိုတမြန်နေ့ ညနေက ယင်အဲများ ငှားသွားသလား မဆိုနိုင်ဘူး"

ရှောက်ဟုန်က ကျိယွန်ဘက်သို့လှည့်၍

"ယင်အဲဆီ သွားယူပေးပါလားအေ"

"အမယ်လေး၊ မအားပါဘူး။ ကိုယ့်ဘာသာကိုယ် သွားယူချည်။ ငါ့မှာ မာလာက ခိုင်းထားလို့ သေတ္တာတွေ သယ်စရာရှိသေးတယ်"

"အလုပ်ရှိယင် ညည်း ဒီမှာလာပြီး စကားများနေမှာလား။ ကောင်မက ငါခိုင်းကာမှ အလုပ်ရှိသလေး ဘာလေးနဲ့။ မှတ်ထား ပေါ့အေ"

ရှောက်ဟုန်သည် ပေါက်ကြည်၏ ခန်းဆောင်ရှိရာသို့ နီမောင်း ပျော်ဖွယ်မှ လာခဲ့သည်တွင် တတိုင်းမွှေးဆောင်အနီးသို့ အရောက်၌ ပေါက်ယု၏ အထိန်းတော်ကြီးလီနှင့် တွေ့ရ၏။ ရှောက်ဟုန်က ပြုံး၍

"အကြီး ဘယ်သွားမလို့လဲ၊ ဒီကို ဘာကိစ္စများ ရောက်လာ တာတုံး"

အထိန်းတော်ကြီးလီက လက်ခုပ်လက်ဝါးတီးလိုက်လျက်

"နေစမ်းပါဦးအေ။ ကြုံတုန်း မေးလိုက်ရဦးမယ်။ ဥယျာဉ်ထဲမှာ သစ်ပင်စိုက်ဖို့ ယွန်ဆိုလား၊ ယုကျိယွန်ဆိုလား၊ ကျိယုဆိုလား သူငယ် တစ် ယောက်ရောက်နေတယ်မဟုတ်လား။ ဒီသူငယ်ကို ဘာများသဘောကျလို့ ခန့်ထားတဲ့လဲ။ ဘာမှလဲ အသုံးမကျဘူး။ ဒီလိုသူငယ်မျိုးကို ခန့်ထားကို သခင်ကြီးသိယင် ဒုက္ခရောက်မှာ"

"ဒါတော့အကြီးရယ်၊ သခင်လေးပေါက်ယုက သူကြိုက်လို့ သူ ထားတာဖြစ်မှာပေါ့။ အကြီးကော သူ့အကြိုက်ကိုပဲ လိုက်လုပ်ပေးမှ ရတာပဲ မဟုတ်လား"





"မလုပ်လို့ ငါ ဘာတတ်နိုင်မှာလဲအေ"

ရှောက်ဟုန်က ပြုံးလိုက်ရင်း

"တကယ်တော့ အဲဒီ ကျိယွန်ဆိုတဲ့လူသာ ဉာဏ်ရှိယင် ဒီကိုလာ ပြီး အလုပ်လုပ်မှာ မဟုတ်ပါဘူး"

"အေးလေ။ သူ့အရူးမှ မဟုတ်တာ။ ဘာဖြစ်လို့ လာလုပ် မလဲ"

"အေးလေ၊ သူလာလုပ်ပြီ ဆိုတော့လဲ သူ့အကြောင်းနဲ့သူ ရှိမှာပေါ့။ ဘယ်တတ်နိုင်မလဲ။ အကြီးတို့က သန့်သင်ဆုံးမပေါ့။ သူ ထင်ရာတွေကို လျှောက်မလုပ်ပေ့စေနဲ့ပေါ့"

"အမယ်လေး၊ ကျုပ်တို့ သူ့ကိုထိန်းမနေနိုင်ပါဘူးတော်။ ကျုပ် မှာ အချိန်မရှိပါဘူး။ သူ့ကိုတော့ အရိပ်အမြွက်လောက် ပြောခဲ့တယ်။ သူ့ဆီကို အစေတော်တစ်ယောက်ယောက်သွားပြီး ပြောချည်ပေါ့"

ထိုသို့ ပြောဆိုပြီးနောက် အထိန်းတော်လီသည် တောင်ဝှေး တဒေါက်ဒေါက်ဖြင့် ထွက်သွား၏။

ရှောက်ဟုန်သည် စုတ်တံ သွား၍မယူဖြစ်တော့ဘဲ ခါချဉ်ခါး တံတားဝတွင် အတန်ကြာရပ်နေမိ၏။ ထိုစဉ် ချူအဲသည် ကျိယုန်ကို ခေါ်၍ ပြန်လာနေသည်ကို မြင်ရလေ၏။ ရှောက်ဟုန်သည် ချူအဲနှင့် စကားပြောနေစဉ် ကျိယွန်ကို မသိမသာလှမ်းကြည့်လျက်ရှိရာ ကျိယွန် မှာလည်း ရှောက်ဟုန်ကို စိုက်ကြည့်လျက်ရှိလေ၏။ မျက်လုံးချင်းဆုံမိ သည့်အခါတွင် ရှောက်ဟုန်သည် မျက်နှာကို ချက်ချင်းလွှဲပစ်လိုက်ပြီး နောက် ဂမုန်းမြိုင်ရိပ်သာဘက်ဆီသို့ လျှောက်လာခဲ့၏။

ကျိယွန်သည် နီမောင်းပျော်ဖွယ် ရင်ပြင်ရှိ ကျောက်ခင်းလမ်းကလေးအတိုင်း ချူအဲ၏နောက်မှ လိုက်လာခဲ့၏။ ချူအဲသည် ကျိယွန်ကို အပြင်တွင်ထားခဲ့ပြီး ဝင်းထဲသို့ အယင်ဝင်သွားကာ နောက် မှလာ၍ ကျိယွန်ကိုခေါ်၏။ ကျိယွန်သည် စံအိမ်ဝင်းကြီးကို အကဲခတ် ရန် အခွင့်အရေးရလိုက်၏။ ဥယျာဉ်ထဲတွင် အလှအပလုပ်ထားသည့် ကျောက်ဆောင်များရှိ၍ ကျောက်ဆောင်တစ်ခုနှင့်တစ်ခုကြားတွင် ငှက် ပျောခင်းများရှိ၏။ ဝံပိုငှက်ကြီးနှစ်ကောင်သည် ပိုင်းပင်အောက်တွင်

ရပ်ကာ အမွေးအတောင်များကို နှုတ်သီးဖြင့်ဆိတ်၍ နေကြလေ၏။ ရင်ပြင်ပတ်ပတ်လည် ဆောက်ထားသည့် စကြံမျှားဘေးတွင် ရှားပါးသည့် ငှက်အမျိုးမျိုးကို လှောင်အိမ်များဖြင့်ချိတ်၍ မွေးထား၏။ သို့ ရှေ့တွင်ရှိသည့် ငါးဆောင်တွဲ အဆောက်အအုံကြီးတစ်ခုတွင် လှပဆန်း ကြယ်စွာ ပုံလုပ်ထားသည့် ရာဇမတ်ကွက်များ၊ ကြွက်တူရွေးကွက် များကို မြင်ရ၏။ တံခါးအထက်တွင်မူ 'နီမောင်းပျော်ဖွယ်နှင့် စိမ်းမြ လျှံခြယ်ရင်ပြင်''ဟု ကမွည်းထိုးထား၏။

''ဪ၊ ဒီစာတန်းကြောင့် ဒီနေရာကို နီမောင်းပျော်ဖွယ်လို့ ခေါ်ပေတာကိုး''ဟု တွေးလျက်ရှိ၏။

ထိုစဉ် ပြတင်းပေါက်ရှိ ဇာခန်းဆီးနောက်ကွယ်မှ ရယ်သံတစ်ခု ကို ကြားလိုက်ရပြီးနောက် ''ဗျို့ ကျိယွန်၊ ဝင်ခဲ့လေ။ ကြည့်စမ်း၊ ခင်ဗျားကို မေ့နေတယ်၊ မတွေ့တာ နှစ်လသုံးလလောက်တောင်ကြာ သွားပြီ''ဆိုသည့်အသံကို ကြားရ၏။

ပေါက်ယု၏ အသံမှန်းသိသဖြင့် ကျိယွန်သည် အဆောင်ထဲသို့ ဝင်လာခဲ့၏။ ရွှေရောင်၊ မြရောင်တို့ ဖိတ်လက်လက်တောက်ပလျက်ရှိကာ ခမ်းနားသည့်အပြင်အဆင်တို့ကြောင့် ကျိယွန်သည် အံ့အားသင့်လျက် ရှိ၏။ သို့ရာတွင် ပေါက်ယုကို မမြင်ရသေးချေ။ လက်ဝဲဘက်သို့ကြည့် လိုက်သည့်အခါတွင် ကြီးမားသည့် မှန်ကြီးတစ်ချပ်ကို မြင်လိုက်ရပြီး မှန်ကြီးနောက်မှ အရွယ်တူ၊ အလုံးအရပ်တူ အသက်ဆယ့်ငါးနှစ်၊ ဆယ့် ခြောက်နှစ်ခန့်ရှိ မိန်းမပျိုနှစ်ယောက်ထွက်လာကာ အထဲသို့လာရန် ဖိတ် ခေါ်၏။ ကျိယွန်သည် သူတို့ကိုပင် သေချာစွာမကြည့်မိတော့ဘဲ အစိမ်း ရောင် ဇာခန်းဆီးကြီးကိုဆွဲကာ အတွင်းဆောင်ထဲသို့ ဝင်လိုက်၏။ ရွှေ ချည်ထိုး ကန့်လန့်ကာ အနီ ကာထားပြီး အပြောက်အမွှမ်းတို့ခြယ်ထား သော ယွန်းညောင်စောင်း တစ်ခုပေါ်တွင် ပေါက်ယုသည် အိမ်တွင်း ဝတ် အဝတ်အစားများကိုဝတ်ကာ ခြေစွပ်ဖိနပ်ပါးကလေးကို စီးထား ရင်း လှဲလျက်ရှိ၏။ ကျိယွန်ကိုမြင်သည့်အခါတွင် ပေါက်ယုသည် ဖတ် လျက်စ စာအုပ်ကို လက်မှချလိုက်ပြီးနောက် မတ်တတ်ရပ်လိုက်ရင်း ပြုံး





နေ၏။ ကျိယွန်သည် ရှေ့သို့တိုးလာကာ ဒူးတစ်ဖက်ထောက်၍ အရို အသေ ပေးလိုက်၏။ သို့ရာတွင် ပေါက်ယုက ကုလားထိုင်တစ်လုံးပေါ် တွင် အထိုင်ခိုင်း၏။

''လွန်ခဲ့တဲ့ နှစ်လသုံးလလောက်တုန်းက ခင်ဗျားနဲ့တွေ့ပြီး ကျွန် တော် စာကြည့်ဆောင်ကိုလာပါလို့ဖိတ်ခဲ့တယ်လေ။ ဒီနောက် ကျွန်တော် လဲ နေထိုင်မကောင်းဖြစ်တာနဲ့ ဖိတ်ထားတာကို မေ့သွားတယ်''

ကျိယွန်က ပြုံးလိုက်လျက်

''ဒါတော့ ကျွန်တော့်ကံလို့ပဲ အောက်မေ့ရမှာပေါ့လေ။ သခင် လေးကလဲ နေထိုင်မကောင်းဘဲကိုး။ ခုတော့ တော်တော်နေကောင်း သွားပြီလား''

''အင်း၊ ခုတော့ ကောင်းသွားပါပြီ။ ခင်ဗျားလဲ ဥယျာဉ်ထဲမှာ အလုပ်လုပ်ရတာ တော်တော်ပင်ပန်းတယ်လို့ ကြားတယ်''

''ဆယ်တတ်နိုင်မလဲ သခင်လေးရယ်။ လုပ်ရမှာပေါ့။ သခင် လေး နေကောင်းသွားပြီဆိုတော့ ကျွန်တော်တို့ တစ်ဆွေလုံး တစ်မျိုး လုံး စိတ်အေးသွားရတာပေါ့လေ''

အစေတော်တစ်ယောက်က လက်ဖက်ရည်လာ၍ပေး၏။ ကျိယွန် သည် ပေါက်ယုနှင့် စကားပြောနေရာမှ အစေတော်သူငယ်မကလေးကို မသိမသာလှမ်းကြည့်လိုက်၏။ မျက်နှာသွယ်သွယ်၊ ကိုယ်လုံးသွယ်သွယ် နှင့်ဖြစ်ပြီး အနီရောင် အင်္ကျီလက်ရှည်၊ ထိုအပေါ်မှ အနက်ရောင် ဖဲလက် ပြတ် အင်္ကျီကို ထပ်ဝတ်ထားပြီး ဖဲပွင့်ထိုး၊ ပန်းပွင့်လှိုင်းတွန့်ဖော် ပိုးလုံ ချည်ကို ဝတ်ထား၏။ ပေါက်ယုနေထိုင်မကောင်းသည့် အတောအတွင်း ၌ ကျိယွန်သည် စံအိမ်ကြီးထဲသို့ အတော်အနှံ့ရောက်ခဲ့ပြီးရုံမျှမက လူ တော်တော်များများကိုလည်း မျက်နှာ တန်းမိခဲ့ရာ ယခုမိန်းမပျိုမှာ နီမောင်းပျော်ဖွယ်တွင် အတော်အတန်အခွင့်အရေးရထားသည့် မာလာ ဖြစ်ကြောင်းကို ကျိယွန်သိပြီးဖြစ်၏။ ပေါက်ယုကထိုင်၍ မာလာက လက်ဖက်ရည်ကိုငှဲ့ပေးနေသည့်အခါတွင် ကျိယွန်သည် ထိုင်ရာမှ ထလိုက် ကာ

"အစ်ကို့အတွက် လက်ဖက်ရည် ငွေပေးမနေပါနဲ့ ညီမရယ်။ အစ်ကို့ဘာသာ ငွေပါမယ်။ ဒီအဆောင်မှာ အစ်ကို့က ဧည့်သည်မှမဟုတ်တာ၊ အစ်ကို့ဘာသာ ငွေပါရစေ"

"ထိုင်ပါ၊ ထိုင်ပါ။ ရပါတယ်။ အစေတော်တွေပဲဟာ။ ထိုးစံတွေ ဘာတွေ လိုက်နာနေဖို့ မလိုပါဘူး"ဟု ပေါက်ယုကပြော၏။

"ဒါကတော့ သခင်လေးရဲ့ခန်းဆောင်ထဲရောက်ယင် သူ့ထုံးစံတွေကို လိုက်နာဖို့လိုတာပေါ့ သခင်လေးရယ်"ဟု ကျီယွန်က ပြောလေ၏။

ကျီယွန်သည် ထိုင်၍ လက်ဖက်ရည်သောက်နေစဉ် ပေါက်ယုကလည်း ပျင်းပျင်းနှင့် ရောက်တတ်ရာရာတို့ကို ပြောဆိုလျက်ရှိ၏။ မည်သည့်စံအိမ်တွင် မည်မျှကောင်းသည့် ကချေသည်များကို ဝယ်ထားကြောင်း၊ မည်သည့်ဥယျာဉ်က အကောင်းဆုံးဖြစ်ကြောင်း၊ မည်သည့်စံအိမ်တွင် အစေတော် အချောအလှကလေးများ ရှိကြောင်း၊ မည်သည့်စံအိမ်တွင် အကောင်းဆုံး စားသောက်ပွဲကြီးများ ကျင်းပလေ့ရှိကြောင်း၊ မည်သည့်စံအိမ်တွင် အကောင်းဆုံး ရှေးဟောင်းပစ္စည်းများရှိကြောင်း စသည်တို့ကို ပြောဆိုလျက်ရှိ၏။ ကျီယွန်မှာလည်း အလိုက်အထိုက် ပြန်ပြောနေရ၏။ သို့ရာတွင် ပေါက်ယုမောပန်းလာဟန်တူသည့်အခါတွင် ကျီယွန်သည် နှုတ်ဆက်၍ပြန်လာခဲ့လေ၏။ ပေါက်ယုကလည်း မပြန်ရန် တားဆီးခြင်း မပြုတော့ချေ။

"နောက် အားတဲ့အခါလဲ လာပေါ့ဗျာ"ဟု ပြောကာ ချူအဲကို ဝင်းဝသို့အရောက် လိုက်အပို့ခိုင်းလိုက်၏။

ရိပ်သာဝင်းထဲတွင် မည်သူမျှမရှိသည့်အတွက် ကျီယွန်သည် သူ့ကို လိုက်ပို့သည့် အစေတော်နှင့် စကားပြောလာခဲ့၏။ ထိုအစေတော်၏အသက်၊ ဇာတိ၊ မိဘအလုပ်အကိုင် စသည်တို့ကို မေးလာ၏။ ထို့ပြင် ပေါက်ယုအပါးတွင် အလုပ်လုပ်နေသည်မှာ မည်မျှကြာပြီနည်း။ တစ်လလျှင် လစာမည်မျှရသနည်း။ ဤစံအိမ်တွင် အလုပ်လုပ်နေသည့် အခြားအစေတော် ဘယ်နှစ်ယောက်ရှိသေးသနည်း။ မိန်းမပျိုက သူမေးသည့် မေးခွန်းများကို မဆိုင်းမတွ ဖြေဆိုခြင်းပြု၏။





"တို့ ဒီကိုလာတုန်းက မင်းနဲ့စကားပြောလာတဲ့ ဆောင်မှုလေးရဲ့ မည်က ရှောက်ဟုန် မဟုတ်လား"

မိန်းမပျိုက ရယ်လိုက်လျက်

"ဟုတ်ပါတယ်။ အစ်ကိုဘယ်လိုလုပ်ပြီး သိနေတာလဲ။ အစ်ကို တာဖြစ်လို့ မေးတာလဲ"

"မင်းကို လက်ကိုင်ပဝါတစ်ထည် ပျောက်သွားတဲ့အကြောင်း ပြောနေသံ ကြားလိုက်သလားလို့ပါ။ အဲဒီ လက်ကိုင်ပဝါကို ကောက်ရလို့"

ချူအဲက ပြုံးလိုက်လျက်

"သူ့လက်ကိုင်ပဝါကလေး တစ်ထည် ပျောက်တာ မေးလို့လဲ မရနိုင်တော့ဘူး။ သူ့လက်ကိုင်ပဝါကို စောင့်ကြည့်နေတဲ့ လူများ ကောက်မေ့နေသလားမသိဘူး။ ဒီနေ့လဲ တစ်ခါမေးပြန်ပြီ။ သူ့လက်ကိုင်ပဝါကိုပြန်တွေ့ယင် တစ်ခုခုပေးပါမယ်တဲ့။ ကျွန်မဆာတော့ သူ့လက်ကိုင်ပဝါကို စိတ်မဝင်စားပါဘူး။ ဂမုန်းမြိုင်ရိပ်သာထဲကို ဖြတ်လာတုန်းက အစ်ကိုလဲကြားမှာပေါ့။ အစ်ကို ကောက်ရတယ်ဆိုယင် ကျွန်မကိုပေးလိုက်တော့ ဘယ်လိုများ ကျေးဇူးပြန်ဆပ်မလဲဆိုတာကြည့်ရမှာပေါ့"

လွန်ခဲ့သည့်လက ဥယျာဉ်ထဲတွင် သစ်ပင်များပြန်စိုက်ရာ၌ ကြီးကြပ်နေစဉ် ကျီယွန်သည် ဥယျာဉ်ထဲမှ လက်ကိုင်ပဝါတစ်ထည်ကောက်ရခဲ့၏။ ထိုပိုးလက်ကိုင်ပဝါမှာ အစေတော်မိန်းမပျို တစ်ဦးဦး၏ လက်ကိုင်ပဝါဖြစ်လိမ့်မည်ဟု သိပြီးသားဖြစ်၏။ သို့ရာတွင် မည်သူ့လက်ကိုင်ပဝါမှန်းမသိသဖြင့် အသာပင် သိမ်းထားခဲ့၏။ ရှောက်ဟုန်က လက်ကိုင်ပဝါအကြောင်းကို ချူအဲအားမေးမြန်းနေသံကို ကြားရသည့်အခါတွင်မူ ကျီယွန်မှာ ဝမ်းသာသွား၏။

ယခုမူ ချူအဲက လမ်းဖွင့်ပေးလိုက်ပြီဖြစ်သဖြင့် ကိုယ့်စီမံကိန်းအတိုင်း ဆက်လုပ်ရန်သာ ကျန်တော့သည်။ ကျီယွန်သည် မိမိအကျီလက်မောင်းကြားတွင် ညှပ်ထားသည့် သူ့ကိုယ်ပိုင် လက်ကိုင်ပဝါတစ်ထည်ကို ချူအဲအား လှမ်းပေးလိုက်၏။

"ရော့၊ ဒါဖြင့်ပေးလိုက်ပါ။ တစ်ခုတော့ ရှိတယ်နော်။ လူ့ဆီက ဘာပြန်ရသလဲဆိုတာကိုတော့ အစ်ကို့ကို ပြောဦး။ လိမ်တော့ မပြောနဲ့နော်"

ချူအဲလည်း သူ့ကိုပြောပြမည်ဟု ကတိပေးကာ ကျိယွန်ကို ဝင်းဝအရောက် လိုက်ပို့ပြီးလျှင် ရှောက်ဟုန်ကိုလိုက်ရှာ၏။

သို့ရာတွင် ပေါက်ကြည် အကြောင်းကို ပြန်ကောက်ကြဦးစို့၊ ကျိယွန်ပြန်သွားသည့်အခါ၌ ပေါက်ယုမှာ ပျင်းကျန်ခဲ့သဖြင့် အိပ်တော့မည်ဟု အိပ်ရာပေါ်တွင် ခွေလျက်ရှိ၏။ မာလာက သူ့ခုတင်စွန်းတွင် ဝင်ထိုင်လိုက်ကာ သူ့ကို တံတောင်ဆစ်ဖြင့် တွက်လိုက်ရင်း

"မြန်မအိပ်နဲ့တော့လေ။ ပျင်းယင်လဲ ဉယျာဉ်ထဲကိုလမ်းကလေး ဘာလေး လျှောက်ပါလား"

"သွားတော့သွားချင်တယ်။ ဒါပေမယ့် မာလာနဲ့ မခွဲနိုင်ဘူး"

မာလာကရယ်လိုက်လျက် ပေါက်ယုလက်ကိုဆွဲ၍ အထခိုင်းလိုက်ပြီးလျှင်

"လာ၊ ဒါဖြင့် မာလာလဲလိုက်မယ်။ မြန်မြန်လုပ်"

"ဒါဖြင့်ယင် ဘယ်ကို လျှောက်ကြမလဲ။ ပေါက်ယုကတော့ ငြီးငွေ့နေပြီ"

"အပြင်ထွက်လိုက်ယင် အငြီး ပြေသွားမှာပါ။ အဆောင်ထဲ ထိုင်ပြီး တွေးနေငေးနေလို့ကတော့ ပိုပြီး ငြီးငွေ့စရာကောင်းမှာပေါ့"

ပေါက်ယုသည် သူပြောသည့်အတိုင်း အပြင်သို့ ထွက်လိုက်လာခဲ့၏။ အလှပြခန်းဆောင်ထဲတွင် ငှက်ကလေးများကို ကြည့်ရှုပြီးနောက် ရွှေငါးကလေးများကိုကြည့်ရန် တတိုင်းမွှေးမြစ်အနီးသို့လာခဲ့၏။ ထိုစဉ် တောင်စွယ်ကလေးတစ်ခုအကွယ်မှ သမင်ကလေးနှစ်ကောင် ပြေးလာသည်ကိုမြင်သဖြင့် ရပ်ကြည့်နေစဉ် သမင်ကလေးနောက်မှ လေးနှင့်မြားကိုကိုင်ကာ လိုက်လာသော ကျိလန်ကို တွေ့ရလေ၏။ ပေါက်ယုကို မြင်သည့်အခါတွင် ကျိလန်သည် ရပ်နေ၏။

"ဒီနေ့ ဦးလေးအိမ်မှာရှိသကိုး။ ကျွန်တော်က ဦးလေးအပြင်ကို ထွက်သွားတယ်လို့ ထင်နေတာ"





"တော်တော်အမြင်းပါလားဟင် ကျိလန်။ ဒီသမင်လေးတွေကို လိုက်ပစ်နေလို့ ဘာအကျိုးရှိမှာလဲကွာ"

"စာသင်ပြီး ပျင်းပျင်းရှိတာနဲ့ လေးပစ်ကျင့်ရယင် ကောင်းမှာပဲဆိုပြီးထွက်လာတာ ဦးလေးရ"

"မင်းကတော့ တစ်ခုခုဖြစ်ပြီး လဲမှကွဲမှ အဆော့ရပ်မှာပါ"

ပေါက်ယုသည် ဝင်းဝဘက်သို့ထွက်လာခဲ့၏။ ဝါးတောမှ ဝါးရွက်များသည် နတ်ငှက်တောင်ပံကဲ့သို့ ထူထပ်လျက်ရှိပြီး ဝါးရွက်ချွန်းထိပ်တသံသည် ဂီတသံကဲ့သို့ နားထောင်ကောင်းလှပေ၏။ ဝင်းဝတွင် "ဝေဠုဝန်ရိပ်သာ"ဟု စာတန်းထိုးထား၏။ အထဲသို့ ဝင်လာသည့်အခါတွင် စံအိမ်ဆောင် ပြတင်းခန်းဆီး ချထားသည်ကို တွေ့ရလေ၏။ လူသံသူသံကိုလည်း မကြားရချေ။ ပြတင်းပေါက်နားမှ ဖြတ်လျှောက်လာသည့်အခါတွင်မူ အစိမ်းရောင် ဇာခန်းဆီးကြားမှ သင်းသင်း မြိုင်မြိုင် မွှေးပျံ့သောရနံ့တစ်ခုကို ရလိုက်၏။ ပေါက်ယုသည် ဇာခန်းဆီးကို မျက်နှာအပ်၍ အတွင်းသို့ လှမ်းကြည့်လိုက်၏။ "နေ့စဉ်ရက်ဆက်၊ ချစ်အိပ်မက်ကို၊ တစ်သက်သက်လျှင်၊ မြင်စမ်းချင်သည်"ဟူသော ရတုကို ခပ်တိုးတိုး သီဆိုနေသံကို ကြားလိုက်ရ၏။

ပေါက်ယု၏နှလုံးသားသည် ထိုတေးသံကြောင့် လှုပ်ရှားသွား၏။ သေသေချာချာ ကြည့်လိုက်သည့်အခါတွင် ညောင်စောင်းပေါ်တွင် လဲလျောင်းရင်း တေးဆိုနေသည့်ထိုက်ယုကို တွေ့ရ၏။

ပေါက်ယုသည် ရယ်လိုက်၏။

"ဘယ် ချစ်အိပ်မက်တွေကို ဘယ်လိုများ မြင်မက်ချင်တာလဲ မလေးရဲ့"ဟုဆိုကာ ခန်းဆီးကိုမပြီး ခန်းဆောင်ထဲသို့ဝင်လာခဲ့၏။

ထိုက်ယုသည် တစ်ယောက်တည်းတွေး၍ သီချင်း ဆိုနေသည်ကို လူမိသွားသည့်အတွက် ရှက်သွားကာ မျက်နှာကို အင်္ကျီလက်ဝ ကျယ်ကြီးများဖြင့် ဖုံးလိုက်ကာ တစ်ဖက်သို့ လှည့်ပြီး အိပ်ချင်ယောင်ဆောင်လျက်ရှိ၏။ ပေါက်ယုက ညောင်စောင်းအနီးသို့ ကပ်သွားသည့်အခါတွင် ထိုက်ယု၏ အခစေတော်နှစ်ယောက်တို့သည်လည်း နောက်မှ လိုက်လာခဲ့လေ၏။

"သခင်မလေး ထိုက်ယုက အိပ်ပျော်နေတယ် သခင်လေးရဲ့ နိုးတော့ သခင်လေးကို အခေါ်လွှတ်လိုက်မယ်လေ"

ထိုက်ယုက ချာခနဲ လှည့်လိုက်၍ ရယ် လိုက် ပြီး ထ ထိုင်ရင်း ရယ်နေ၏။

"ဘယ်မှာ အိပ်ပျော်လို့လဲ"

အထိန်းတော် အဘွားကြီးသုံးယောက်သည် ပြုံးနေကြ၏။

"သခင်မလေး အိပ်ပျော်နေတယ် ထင်လို့ပါ။ ကျွန်မတို့ မှား သွားတာပေါ့ သခင်မလေး"

အထိန်းတော်သုံးယောက်သည် အစေတော်မလေး ဇူချွန်းအား သခင်မလေးထိုက်ယုကို ပြုစုစောင့်ရှောက်ရန် မှာခဲ့ပြီးနောက် ထွက် သွားကြ၏။

ထိုက်ယုက ခုတင်ပေါ်တွင်ထိုင်၍ဆံပင်များကို ပြင်ထုံးလိုက်ရင်း ပြုံးလျက်

"ဘာဖြစ်လို့ သူများအိပ်ချိန်မှာ လာရတာလဲ။ အလိုက်မသိ ဘာမသိနဲ့"

ထိုက်ယု၏ နုထွေးသောပါးပြင်မှာ နီပြေပြေအရောင် သန်းနေ လေ၏။ ကြယ်ပွင့်ကဲ့သို့ ပြိုးပြက်သော မျက်လုံးမှာလည်း နှင်းမြူ ဆိုင်းသည့်နှယ် အနည်းငယ် မှုန်မှိုင်းရီဝေလျက် ရှိ၏။ ထိုပါးပြင်နှင့် ထိုမျက်လုံးများကိုမြင်လိုက်သည့်အခါတွင် ပေါက်ယုသည် ကြည်နူးကာ အမောပြေ၍ သွား၏။ ပေါက်ယုသည် မျက်နှာချင်းဆိုင် ကုလားထိုင် တစ်လုံးတွင် ဝင်ထိုင်လိုက်လျက်

"စောစောက ဘာတွေကို ညည်းနေတာလဲ"

"ဟင့်အင်း၊ ဘာမှမညည်းရပါလား"

"မောင် ကြားလိုက်ပါတယ်"

ထိုစဉ် သူတို့အနားသို့ ဇူချွန်းရောက်လာ၏။ ပေါက်ယုက

"ဇူချွန်း၊ သွား.... နင်တို့ လက်ဖက်ရည်ထဲက ငါ့ဖို့ ကောင်း ကောင်း တစ်ခွက်လောက် ငှဲ့ချည်စမ်း"





"သခင်လေးအလဲ ကျွန်မတို့မှာ ဘယ်မှာ လက်ဖက်ရည် ကောင်း ကောင်း ရှိပါ့မလဲ။ လက်ဖက်ရည် ကောင်းကောင်း သောက်ချင်ယင် အစ်မ မာလာ ပြန်လာအောင် စောင့်"

"သူပြောတာတွေကို အဟုတ်မှတ်မနေစမ်းပါနဲ့ဟယ်။ သွား။ ငါ့ဖို့ ရေတစ်ခွက် ခပ်ချည်စမ်း"

ဇူချွန်းက ရယ်လိုက်ရင်း

"သခင်မလေးကလဲ။ သူက ဧည့်သည် မဟုတ်လား။ ဒီတော့ ဧည့်သည်ဖို့ လက်ဖက်ရည်အယင်ပေးပြီးမှ သခင်မလေးအတွက် ရေခပ် ပေးရမယ် ထင်တယ်"ဟု ဆို၍ ထွက်သွားသည်တွင် ပေါက်ယုက "တော်တော်လိမ္မာတဲ့ ကလေးမပဲ"ဟုဆို၍ ကျန်ရစ်ခဲ့၏။

ချီသာကြည်မြ၊ ချစ်နှမနှင့်
ဘယ်ကာလမှ၊ ဆုံဆည်းရဟု
နွမ်းလျစိတ်တွင်၊ မျှော်ကိုးထင်လျက်
နှမစံရာ၊ အုံးစက်ရာ၌
မကွာမကွေ၊ ရှိချင်ပေလည်း....။

ထိုက်ယု၏မျက်နှာသည် ချက်ချင်းမှုန်မှိုင်း၍ သွား၏။

"ဘာတွေကို ရွတ်နေတာလဲ"

"ဘာမှမရွတ်ရပါလားဗျာ"ဟု ပေါက်ယုက ရယ်၍ပြော၏။ ထိုက်ယုမှာ ငိုနေလေပြီ။

"ဒါ မောင်ရဲ့နောက်ဆုံးကစားနည်းပေါ့ ဟုတ်လား။ အပြင်မှာ ဟိုက ဒီက ကြားလာတဲ့ စာညစ် အဗျာညစ်တွေကို ထိုက်ယုဆီမှာ လာလာပြီး ရွတ်ပြတယ်ပေါ့။ ပြီးတော့ ဟိုက ဒီက ဖတ်ရတဲ့ စာညစ် ထဲက စာတွေကို ရွတ်ပြီး ထိုက်ယုကို ပြောင်တယ်ပေါ့။ ဟုတ်ပါတယ်။ ထိုက်ယုက မောင်တို့လို ရွှေမြို့တော်က မှူးမတ်သားသမီးတွေ လှောင်ဖို့ ရယ်ဖို့ လူဖြစ်လာရသူတွေပါ။ ဟုတ်ပါတယ်"

ထိုက်ယုသည် အိပ်ရာမှ လူးလဲထကာ မျက်ရည် စက်လက်ဖြင့် ထွက်သွား၏။ ပေါက်ယုမှာ အထိတ်တလန့်ဖြင့် နောက်မှလိုက်သွား၏။

"မလေး၊ မလေး။ မောင် မှားပါတယ်။ မယ်မယ့်ကိုတော့ မတိုင်ပါနဲ့။ နောက်တစ်ခါ ဒါမျိုးပြောလို့ရှိယင် မောင့်ပါးစပ်ဟာ အိုင်းအနာကြီးဖြစ်ပြီး မောင့်လျှာလဲ ပုပ်ရပါစေရဲ့"

ထိုအတောအတွင်း မာလာရောက်လာ၏။

"သခင်လေး၊ မြန်မြန်လုပ်။ အဝတ်အစားလဲ။ သခင်ကြီး ခေါ်နေတယ်"

ထိုအသံသည် ပေါက်ယု၏ နားထဲတွင် မိုးကြိုးသံကဲ့သို့ မြည်ဟိန်း၍သွား၏။ ပေါက်ယုသည် အားလုံးကို မေ့သွားကာ ပြန်၍ အဝတ်အစားများကို လဲရန် ခန်းဆောင်သို့ ခပ်သုတ်သုတ်ပြန်လာခဲ့၏။ အတွင်းဝင်းတံခါးသို့ ရောက်သည့် အခါတွင် သခင်ကြီး ကျိချိန်၏ အမေတော်ပေ့မင်းသည် သူ့ကို စောင့်လျှက်ရှိသည်ကို တွေ့ရလေ၏။

"ဖေဖျားက မောင့်ကို ဘာဖြစ်လို့ ခေါ်တာတဲ့လဲဟင်"

"မသိဘူး သခင်လေး။ မြန်မြန်လုပ်။ ဟိုရောက်မှ သိရမှာပဲ"

ပေ့မင်းသည် သူ့သခင်လေးကို ခေါ်သွားလေ၏။

သူတို့နှစ်ယောက်သည် ဗဟိုခန်းဆောင်ကြီးများကို ဖြတ်လာခဲ့ကြ၏။ ပေါက်ယု၏ရင်ထဲတွင်မူ ထိတ်လန့်လျက်ရှိလေပြီ။ ခန်းဆောင်ထောင့်သို့ ရောက်လျှင် တဟားဟား ရယ်နေသံများကို ကြားရ၏။ သူ့ကိုမြင်လျှင် ဆွေ့ဖန်သည် လက်ခုပ်တီး၍ ထလာကာ

"ကြည့်စမ်း၊ ဖေဖျားခေါ်ခိုင်းတယ်လို့ မပြောယင် ပေါက်ယု ခုလောက်ဆိုယင် လာမှာမဟုတ်သေးဘူး"

ပေ့မင်းကလည်း ရယ်လျက် ဒူးထောက်၍ အရိုအသေပေး၏။

ထိုအခါကျမှ မိမိအားလိမ်၍အခေါ်ခိုင်းကြောင်းကို ပေါက်ယု သဘောပေါက်လာ၏။

ဆွေ့ဖန်သည် လက်နှစ်ဖက်ကိုဆုပ်ထားရာမှ အထက်သို့မြှောက်ထားလိုက်ပြီး တောင်းပန်သည့်အနေဖြင့် သူ့ကို ဦးညွှတ်၍ပြ၏။

"ဒီကောင်လေးအပြစ် မဟုတ်ပါဘူးကွာ။ ငါ ညာပြီး အခေါ်ခိုင်းတာပါ"

ပေါက်ယုကား ပြုံးရုံမှအပ အခြား ဘာမျှမတတ်နိုင်တော့ပြီ။





"ကျွန်တော့်ကို လိမ်ခေါ်တာတော့ ထားပါတော့လေ။ ဘာဖြစ်လို့ ဖေဖျားဟန်ဆောင်ပြီး ခေါ်ရတာလဲ။ ခင်ဗျား လုပ်ပုံကို ခင်ဗျားအမေကို သွားတိုင်ယင် ဘယ်လိုပြောမလဲ"

"ညီလေးရာ၊ စိတ်မရှိပါနဲ့။ ညီလေးနဲ့ အရေးတကြီး တွေ့ချင်တာနဲ့ အခေါ်လွှတ်လိုက်မိတာပါ။ အစ်ကိုမှားပါတယ်။ နောက်တစ်နေ့ကျတော့လဲ ညီလေးက အစ်ကို့ရဲ့အဖေဟန်ဆောင်ပြီး ခေါ်လိုက်ယင် ကျေရောပေါ့။ မဟုတ်ဘူးလား"

ပေါက်ယုက

"ဟော့ကောင် ပေ့မင်း။ နင်လဲ သေဖို့တောင် ကောင်းတယ် သိလား။ ခု ဘာလာပြီး ဒူးထောက်နေတာလဲ။ အလကား သစ္စာမရှိတဲ့ ခွေး"

ပေ့မင်းသည် ချက်ချင်းဦးညွှတ်ကာ မတ်တတ်ရပ်လိုက်၏။

"ညီလေးကို နှောင့်ယှက်ချင်လို့ မဟုတ်ပါဘူးကွာ။ ပဥ္စမလ သုံးရက်နေ့ဆိုယင် အစ်ကို့ရဲ့ မွေးနေ့ကျတယ်။ ရှေးဟောင်းပစ္စည်း ရောင်းတဲ့ ဆိုင်ရှင်ချိန်ယိဆင်ကို သိတယ်မဟုတ်လား။ ဒီလူက အစစ အသောက်ဘက်မှာဆိုယင် အတော်နှံ့စပ်တဲ့လူ။ ဘယ်နေရာမှာ ဘာရှိတယ်ဆိုတာ အကုန်သိတယ်။ ကြာရိုးလတ်လတ်ဆတ်ဆတ်တွေ ဘယ်မှာ ရနိုင်တယ်ဆိုတာ သူ ကောင်းကောင်းသိတယ်။ ကြာရိုးကြီးတွေဆိုတာ လတ်လိုက်တာကွာ။ ပြီးတော့ ကျွတ်ဆတ်နေတာပဲ။ ရှည်လဲ တော်တော်ရှည်တယ်။ ပြီးတော့ ဖရဲသီးဆိုယင်လဲ အကြီးကြီးတွေ၊ နည်းတာကြီးတွေ မဟုတ်ဘူး။ ငါးကြင်း လတ်လတ်ဆတ်ဆတ်ကြီးတွေ၊ ပြီးတော့ ဆီးသီးမီးနဲ့ ကင်ထားတဲ့ ယိုးဒယား ဝက်ကောင်လုံးကင်တွေ ဘယ်မှာရနိုင်တယ်ဆိုတာ သူ ကောင်းကောင်းသိတယ်ကွ။ အဲဒီ ဝက်ကင်ကြီးတွေဆိုယင် အယုဒ္ဓယက ပဏ္ဏာတော်အဖြစ်ပို့လိုက်တဲ့ ဝက်ကြီးတွေတဲ့။ ဒါမျိုးကို စားရခဲဘိခြင်း။ ငါးကြင်းနဲ့ ဝက် ဆိုတာ ကလဲ သိပ်ရှားတဲ့ ပစ္စည်းတွေကွာ။ ပြီးတော့ ဒီလောက်ရှည်တဲ့ ကြာရိုးနဲ့ ဒီလောက်ကြီးတဲ့ ဖရဲသီးဆိုတာကလဲ သိပ်ရှာလို့လွယ်တာ မဟုတ်ဘူး။ ငါရလာတာနဲ့ အမေ့ဆီရယ်၊ မယ်မယ်နဲ့ မင့်မိဘများဆီရယ် ပို့လိုက်

ပြီးပြီ။ ခုငါ့မှာ နည်းနည်းကျန်သေးတယ်။ ဒါတွေ တစ်ယောက်တည်း
စားလို့ ဘယ်နှယ်လုပ်ပြီး ကုန်နိုင်ပါ့မလဲ။ ဒါနဲ့ မင်းကို ဖိတ်ကျွေးရယင်
ကောင်းမှာပဲလို့ စိတ်ကူးရတာနဲ့ အခေါ် လွှတ်လိုက်တာ။ ဒီတုန်း
ဒီသူငယ်တော်လေး ရောက်လာတာနဲ့ ငါ သူ့ကို လွှတ်လိုက်တာ။
လာပါ ညီလေးရာ၊ ပျော်ပျော်ပါးပါး စားရတာပေါ့”
ထိုအချိန်၌ သူတို့နှစ်ယောက်သည် ဆွေ့ဖန်၏စာကြည့်ဆောင်
သို့ ရောက်လာခဲ့ကြ၏။ စာကြည့်ဆောင်တွင် ချန်ကွမ်း၊ ချန်ယိဆင်၊
ဟူစုလိုင်၊ ရှန်ပင်ရန်းနှင့် အစေတော် သူငယ်ကလေး တစ်ယောက်တို့
ရောက်လျက်ရှိ၏။ နှုတ်ဆက်၍ လက်ဖက်ရည် သောက်ကြပြီး လျှင်
ဆွေ့ဖန်က စားသောက်ပွဲစရန် သူ့အစေတော်များကို အမိန့်ပေးလိုက်
၏။ ဤသည်နှင့်တစ်ပြိုင်နက် ဆွေ့ဖန်၏အစေတော်များသည် စားပွဲ
များကို ပြင်ဆင်လျက် ရှိကြ၏။ အားလုံး အဆင်သင့် ဖြစ်သည့်အခါ
တွင် ဧည့်သည်များသည်လည်း နေရာအသီးသီးတွင် ထိုင်ကြ၏။
ဆွေ့ဖန်ပြောသည့်အတိုင်း ဖရဲသီးနှင့် ကြာရိုးမှာ တကယ်ပင်
ထူးခြားသည့် ပစ္စည်းများ ဖြစ်သည်ကို တွေ့ရ၏။ ပေါက်ယုက ပြုံးလိုက်
လျက်
“ကျွန်တော်က အစ်ကို့မွေးနေ့မှာ လက်ဆောင်တော့ မပေးရ
သေးဘူး၊ လူကတော့ ဝင်စားသောက်နေပြီ” ဟု ပြောလေ၏။
“ဟုတ်တာပေါ့၊ နို့ နေပါဦး။ ငါ့ညီက ဘာများ မွေးနေ့
လက်ဆောင်ပို့မလို့လဲ”
“ကျွန်တော့်မှာ ဘာမှတော့ ထူးထူးထွေထွေ မရှိပါဘူး။
ကျွန်တော့်မှာ ပိုက်ဆံတို့၊ အစားအသောက်တို့၊ အဝတ်အစားတို့တော့
ရှိပါရဲ့။ ဒါပေမယ့် ဒါတွေဟာ ကျွန်တော်ကိုယ်ပိုင်မှ မဟုတ်တာ။
ဘယ်ပေးလို့ တောင်းပါ့မလဲ။ ကျွန်တော် ကိုယ်ပိုင် ရှိတာကတော့
ကျွန်တော်ဆွဲထားတဲ့ လက်ရေးပန်းချီနဲ့ပန်းချီကားချပ်လိပ်တွေရှိတယ်”
ဆွေ့ဖန်က ပြုံးလိုက်လျက်
“ပန်းချီကြောင်းပြောလို့ မနေ့က မိတ်ဆွေတစ်ယောက်အိမ်မှာ
တွေ့ရတဲ့ အချစ်ပန်းချီကားတစ်ကားကို သွားသတိရတယ်။ တော်တော်





ကောင်းတဲ့ ပန်းချီကားပဲ။ အောက်မှာပါတဲ့ စာတန်းတွေကိုတော့
သေသေချာချာ မဖတ်လိုက်မိပါဘူး။ ဒါပေမယ့် ပန်းချီဆရာရဲ့ နာမည်
ကတော့ ကင်းဟုန်တဲ့။ ကားကတော့ တော်တော်ကိုကောင်းတယ်”
ပေါက်ယုမှာ ခေါင်းရှုပ်သွား၏။ ပေါက်ယုသည် ရှေးခေတ်နှင့်
ယခုခေတ် နာမည်ကျော် ပန်းချီဆရာများနှင့် လက်ရေး ပန်းချီဆရာ
များကို မှတ်မိသူဖြစ်ရာ ကင်းဟုန်ဆိုသည့် အမည်ကို တစ်ခါမျှ မကြား
ဖူးခဲ့ချေ။ အကန့်ကြာမှ ပေါက်ယုသည် တစ်စုံတစ်ရာကို သတိရကာ ရယ်
လိုက်ပြီး စုတ်တံတစ်ချောင်းကိုတောင်းကာ ဘယ်ဘက် လက်ဖဝါးပေါ်
တွင် အက္ခရာနှစ်လုံးကို ရေးလိုက်၏။
“ကင်းဟုန်ဆိုတာ သေချာရဲ့လား”
“သေချာပါတယ်”
ပေါက်ယုက သူ့လက်ဖဝါးကို ဖြန့်ပြလိုက်ပြီး
“ဒီအက္ခရာနှစ်လုံး ဖြစ်ပါလိမ့်မယ်။ ဒီအက္ခရာနှစ်လုံးနဲ့ အစ်ကို
ပြောတဲ့ ကင်းဟုန်ဆိုတဲ့ အက္ခရာနဲ့က ခပ်ဆင်ဆင်ရယ်ဗျ”
ကြည့်လိုက်သည့်အခါတွင် တန်ယင်းဆိုသော အက္ခရာနှစ်လုံးကို
ပေါက်ယု၏ လက်ဖဝါးပေါ်တွင် တွေ့ရ၏။ ဤတွင် အားလုံးက ဝိုင်း
ရယ်ကာ
“တန်ယင်းဖြစ်မှာပေါ့၊ ဟုတ်သားပဲ။ ခင်ဗျားမျက်လုံးတွေက
အဲဒီကျယင် ရိဝေနေရောပေါ့ဗျ။ ဘယ်မှာ ကောင်းကောင်းမြင်ရပါ
တော့မလဲ”
ဆွေ့ဖန်မှာ ရှက်ရှက်ဖြင့် ပြုံးနေ၏။
“ထားပါဗျာ၊ သူ့ဘာသာသူ ကင်းဟုန်ဖြစ်ဖြစ်၊ တန်ယင်းဖြစ်
ဖြစ် အရေးမကြီးပါဘူး” ဟု ပြောလေ၏။
ထိုအခါ ဖုန်ဆိုသည့် ဧည့်သည်တစ်ယောက် ရောက်လာကြောင်း
ဖြင့် အစေခံများက လာရောက်ပြောကြား၏။ ထိုသူမှာ အခြားသူ
မဟုတ်။ စကြသူရဘွဲ့ရ ဗိုလ်ချုပ်ကြီး ဖုန်တန်၏သား ဖုန်ဇူယင်ဖြစ်
ကြောင်းကို ပေါက်ယုသိလိုက်၏။ အားလုံးက သူ့ကိုအခေါ် လွှတ်လိုက်

၏။ သူတို့မှာ ပြော၍ မဆုံးသေးမီ ဖုန်ဇူယင်သည် ရယ်မောရင်း တစ တပြောပြောနှင့် ခန်းဆောင်ထဲသို့ ဝင်ရောက်လာ၏။ အားလုံးမ မတ်တတ်ထကာ သူ့ကို နေရာပေးကြ၏။

ဖုန်ဇူယင်က ရယ်လိုက်လျက်

"ကောင်းတယ်၊ ကောင်းတယ်။ အပြင်မထွက်ဘဲ အိမ်မှာတွ ဝိုင်းဖွဲ့နေကြတာကိုး"

ဆွေ့ဖန်နှင့် ပေါက်ယုတို့က ပြုံးနေ၏။

"အလို၊ ကျုပ်ညီကိုလဲ မတွေ့ရတာ တော်တော်တောင်ကြာသွ ပြီ။ ဘယ့်နှယ်လဲ ခမည်းတော်ကြီးကော နေလို့ထိုင်လို့ကောင်းရဲ့လား"

"ဟုတ်ကဲ့၊ ကောင်းပါတယ်။ မယ်တော်ကြီးကတော့ တစ်ရက် နှစ်ရက်လောက်က အအေးမိလို့ခင်ဗျ။ သိပ်ပြီးတော့ နေလို့ထိုင်လို့ မကောင်းချင်ဘူး"

ဖုန်ဇူယင်၏ မျက်နှာပေါ်တွင် ညိုမည်းနေသည့် ဒဏ်ရာများကို ဆွေ့ဖန်သတိပြုလိုက်မိ၏။

"ဘယ်လိုလဲ နောင်ကြီး၊ ရန်ဖြစ်ပြန်ပြီလား။ မျက်နှာပေါ်က ဟာက ဘယ်သူ့လက်ချက်များလဲ"

"ဗိုလ်မှူးကြီးချူရဲ့သားကို ကျွန်တော်ရိုက်မိကတည်းက နောက် ရန်မဖြစ်တော့ဘူးလို့ ချုပ်တည်းပါတယ်ဗျာ။ ရန်မဖြစ်တာ ကြာပါပြီ။ အဲဒီဒဏ်ရာကတော့ တစ်နေ့က သံပိုက်ကွန်တောင်ပေါ်မှ တောလိုက် ထွက်တုန်းက တည့်ဖို မွေးထားတဲ့ သိမ်းငှက်တောင်ပံနဲ့ ရိုက်မိသွားလို့"

"ဘယ်နေ့ကလဲ နောင်တော်ကြီး"

"ထွက်သွားတာကတော့ တတိယလ လဆုတ် ဆယ့်သုံးရက်နေ့ က ထွက်သွားတာပဲဗျ။ ပြန်ရောက်တာကတော့ တစ်မြန်နေ့ကမှ ဆိုပါ တော့"

"ဩော်၊ ဒါ့ကြောင့် ရှန်တို့အိမ်က ညှော်ခံပွဲမှာ နောင်တော်ကြီး ကို မတွေ့တာကိုးခင်ဗျ။ ကျွန်တော်လဲမတွေ့လို့ မေးမယ်တော့ စိတ်ကူး





မိပါသေးရဲ့။ စကားကောင်းနေကြတာနဲ့ မမေးဖြစ်လိုက်တော့ဘူး။ တောလိုက်ထွက်တာ တစ်ယောက်တည်းလား။ ခမည်းတော်ကြီးကော ပါသေးသလား"

"ခမည်းတော်ကြီး ပါတယ်ဗျ။ ကျွန်တော်ကတော့ သိပ်လိုက် ချင်လှလို့ မဟုတ်ပါဘူး။ ဒါပေမယ့် ခမည်းတော်ကြီးက ခေါ်တော့ ဘယ်ရှောင်လို့ရတော့မလဲ။ ဘာလဲဗျ။ ခင်ဗျားတို့က ကျုပ်ကို အူလည် လည်လူ ထင်နေလို့လား။ ခင်ဗျားတို့နဲ့ သောက်လိုက်စားလိုက်၊ ပျော် လိုက်ပါးလိုက်၊ သီချင်းလေး နားထောင်လိုက်နဲ့ နေချင်တာပေါ့ဗျာ။ တောထဲတောင်ထဲမှာ ဘယ်မှာ အပင်မန်းခံပြီး လိုက်ချင်ပါ့မလဲ။ ဒုတော့ လိုက်သွားရကျိုးတော့ နပ်သွားပါတယ်လေ။ ကံဆိုးထဲက ကံ ကောင်းတွေ့တာပေါ့"

ထိုအချိန်၌ ဖုန်ဇူယင်မှာ လက်ဖက်ရည်သောက်ပြီးပြီ ဖြစ်သည့် အတွက် ဆွေ့ဖန်နှင့် အပေါင်းအသင်းများက သူတို့စားပွဲဘက်သို့ ကူး လာကာ အဖြစ်အပျက်များကိုပြန်ပြောရန် တောင်းဆိုကြ၏။ သို့ရာတွင် ဖုန်ဇူယင်မှာ သူတို့စားပွဲဘက်သို့ ကူးမလာတော့ဘဲ ပြန်ရန်ပြင်နေ၏။

"ခွင့်လွှတ်ကြပါဗျာ၊ အမှန်ကတော့ ခင်ဗျားတို့နဲ့ အရက်ဖလားလေး တစ်ခွက်နှစ်ခွက်တော့ သောက်ဖို့ပဲ။ ဒါပေမယ့် ခမည်းတော်ကြီးနဲ့ တွေ့ စရာ အရေးတကြီးကိစ္စလေးတစ်ခု ပေါ်နေလို့"

သို့ရာတွင် ဆွေ့ဖန်၊ ပေါက်ယုနှင့် အပေါင်းအသင်းများသည် ထိုစကားကို လက်မခံကြဘဲ ဖုန်ဇူယင်ကို အတင်းဝိုင်းဆွဲထားကြ၏။

"ဟော့ လူတွေ၊ မလုပ်ကြနဲ့လေဗျာ။ ခင်ဗျားတို့လဲ ကျုပ် အကြောင်းကို သိသားပဲ။ တကယ်ပါ။ နေလို့မဖြစ်လို့ပါ။ ခင်ဗျားတို့ ဒီလောက်သောက်စေချင်ယင်တော့ သောက်မယ်။ ခွက်ကြီးကြီးတစ်ခုထဲ နှစ်ခွက်စာ တစ်ခါတည်းထည့်ပေးလိုက်။ ခင်ဗျားတို့ နှစ်ခွက်သောက်တဲ့ အချိန်မှာ ကျွန်တော်တစ်ခွက်တည်းကို တောက်လျှောက်မော့ချလိုက် မယ်"

နောက်ဆုံးတွင် သူပြောသည့်အတိုင်း သဘောတူလိုက်ရ၏။ ဆွေ့ဖန်က အရက်အိုးကို မ လာပြီးလျှင် ပေါက်ယုက အရက်ခွက်ကို ကိုင်ပေး၏။ အရက်ခွက်ထဲသို့ နှစ်ခွက်စာအပြည့်ထည့်ပေးလိုက်ရာ ဖုန်ဇူယင်သည် အသက်ကိုအောင့်ကာ တစ်ခါတည်းမော့ချလိုက်လေ၏။

"နေပါဦးဗျ၊ မပြန်ခင်မှာ ကံဆိုးထဲက ကံကောင်းတာကလေးတွေ တွေ့ရတယ်ဆိုတာ ဘာလဲ။ ပြောပြသွားစမ်းပါဦး" ဟု ပေါက်ယုက ပြောလေ၏။

ဖုန်ဇူယင်က ရယ်လိုက်လေ၏။

"ဒီနေ့တော့ အသေးစိတ်ပြောချိန်မရဘူးဗျာ။ စကားပြောချိန်ရမှ ခင်ဗျားတို့ကို သေသေချာချာဖိတ်ကျွေးပြီး ပြောပြမယ်။ အဲဒီတော့မှ ခင်ဗျားတို့ကိုလဲ အကူအညီတောင်းရမယ်"

ဖုန်ဇူယင်သည် လက်နှစ်ဖက်ကိုဆုပ်၍ မြှောက်ပြကာ နှုတ်ဆက်ပြီး ထွက်သွားလေ၏။

ဆွေ့ဖန်က

"ခင်ဗျားက ကျွန်တော်တို့ကို ဆတ်တငံ့ငံ့ဖြစ်အောင် လုပ်ထားတာကိုးဗျ။ ကဲ ပြောဗျာ။ ဘယ်တော့လောက်မှာ ကျွန်တော်တို့ ဒီလူသိုက်ကို ကျွေးမလဲ။ ကျွန်တော်တို့ကို တမျှော်မျှော်ဖြစ်နေအောင်တော့ မလုပ်နဲ့"

"အများဆုံး ဆယ်ရက်ပေါ့ဗျာ။ ဒါမှမဟုတ်ယင်လဲ ရှစ်ရက်လောက်အတွင်းပေါ့"

ထိုနောက် ဖုန်ဇူယင်သည် မြင်းပေါ်သို့တက်၍ ထွက်သွား၏။ အခြားသူများလည်း သူ့ကို လိုက်ပို့ပြီးနောက် ပြန်လာကာ အရက်ကို ဆက်သောက်နေကြ၏။

ဥယျာဉ်သို့ ပြန်ရောက်သည့်အခါတွင် ဖေဖျားက ခေါ်သည်တို့၍ တထင့်ထင့်ဖြင့် စောင့်မျှော်လျက်ရှိသည့် မာလာကို တွေ့ရ၏။ မာလာမှာ အကောင်းလား၊ အဆိုးလားဟု ဝေခွဲမရနိုင်ဘဲ စိတ်ပူလျက်





ရှိ၏။ အရက်အနည်းငယ် ထွေလာသည့် ပေါက်ယုကို မြင်သည့်အခါ၌ မာလာက အကျိုးအကြောင်းကို မေးလေရာ ပေါက်ယုကလည်း အသေးစိတ် ပြောပြလေ၏။

"ဩော်၊ သခင်လေးကတော့ ပျော်လို့ပါးလို့ပေါ့ ဟုတ်လား။ ဒီကလူတွေမှာဖြင့် ဘာများဖြစ်လို့လဲဟဲ့နဲ့။ တထင့်ထင့်နဲ့ပဲ။ တဖာယ်ဆို အကျိုးအကြောင်းကလေးကို ပြန်ပြောခိုင်းလိုက်ပါတော့လား"

"အစတုန်းကတော့ ပြန်ပြီး အပြောခိုင်းမလို့ပဲ။ ဒါပေမယ့် ဖုန်ဇူယင်ရောက်လာတာနဲ့ မေ့သွားတယ်"

ထိုစဉ် ပေါက်ကြည် ဝင်လာ၏။

"ဘယ်လိုလဲ မောင်လေး။ မမပေါက်ကြည်တို့အိမ်က အစားအသောက်တွေ မြည်းကြည့်ခဲ့ပြီ မဟုတ်လား"

"မလေးတို့က ကျွန်တော်တို့ထက် အယင်စားဖူးပြီးသားတွေ မဟုတ်လား"

ပေါက်ကြည်က ခေါင်းကိုယမ်းလိုက်ရင်း

"မနေ့က အစ်ကိုက ပေါက်ကြည်ကို စားပါလားလို့တော့ ခိုင်းပါတယ်။ ဒါပေမယ့် ပေါက်ကြည်မစားပါဘူး။ တခြားညွှသည်တွေဖို့ ထားလိုက်ပါလို့ ပြောလိုက်တယ်။ ပေါက်ကြည်မှာ ဒီလိုစားကောင်းသောက်ဖွယ်တွေကို စားဖို့သောက်ဖို့ ဇာတာဒမပါဘူး"

ထိုစဉ် အစေတော်တစ်ယောက်က လက်ဖက်ရည်ယူလာသဖြင့် သူတို့နှစ်ယောက်သည် လက်ဖက်ရည်သောက်ရင်း စကားပြောလျက် နေကြ၏။ သို့ရာတွင် သူတို့အကြောင်းကို ဤနေရာတွင် ဤမျှဖြင့် တော်လောက်ပြီ။

ဖခင်က အခေါ်လွှတ်လိုက်သည်ဟုဆိုကာ လိုက်ပါသွားပြီးနောက် ပေါက်ယုတစ်ယောက် တစ်နေ့လုံး ပြန်မလာသည့်အခါတွင် တိုက်ယုမှာလည်းစိတ်ပူလျက်ရှိ၏။ ညစာစားပြီးသောအခါတွင်မှ ပေါက်ယု ပြန်ရောက်လာပြီဟု ကြားရသည့်အတွက် အကျိုးအကြောင်းကို စုံစမ်းလိုစိတ် ပေါ်ပေါက်လာ၏။ သို့ဖြင့် ပေါက်ယု၏ အဆောင်ဘက်သို့ လာခဲ့စဉ် နီမောင်းပျော်ဖွယ် ရင်ပြင်ဝင်းထဲသို့ ဝင်သွားသော

ပေါက်ကြည်ကို မြင်လိုက်ရ၏။ သို့ရာတွင် တတိုင်းမွေးတံတားအနီး ရောက်သည့်အခါ၌ ရေကန်ထဲတွင် သူတစ်ခါမျှ မမြင်ဖူးသေးသော ကျေးငှက်များကို မြင်သဖြင့် လှပသော အသွေးအရောင်တို့ကို ရပ်တ ကြည့်ရှုနေမိ၏။ နိမောင်းပျော်ဖွယ်ရင်ပြင်သို့ ရောက်သည့်အခါတွ တံခါးမကြီး ပိတ်ထားသည့်အတွက် ထိုက်ယုသည် တံခါးကိုထု၍ အ ခိုင်းရ၏။

ထိုအချိန်၌ အစေတော်ချင်ဝမ်းမှာ ပီဟင်းနှင့်ရန်ဖြစ်လာ စိတ် မကောက်လျက်ရှိသဖြင့် ပေါက်ကြည်ကို စောင်းမြောင်းပြောဆိုလျ ရှိလေ၏။

"ဘာမှန်းမသိဘူး။ ဒီလိုချည်းပဲ လာနေတာပဲ။ ပြန်တော့ ညဥ့်နက်သန်းခေါင်ကျမှ ပြန်တယ်။ စောင့်ရတဲ့လူတွေဖြင့် အိပ်ရေ ပျက်လှပြီ"ဟု ဝင်းထဲမှ ပြောနေလေ၏။

ယခုတစ်ခါတွင် တံခါးခေါက်သံကြားရသည့်အတွက် ချင်ဝမ်း မှာ ပို၍ ဒေါသထွက်လာပြန်ကာ မည်သူမည်ဝါ မေးမြန်းခြင်း မပြု တော့ဘဲ

"အားလုံးအိပ်ကုန်ကြပြီ။ မနက်ဖြန်မှ လာခဲ့တော့"ဟု အော်၍ ပြောလေ၏။

အစေတော်များသည် သူတို့အချင်းချင်း နောက်ပြောင်တတ် ကြောင်းကို ထိုက်ယုသိ၏။ ထို့ကြောင့် ယခုလည်း သူ့အသံကို မမှတ်မိ ဘဲ အချင်းချင်းထင်၍ နောက်ပြောင်ခြင်းဖြစ်လိမ့်မည်ဟု ထွက်ဆိုလိုက် ကာ ထပ်၍ ခပ်ကျယ်ကျယ်ကလေး ခေါ်လိုက်ပြန်၏။

"ဟဲ့ ငါပါ၊ မလေး မထိုက်ယုပါ။ တံခါးဖွင့်စမ်းပါ"

သို့တိုင် အစေတော်ချင်ဝမ်းသည် သူ့အသံကို ကောင်းစွာမမှတ် မိဘဲဖြစ်လျက် ရှိ၏။

"ငါသော ဘာသော နားမလည်ဘူး။ သခင်လေးက ဘယ်လူ ကိုမှ ဝင်ခွင့်မပေးရဘူးလို့ ပြောထားတယ်"ဟု ချင်ဝမ်းက ပြန်၍ အော် ၏။





ထိုက်ယုသည် တံခါးအပြင်တွင်ရပ်ရင်း စိတ်တိုလျက်ရှိလေ၏။

"ဒေါ်လေးရဲ့အိမ်ဟာ ငါ့ရဲ့ ဒုတိယ နေအိမ်ပဲ။ ဒါပေမယ့် တကယ်တွေးကြည့်လိုက်တဲ့အခါကျတော့ ဒုတိယနေအိမ်လို့ ဘယ်လိုပဲ ပြောပြော ငါဟာ အပြင်လူတစ်ယောက်ပဲ။ ငါ့မှာ အခုတော့ အဖေ လဲမရှိတော့ဘူး။ အမေလဲမရှိတော့ဘူး။ ဒီတော့ ငါ့မှာ ဒီအိမ်က လွဲယင် တခြားမှာသွားနေစရာမရှိဘူး။ ဆူဆူပူပူလုပ်ယင် ငါမှား လိမ့်မယ် ထင်တယ်"

ထိုသို့တွေးရင်း မျက်ရည်များသည် ပါးပြင်ပေါ်သို့ စီးကျလာ ကြလေ၏။ ထိုက်ယုသည် မိမိအဆောင်ဘက်သို့ ပြန်လှည့်ပြန်တော့မည် ပြုစဉ် အတွင်းဝင်း တံခါးဘက်ဆီမှ ရယ်သံများနှင့် စကားပြောသံ များကို ကြားရ၏။ ထိုအသံများမှာ ပေါက်ယုနှင့် ပေါက်ကြည်တို့၏ အသံများဖြစ်ကြောင်းကို ထိုက်ယု ကောင်းစွာသိ၏။ ထိုက်ယု သည် ပို၍ စိတ်တိုလာပြန်၏။ ဤတွင် မနက်ကဖြစ်ခဲ့သော အဖြစ် အပျက်ကို ထိုက်ယု အမှတ်ရနေလေ၏။

"မောင်လေးပေါက်ယုဟာ မနက်က ငါပြောလိုက်တဲ့ စကား ကြောင့် စိတ်ဆိုးသွားဟန်တူတယ်။ ဒါပေမယ့် ငါကတော့ သူ့အပေါ် မှာ စိတ်မဆိုးရက်ပါဘူး။ စိတ်ဆိုးမယ်ဆိုယင်လဲ သေသေချာချာသိပြီးမှ စိတ်ဆိုးဖို့ ကောင်းပါတယ်ကွယ်။ ဒီနေ့ မောင်က မလေးကို အတွေ့မခံ ဘူးပေါ့။ ဒါပေမယ့် မနက်ဖြန်ကျတော့ကော မတွေ့ကြတော့ဘူးတဲ့ လား"

ထိုက်ယုသည် တွေးရင်းတွေးရင်း ဝမ်းနည်းလာ၏။ မြက်ခင်း ပေါ်တွင် ရှိနေသည့် နှင်းစက်များကိုလည်း သတိမမူမိ။ တသုန်သုန် တိုက်နေသော လေအေးကိုလည်း ဂရုမထားမိဘဲ တတိုင်းမွေးခြံထောင့်ရှိ ပန်းပင်ကြီးတစ်ပင်အောက်တွင် ငိုလျက်ရှိလေ၏။ ချောမောလှပသည့် မိန်းကလေးတစ်ယောက်၏ ငိုသံကြောင့် မိုးမပေပင်နှင့် ပန်းပင်များ ပေါ်ရှိ အသိုက်များမှ ငှက်ကလေးများသည် ထိုအသံကို နားမထောင် ရက်ကြသဖြင့် အဝေးသို့ ပျံပြေးကြလေ၏။

မှန်ပေ၏။

ပန်းပွင့်တို့၏ အသည်းနှလုံးတို့သည် ကြေကွဲကြကုန်၏။
ငှက်ငယ်တို့သည် သူတို့၏ အသိမဲ့သောအိပ်မက်မှ လန့်နိုးကြကုန်၏။

ဤသို့ ဖြစ်ရခြင်းမှာ အောက်ပါ အကြောင်းတို့ကြောင့် ဖြစ်လေ၏။

ပျိုယမင်းသည်
အဆင်းလည်းလှ၊ အချင်းလှ၍
သင်းပျံ့နံ့သာ၊ ခန်းရိပ်သာမှ
သူတစ်ယောက်တည်း လာခဲ့၏။
ရှိုက်ငိုမျက်ရည်၊ မတိတ်မိ၍
လဲ့ရည်ပန်းပွင့်၊ မြေသို့လွင့်၍
ပင်မြင့်ယံထက်၊ တေးဆိုငှက်တို့
ထွက်ပြေးကြ၏။ ။

အမြင့်ဘက်တွင် ထိုက်ယုသည် ငိုရှိုက်လျက်ရှိစဉ် ဝင်တံခါးကြီးသည် ကျွီခနဲမြည်၍ ပွင့်လာ၏။ မည်သူ ထွက်လာသည်ကို သိလိုပါမူ နောက်တစ်ခန်းကို ဖတ်ပါလော့။





အခန်း ၂၇

စိမ်းမြလျှံခြယ် အဆောင်အနီးတွင် ပေါက်ကြည်လိပ်ပြာဖမ်းခြင်း။

ပန်းသခ်ျိုင်းအနီးမှ ပန်းကြွေများအနီးတွင် ထိုက်ယုငိုရှိုက်ခြင်း။

ထိုက်ယုငိုယိုလျက်ရှိစဉ် ဝင်းတံခါးကြီးသည် ကျွီခနဲမြည်၍ပွင့်လာကာ ပေါက်ယု၊ မာလာနှင့် အခြားအစေတော်များခြံရံလျက် ပေါက်ကြည် ထွက်လာသည်ကိုမြင်ရ၏။ ထိုက်ယုသည် ပေါက်ယုကိုထွက်၍ ရန်တွေ့လိုက်မည်ဟုစိတ်ကူးမိသေးသော်လည်း အများရှေ့တွင်အနေခက်နေမည်စိုးသည့်အတွက် ပေါက်ကြည်ပြန်သွားပြီး သူတို့အားလုံး ဝင်းထဲသို့ပြန်ဝင်သွားသည့်အထိ မှောင်ရိပ်ထဲတွင် ကွယ်နေလိုက်၏။ ထို့နောက် ထိုက်ယုသည် ပိတ်ထားသော ဝင်းတံခါးကြီးရှေ့တွင် အတန်ကြာအောင် ငိုနေပြီးနောက် မိမိအဆောင်သို့ ပြန်လာခဲ့၏။ ထို့နောက်တွင် မကြည်သာသောစိတ်ဖြင့် အိပ်ရာသို့ဝင်ခဲ့လေ၏။

ဇူချွန်းနှင့် စွေ့ယင်တို့သည် သူတို့ သခင်မလေး ထိုက်ယု အကြောင်းကို ကောင်းစွာသိကြ၏။ သူတို့သခင်မလေး ထိုက်ယုသည် တစ်ခါတစ်ရံတွင် အကြောင်းမရှိဘဲ မျက်မှောင်ကုတ်လျက် သက်ပြင်းတချချနှင့် ရှိနေတတ်၏။ တစ်ခါတစ်ရံတွင်လည်း ဘာမျှ အကြောင်းရှာမရဘဲ ငိုချင်လျှင်ငိုနေတတ်၏။ အစတွင်မူ သူတို့သခင်မလေးထိုက်ယုသည် မိဘများ မရှိတော့သောကြောင့်လည်းကောင်း၊ သို့မဟုတ် တစ်

ယောက်ယောက်က ကြင်ကြင်နာနာ မရှိသောကြောင့် လည်းကောင်း၊ ဖြစ်မည်ထင်သဖြင့် ချော့မော့နှစ်သိမ့်ခဲ့ကြသေးသော်လည်း နောင်တွင်မူ ထိုသို့ဖြစ်ခြင်းမှာ ထိုက်ယု၏ အကျင့်တစ်ခု ဖြစ်ကြောင်း သိလာသည့် အတွက် ဘာသိဘာသာပင် နေလိုက်ကြ၏။ သို့ဖြင့် ယနေ့ညတွင်လည်း အစေတော်များသည် အိပ်ရာသို့ စောစောဝင်သွားကြလေရာ ထိုက်ယု တစ်ယောက်တည်း တွေးတော ကျန်ရစ်ခဲ့၏။

ထိုက်ယုသည် မိမိ ခုတင် လက်ရန်းကိုမှီကာ ဒူးနှစ်ဖက်ကို ပိုက် ထား၏။ သူ့မျက်လုံးတွင် မျက်ရည်တို့ ရစ်ဝဲလျက် ရှိကြ၏။ ထိုက်ယု သည် ကျောက်ရုပ်ကြီးတစ်ရုပ်လို မလှုပ်မယှက် ထိုင်လျက် ရှိသည်မှာ သန်းခေါင်ကျော်မှ အိပ်ပျော်သွား၏။

နောက်တစ်နေ့မှာ စတုတ္ထလ လဆုတ် ဆယ့်တစ်ရက် ဖြစ်ပြီး ကောက်သစ်ပွဲတော်နေ့ဖြစ်၏။ ထိုနေ့မှာ ပန်းပွင့်တွေကြွေ၍ ပန်း နတ် သမီးသည် မိမိ၏ပလ္လင်တွင် ယခုနှစ်အတွက် စတင် အနားယူသည့်နေ့ ဖြစ်သည်ဟုဆိုကာ ပန်းနတ်သမီးကို ပူဇော်ပွဲများ ကျင်းပလေ့ရှိ၏။ အထူးသဖြင့် ပန်းနတ်သမီး ပူဇော်ပွဲကို အမျိုးသမီးများကကျင်းပလေ့ ရှိရာ ထိုနေ့မနက်၌ မဟာနန္ဒာဥယျာဉ်အတွင်းရှိ အဆောင်များမှ အမျိုး သမီးများသည် နံနက်အစောကြီး ကတည်းက လှုပ်လှုပ်ရှရှ ဖြစ်လျက်ရှိ ကြ၏။ မိန်းကလေးများသည် ပန်းပွင့်ကလေးများ၊ မိုးမခ နှီးကြော ကလေးများဖြင့် သန်လျင်းရုပ်များ၊ မြင်းရုပ်များရက်ကြ၏။ ထိုနောက် ပိုးစ ဖဲစများဖြင့် အလံကလေးများချုပ်ပြီးလျှင် ရောင်စုံဖဲ[illegible]များဖြင့် သစ်ပင်၊ ပန်းပင်တို့ကို လိုက်လံ ချည် ကြသ ဖြင့် သစ် ပင် များ တွင် အရောင်စုံ ပြိုးပြက်လျက် ရှိ၏။ ထိုမျှမက သူ တို့ ကိုယ် တိုင် လည်း အကောင်းဆုံး အကြော့ဆုံး၊ အလှဆုံး ဖြစ်အောင် ပြင်ဆင် ထားကြ လေရာ သူတို့အလှကို ပန်းပွင့်ကလေးများ၊ ငှက်ကလေးများကပင်အရှုံး ပေးရလောက်၏။ သို့ရာတွင် ထိုအကြောင်းများကို အကျယ်ဖွဲ့ရေးရန် အချိန်မရှိပြီ။

မနက်၌ ပေါက်ကြည်၊ တန်ချန်းတို့ညီအစ်မ၊ လီဝမ်း၊ နတ်ငှက် မယ်တို့သည် နတ်ငှက်မယ် သမီးလေးနှင့်အတူ ဥယျာဉ်ထဲတွင် ထိုင်နေ





ကြလေ၏။ သူတို့နှင့်အတူ ယင်လင်းနှင့် အခြားအစေတော်များလည်း ရှိကြ၏။ ထိုလူသိုက်ထဲတွင် ထိုက်ယုတစ်ယောက်သာမပါဘဲ ပျောက် ချက်သား ကောင်းလျက်ရှိ၏။

ယင်ချန်းက

"မလေးထိုက်ယု ဘာဖြစ်လို့ မလာသလဲမသိဘူး။ အပျင်းမကာ တော့ အိပ်တုန်းပဲထင်တယ်"

"ပေါက်ကြည်သွားနှိုးပြီး ခေါ်လာခဲ့မယ်လေ။ ဒီမှာ စောင့် နေကြဦး" ဟု ပေါက်ကြည်က ပြော၏။

သို့ဖြင့် ပေါက်ကြည်သည် ဝေဋ္ဌုဝန်ရိပ်သာဘက်သို့ ခပ်သုတ် သုတ် ထွက်သွား၏။

လမ်းတွင် ဂမ်ကွမ်းခေါင်းဆောင်သည့် ကချေသည် ဆယ့်နှစ် ယောက်နှင့် တွေ့သည့်အတွက် ပေါက်ကြည်သည် ခဏရပ်၍စကားပြော နေ၏။ ထို့နောက် ပေါက်ကြည်သည် မိမိတို့လူသိုက်ရှိသည့် နေရာကို ပြောဆိုကာ၊ မိမိမှာမူ ထိုက်ယုကို သွားခေါ်ဦးမည်ဖြစ်ကြောင်း ပြော ဆို၍ ကောက်ကွေ့နေသည့် လမ်းကလေးအတိုင်း ထိုက်ယု၏ အဆောင် များရှိရာသို့ လာခဲ့၏။ ဝေဋ္ဌုဝန်ရိပ်သာအနီးသို့ ရောက်လာသည့်အခါ တွင် ဝင်းထဲသို့ဝင်သွားသော ပေါက်ယုကို လှမ်းမြင်လိုက်ရ၏။ ထို့ ကြောင့် ပေါက်ကြည်သည် ခဏရပ်၍ စဉ်းစားနေလေ၏။

"ပေါက်ယုနဲ့ ထိုက်ယုဟာ တစ်အိမ်တည်းမှာ ကြီးပြင်းလာကြ သူတွေပဲ။ သူတို့နှစ်ယောက်ကတော့ ဘယ်လိုပဲနေနေ နေလို့တင့်တယ် တယ်။ တစ်ယောက်ကိုတစ်ယောက် ပြောင်နိုင်နောက်နိုင်တယ်။ စိတ် ဆိုးချင်ယင်လဲ ဆိုးနိုင်တယ်။ ထိုက်ယုကတော့ စိတ်သဘောထားလဲ သေးတယ်။ သူများကိုလဲ မနာလိုဝန်တိုဖြစ်တတ်တယ်။ ခုနေ ပေါက်ယု နောက်က ငါလိုက်သွားယင် ပေါက်ယုကလဲ [illegible]ကြိုက်မှာမဟုတ်ဘူး။ ထိုက်ယုကလဲ ငါ့ကိုစိတ်ဆိုးမှာ။ ဒီတော့ ငါမဝင်တော့ဘူး။ ဒီကပဲ လှည့်ပြန်သွားတော့မယ်"

ပေါက်ကြည်သည် ထိုသို့တွေးကာ သူ့အဖော်များရှိရာသို့ ပြန်မည်ဟု လှည့်လိုက်စဉ် ဖြန့်ယပ်တောင်အငယ်စားလောက်ရှိပြီး ကျောက်

စိမ်းရောင် တောက်နေသည့် လိပ်ပြာနှစ်ကောင်ကို မြင်လိုက်ရလေ၏။ လိပ်ပြာမောင်နှံသည် သူ့ကိုမြှူဆွယ်နေသည့်နှယ် လေပြည်ထဲတွင် တက်ချည်ဆင်းချည်၊ နိမ့်ချည်ဆင်းချည် ပျံဝဲလျက်ရှိကြ၏။ လိပ်ပြာမောင်နှံကို လိုက်ဖမ်းရလျှင် မည်မျှပျော်စရာ ကောင်းလေမည်နည်း။ ပေါက်ကြည်သည် အင်္ကျီလက်ဖျားထဲတွင် ခေါက်၍ထိုးထည့်ထားသည့် ယပ်တောင်ကို ထုတ်လိုက်ပြီးနောက် မြက်ခင်းပေါ်မှဖြတ်ကာ လိပ်ပြာနှစ်ကောင်ကို လိုက်ဖမ်း၏။ လိပ်ပြာနှစ်ကောင်သည် ရှေ့မှနေ နိမ့်ချည်မြင့်ချည်ဖြင့် ပျံသွားကြ၏။ ပေါက်ကြည်ကလည်း ပန်းချုံတွေ၊ မိုးမခပင်တွေကြားမှ ဖြတ်၍ သူတို့နောက်ကိုလိုက်၏။ သို့ဖြင့် နောက်ဆုံးတွင် ပေါက်ကြည်သည် ရေစပ်နားသို့ရောက်သွား၏။ စိမ်းမြလျှံခြယ်အဆောင်နားသို့ ရောက်သည့်အခါတွင် ပေါက်ကြည်မှာမောဟိုက်ကာ ချွေးတွေသံတွေ စိုရွှဲလျက်ရှိလေပြီ။ မောလွန်းသဖြင့် ပြန်တော့မည်အပြုတွင် အဆောင်ထဲမှ စကားပြောသံကို မပီမသကြားရလေ၏။

စိမ်းမြလျှံခြယ် အဆောင်ကလေးမှာ ရေကန်၏အလယ်တွင်ရှိပြီး လေးဖက်လေးတန်တွင် အမိုးမိုး၊ လက်ရန်းကာစကြံများရှိလျက် ကွေ့ကောက်နေသော တံတားလေးများဖြင့် ကမ်းကိုကူးထား၏။ အဆောင်လေးဖက်လေးတန်တွင်လည်း စက္ကူပြတင်းများ တပ်ထား၏။ ပေါက်ကြည်သည် ရပ်၍ နားစွင့်ထောင်နေ၏။

“ဟော့၊ ဒီလက်ကိုင်ပဝါကို ကြည့်စမ်း။ ညည်းလက်ကိုင်ပဝါ မဟုတ်လား။ ညည်းကျပျောက်တဲ့ လက်ကိုင်ပဝါဆိုယင် ယူလိုက်လေ။ မဟုတ်ယင်လဲ ငါ အစ်ကိုလေးကျိုယွန်ကို ပြန်ပေးလိုက်မယ်”

“ဟော့ ကောင်မ၊ အဲဒါ ငါ့လက်ကိုင်ပဝါပါအော့။ ပေးပါ။

“ဒါဖြင့် ငါ့ကိုဘာပေးမလဲ။ အလကားတော့ ပြန်မပေးနိုင်ဘူး နော် ကောင်မ”

“ပေးပါ့မယ်အေ။ တစ်ခုခုပေးမှာပေါ့။ ညည်းကိုလဲ ငါမလိမ်ပါဘူး”





“ငါကတော့ ကြားထဲက ယူလာရတဲ့လူပါအေ။ ဘာမှမရလဲ အကြောင်းမဟုတ်ပါဘူး။ ဒါပေမယ့် ကောက်ရတဲ့လူကိုတော့ တစ်ခုခု ပေးဖို့ကောင်းတာပေါ့”

“တော်စမ်းပါ။ ကောက်ရတဲ့လူက အစ်ကိုလေးကျိုယွန်ဆိုတော့ သူ့လဲ မှူးမတ်မျိုးထဲကပဲ။ တကယ်ဆို သူက ပြန်ပေးဖို့ကောင်းတာပေါ့။ တို့က သူ့ကို ဘာပြန်ပြီးပေးနေရဦးမှာလဲ”

“ညည်းက မပေးဘူးဆိုယင် ငါ သူ့ကို ဘာပြန်ပြောရမလဲ။ ပြီးတော့ ဒီလက်ကိုင်ပဝါကို အလကားတော့ ပြန်မပေးနိုင်ဘူးတဲ့။ တစ်ခုခုတော့ ပေးရမယ်လို့ ငါ့ကို တဖွဖွမှာလိုက်တာ”

အတန်ကြာမျှ တိတ်ဆိတ်သွား၏။

“ကောင်းပြီလေ။ ဒီလိုဆိုယင် ဟောဒါကိုပေးလိုက်။ ဒါပေမယ့် ဘယ်သူ့ကိုမှတော့ လျှောက်မပြောနဲ့”

“တကယ်ပါအေ။ မပြောပါဘူး။ ငါ့ပါးစပ်ထဲမှာ အနာစိမ်းကြီး ပေါက်ရပါစေရဲ့။ သေချင်းဆိုးနဲ့ သေရပါစေရဲ့။ မပြောပါဘူး။ စိတ်ချပါ”

ထိုနောက် နှစ်ယောက်သား လန့်သွားကြသည့်ဟန်ဖြင့်

“ဟောတော့။ နှစ်ယောက်တည်း ထင်ရာတွေလျှောက်ပြောနေကြတာ၊ အပြင်က တစ်ယောက်ယောက်များ ချောင်းနားထောင်နေယင် ဒုက္ခပဲ။ ဟဲ့ ကောင်မ ပြတင်းပေါက်တွေ ဖွင့်လိုက်အေ။ ဒါမှ လူအများမြင်ယင်လဲ ရိုးရိုးစကား ပြောနေကြတယ်လို့ ထင်ကြမှာ။ တစ်ယောက်ယောက် လာတာမြင်ယင်လဲ စကားလွှဲပစ်တာပေါ့”

ပေါက်ကြည်သည် သူ့နားများကို သူမယုံနိုင်အောင်ဖြစ်လျက် ရှိ၏။

“ကောက်ကျစ်တဲ့ လူများဟာ အင်မတန်ဉာဏ်များတယ်ဆိုတာ သိပ်မှန်တယ်၊ ကြည့်စမ်း၊ ပြတင်းပေါက်ဖွင့်လိုက်လို့ ငါ့ကိုမြင်သွားယင် သူတို့နှစ်ယောက်စလုံး ခပ်အမ်းအမ်းဖြစ်သွားကြမှာပဲ။ တစ်ယောက်ကတော့ ပေါက်ယုအနားမှာ နေရတဲ့ ရှောက်ဟုန်ရဲ့အသံနဲ့ တူတာပဲ။ ဒီကောင်မက ဘဝင်ကလဲမြင့်မြင့်၊ စိတ်ထားကလဲ ခပ်ပုပ်ပုပ်ရယ်။

ဒီကောင်မလေလောက် ဉာဏ်များတဲ့ကောင်မမျိုး ငါတစ်ယောက်မှ မတွေ့ဖူးသေးဘူး။ 'မျှော်လင့်ချက်ဆုံးခြင်းသည် လူတို့အား ပုန်ကန်ထကြွစေ၍ ခွေးတို့ကို နံရံမှခုန်ထွက်ပြေးစေ၏' ဆိုတဲ့ စကားပုံတောင်ရှိတာပဲ။ သူတို့လျှို့ဝှက်ချက်ကို ငါသိတယ်လို့ထင်သွားယင် ပြဿနာဖြစ်နိုင်တယ်။ ပြီးတော့လဲ ငါ့အနေနဲ့လဲ အနေရခက်နေလိမ့်မယ်။ ဒီတော့ ခုမှလဲ ပုန်းလို့တော့ မရတော့ဘူး။ သင်္ကာမကင်း မဖြစ်အောင် တစ်မျိုးဟန်ဆောင်ရတော့မှာပဲ"

ထိုအခိုက်တွင် ပြတင်းတံခါးပွင့်လာ၏။ ဤတွင် ပေါက်ကြည်သည် ကျယ်နိုင်သမျှ ကျယ်ကျယ်အော်ကာ ပြတင်းပေါက်ဆီသို့ ပြေးလာရင်း

"မလေးထိုက်ယု၊ ဘယ်မှာ ပုန်းနေတာလဲဟင်"

ပြတင်းပေါက်ကို ဖွင့်လိုက်သည့်အခါတွင် ရှောက်ဟုန်နှင့်ချူအဲတို့သည် ပေါက်ကြည်ကို မြင်လိုက်ရသဖြင့် လန့်သွားကြ၏။

"ဘယ်မှာလဲ မလေးထိုက်ယု။ မလေးထိုက်ယုမရှိပါဘူး"

"ဟင်၊ သခင်မလေးထိုက်ယုလား။ မလေးထိုက်ယု မရှိပါဘူး"

"ရှိပါတယ်အေ၊ ခုလေးတင် မလေးထိုက်ယု စမ်းချောင်းထဲမှာ ရေချိုးနေတာကို ငါမြင်လိုက်ရတာပဲဟာ။ ငါက သူ့ကိုချောင်းဖမ်းမလို့လုပ်နေတုန်းမှာ သူကငါ့ကို အယင်မြင်သွားပြီး ဟောဒီအရှောက်ပန်းချုံတွေကြားကို ဝင်ပြေးတာပဲ။ ခု ဘယ်ပျောက်သွားသလဲ မဆိုနိုင်ဘူး။ နင်တို့အနားမှာတော့ လာမပုန်းပါဘူးနော်"

ပေါက်ကြည်သည် အဆောင်ထဲသို့ ဝင်သွားကာ ရှာယောင်မူနေ၏။

"ကျောက်ဆောင်တွေကြားထဲက ဂူထဲများဝင်သွားသလားမသိဘူး။ မြွေကိုက်မှ သေနေလိမ့်မယ်"ဟု ပေါက်ကြည် တစ်ယောက်တည်း ပြောသွားလေ၏။

ထိုသို့ပြောလိုက်ပြီးနောက် သူ့ထင်လုံးကို သူ သဘောကျကာ ကျိတ်၍ရယ်ရင်း ပေါက်ကြည်သည် ပြန်ထွက်လာခဲ့၏။





ရှောက်ဟုန်မှာ တကယ်ထင်မှတ်ကာ စိုးရိမ်သွားပြီး ပေါက်ကြည် ခပ်လှမ်းလှမ်းသို့ ရောက်သည်နှင့် ချူအဲ၏လက်ကို ဆွဲလိုက်ပြီးလျှင်

"ဟောတော့် ဒုက္ခပဲ။ မလေးထိုက်ယု ဒီအနားမှာ ရှိနေတယ်ဆိုယင် တို့ပြောတာတွေ ကြားသွားပြီထင်တယ်"

ချူအဲသည် မည်သို့မျှမပြောဘဲ တိတ်ဆိတ်လျက်ရှိ၏။

"ဒါဖြင့် တို့ဘယ်လိုလုပ်မလဲဟင်"ဟု ရှောက်ဟုန်က မေး၏။

"ကြားတော့ကော ဘာဖြစ်သလဲဟယ်။ သူနဲ့ ဘာဆိုင်တာမှတ်လို့"

"တို့ပြောတဲ့စကားကို မလေးပေါက်ကြည် ကြားသွားတာအကိစ္စမရှိဘူးတော့်။ မလေးထိုက်ယုကြားမှ ပြဿနာဖြစ်မှာ။ သူက စိတ်သဘောထားကလဲအေး၊ မနာလိုဝန်တိုစိတ်ကလဲ ကြီးပါဘိသနဲ့။ ပြောလိုက်ယင်လဲ သူများကို ပိုးစိုးပက်စက် သိပ်ပြောတတ်တယ်။ တကယ်လို့ သူကြားသွားလို့ ဒီစကားတွေကို လျှောက်ပြောနေယင် ဘယ့်နှယ်လုပ်မလဲ"

ထိုစဉ် သူတို့အနီးသို့ ဆိုင်ကွမ်း၊ ယင်လင်း၊ စုချီနှင့် ထိုက်ရှူစသည့် အစေတော်များ ရောက်လာကြသည့်အတွက် စကားပြတ်သွားကြ၏။ သူတို့နှစ်ယောက်သည် ဘာမျှမဖြစ်သည့်နှယ် ဆက်၍ စကားပြောနေကြ၏။ ထိုစဉ် တောင်ကမူကလေးတစ်ခုပေါ်မှ ဆင်းလာသည့် နတ်ငှက်မယ်ကို မြင်လိုက်ရ၏။ ရှောက်ဟုန်သည် နတ်ငှက်မယ်ကိုမြင်လျှင် ပြေးလာကာ

"ငှက်မယ်သခင်မလေး၊ ဘာလုပ် ပေးရဦးမလဲ"ဟု ပြုံးချိစွာ မေး၏။

နတ်ငှက်မယ်သည် ရှောက်ဟုန်ကို ငုံ့ကြည့်လိုက်သည်တွင် သပ်ရပ်သန့်ရှင်းစွာ ဝတ်ဆင်ကာ ပြုံးချိစွာပြောဆိုတတ်သည့် ရှောက်ဟုန်ကို သဘောကျသွားကာ

''ဒီနေ့ ငါ့အစေတော်တွေ အဖော်ခေါ်မလာမိဘူးအေ။ ဖုမှ လုပ်စရာကိစ္စတစ်ခုကို သတိရလို့။ ညည်း ငါ့အပြောခိုင်းတဲ့ စကားကို သွားပြောပေးနိုင်ပါ့မလား''

ရှောက်ဟုန်က ပြုံးလိုက်လျက်

''ဘာသွားပြောရမလဲ ငှက်မယ်သခင်မလေး။ ငှက်မယ် သခင်မလေး ပြောတဲ့အတိုင်း သွားပြောပေးပါ့မယ်၊ လွဲတယ်ဆိုယင် ကျွန်မကို အပြစ်ပေးနိုင်ပါတယ်''

''နေစမ်းပါဦး၊ ညည်းက ဘယ်သူ့ အစေတော်လဲ။ ညည်းကို ရှာနေယင် ငါလွှတ်လိုက်တယ်လို့ ပြောနိုင်အောင်လို့''

''ကျွန်မက သခင်မလေးပေါက်ယု အဆောင်မှာ တာဝန်ကျပါတယ် ငှက်မယ်သခင်မလေး''

နတ်ငှက်မယ်က သဘောကျ၍ ရယ်လိုက်၏။

''ဟုတ်ပြီလေ။ သူက ညည်းကိုမေးယင် ငါခိုင်းလိုက်တယ်ဆိုတာ ပြောပြလိုက်မယ်။ သွား၊ ငါ့အဆောင်ကိုသွားချည်။ ဟိုရောက်တော့ ငါ့အစေတော်ပင်အဲကို တွေ့လိမ့်မယ်။ အဲဒီရောက်တော့ အပြင်ဘက်ခန်းဆောင်မှာရှိတဲ့ သုံးချောင်းထောက် ကြွေပန်းအိုး အောက်မှာ ရှိတဲ့ ငွေစင် တစ်ရာ့ခြောက်ဆယ်သားထုပ် တစ်ထုပ် ရှိတယ်လို့ပြော။ အဲဒီငွေက ရွှေချည်ထိုးအပ်ချုပ်သည်တွေလာယင် ပေးလိုက်လို့။ ချုပ်ဆေးရှဲမိန်းမလာယင် အဲဒီငွေကို သူကိုယ်တိုင်ချိန်ပြီး ပေးလိုက်လို့။ ပြီးတော့ နောက်တစ်ခု ရှိသေးတယ်။ အတွင်းဆောင်ဘက် အိပ်ရာပေါ်က ခေါင်းအုံးဘေးမှာ ငါ့လက်ကိုင်အိတ်ရှိတယ်။ အဲဒါလဲယူခဲ့''

ရှောက်ဟုန်သည် သူခိုင်းသည့်အလုပ်များကိုလုပ်ရန် ထွက်သွား၏။ ခိုင်းသည်တို့ကိုလုပ်ပြီးနောက် ပြန်လာခဲ့ရာ ထိုနေရာတွင် နတ်ငှက်မယ်ကို မတွေ့တော့ချေ။ သို့ရာတွင် စုချီသည် အနီးရှိဂူတစ်လုံးမှထွက်လာကာ အပြင်တွင် လုံချည်ပြင်ဝတ်ကာ ငါးစည်းကြိုး စည်းလျက်ရှိ၏။ ရှောက်ဟုန်သည် သူ့အနားသို့ ရောက်လာ၏။

''ငှက်မယ်သခင်မလေးကော၊ ဘယ်ရောက်သွားသလဲ''

''ဟင့်အင်း၊ သတိမထားလိုက်မိဘူး''





ရှောက်ဟုန်သည် ဆက်လျှောက်ကာ ခပ်လှမ်းလှမ်းတွင် ရွှေငါးလေးများကိုကြည့်နေသည့် တန်ချွန်းနှင့်ပေါက်ကြည်တို့ကို မေး၏။ တန်ချွန်းက

''မမလီဝမ်းနဲ့ ရှိလိမ့်မယ်ထင်တယ်''

ရှောက်ဟုန်သည် လီဝမ်းနေထိုင်ရာ စပါးချိုရိပ်သာသို့ လာခဲ့၏။ လမ်းတွင် ချင်ဝမ်းနှင့်တကွ အစေတော်လေးငါးခြောက်ယောက်ကို တွေ့ရ၏။ သူ့ကိုမြင်သည့်အခါတွင် ချင်ဝမ်းက

''ဟဲ့၊ ကောင်မ၊ ခုထက်ထိ လမ်းသလားနေတုန်းလား။ ပန်းပင်တွေကိုလဲ ရေမလောင်းရသေးဘူး။ လူကတော့ ရှာရိုးကိုးပေါက် လျှောက်လည်နေတာပဲ''

''ဒီနေ့ ပန်းပင်တွေကို ရေလောင်းစရာ မလိုတော့ဘူးလို့ သခင်မလေး ပေါက်ယုက ပြောတယ်။ တစ်ရက်ခြားလောင်းရမယ်တဲ့၊ ငှက်မတွေကိုတော့ ခပ်စောစောအစာကျွေးပြီးပြီ''ဟု ရှောက်ဟုန်က ပြော၏။

''ဒါဖြင့် လက်ဖက်ရည်ဆေ ကျိုပြီးပလား'' ဟု ပီဟင်းက မေးလေ၏။

''ဒီနေ့ ကျွန်မအလှည့်မဟုတ်ပါဘူး။ ဒါကြောင့် လက်ဖက်ရည် ကိစ္စတော့ ကျွန်မ ဘာမှမသိပါဘူး''

ရိစိန်က

''အမယ်၊ ကောင်မက စကားပြောတာခပ်တင်းတင်းရယ်တော့။ ဘယ်သူမှ ဂရုမစိုက်တဲ့ပုံပဲ''ဟု ပြော၏။

''ကျွန်မ ညာပြောနေတာ မဟုတ်ပါဘူး။ ငှက်မယ်သခင်မလေး ခိုင်းလိုက်လို့ ပြန်လာတာပါ''

ထိုသို့ ပြောပြီးနောက် ငှက်မယ်၏ လက်ကိုင်အိတ်ကို ပြလိုက်မှဖြင့် သူတို့လည်း ဘာမျှမပြောကြတော့ဘဲထွက်သွားကြ၏။ ထွက်လာသည့် အခါတွင် ချင်ဝမ်းက နှာခေါင်းရှုံ့လျက်

''ကောင်မက သခင်လေး ပေါက်ယုတို့ အဆောင် ဘက် ကို ရောက်သွားတော့ ဘဝင်မြင့်နေတာပေါ့။ ကြည့်ပါလား၊ တို့ကိုတောင် မဖက်လုပ်ပြီး စကား မပြောချင်သလိုလို ဘာလိုလိုနဲ့။ ခုလဲ နတ်

ငှက်မယ် သခင်မလေးကတွေ့လိုခိုင်းလိုက်တာကို သူ့ကိုယ်သူ အဟုတ်ကြီး ထင်နေပုံ တူပါရဲ့။ ဟိုဏဖြင့် သူ့နာမည်ကိုတောင် သိမှာမဟုတ်ဘူး။ ဒီလိုပဲဟာလေးလောက် လုပ်ရတာများ ဂုဏ်ယူလို့ မဆုံးဘူး။ မာန ကြီးနေလိုက်တာ။ ဒီကောင်မ ဘယ်လောက် အထိ ကောင်းစားမလဲ ဆိုတာ စောင့်ကြည့်ရဦးမှာပေါ့။ သိပ် လူဝါး ဝလွန်းယင်တော့ ဥယျာဉ်ထဲက အဆောင်တွေမှာ မနေနိုင်အောင်လုပ်ထားရမယ်”

ရှောက်ဟုန်မှာ ဘာမှမပြောနိုင်ဘဲ ဒေါသကို ချုပ်တည်းလျက် နတ်ငှက်မယ်ကို လိုက်ရှာလေရာ နောက်ဆုံး၌ လီဝမ်း၏အဆောင်တွင် စကားစမြည်ပြောဆိုလျက်ရှိသည့် နတ်ငှက်မယ်ကို တွေ့ရ၏။ ရှောက်ဟုန်သည် အခန်းထဲသို့ ဝင်လာကာ သူ ခိုင်းလိုက်သည့် အလုပ်အကြောင်းကို ပြောပြ၏။

“အစ်မပင်အဲက ပြောလိုက်ပါတယ် သခင်မလေး၊ သခင်မလေး ထွက်သွားပြီးလို့ မကြာခင်ပဲ ချန်ဆေးမိန်းမရောက်လာလို့ သူ့ရှေ့မှာ ငွေတွေချိန်တွယ်ပြီး ပေးလိုက်ပါပြီတဲ့”ဟု ဆို ကာ လက်ပွေ့အိတ်ကို နတ်ငှက်မယ်အား လှမ်းပေးလိုက်ပြီးလျှင် ဆက်၍

“ပြီးတော့ အစ်မပင်အဲက မှာလိုက်ပါသေးတယ်။ နတ်ငှက်မယ် သခင်မလေး ခိုင်းထားလို့ စံအိမ်ကြီးဘက်ကိုသွားဖို့ လိုင်ဝမ်း ရောက်လာတယ်တဲ့။ ဒါနဲ့ ငှက်မယ်သခင်မလေးရဲ့ ဆန္ဒအတိုင်း လိုင်ဝမ်းကို ပြောပြီး လွှတ်လိုက်ပြီတဲ့”

“ငါ့ဆန္ဒကို သူဘယ်လိုလုပ်ပြီး သိသတဲ့လဲ”

“သူ လိုင်ဝမ်းကို အပြောခိုင်းလိုက်တယ်တဲ့၊ ကျွန်တော်တို့ သခင်မလေးက သခင်မကြီးကို ကန်တော့လိုက်ပါတယ်လို့၊ ပြီးတော့ ကျွန်တော်တို့ရဲ့ သခင်လတ်လဲ ခရီးသွားနေလို့၊ ဒါကြောင့် နည်းနည်းပါးပါး နောက်ကျယင် သခင်မကြီးအနေနဲ့ စိတ်မပူပါနဲ့လို့၊ ပဥ္စမ သခင်မလေး ပြန်ပြီးနေကောင်းလာယင် ကျွန်တော်တို့ သခင်မလေးလဲ အဲဒီသခင်မနဲ့ လာပြီး သခင်မကြီးဆီမှာ လာကန်တော့ပါမယ်လို့၊ ပြီးတော့ တစ်နေ့တုန်းကလဲ ပဥ္စမ သခင်မလေးဆီက အစေတော် တစ်ယောက်နဲ့ စာတစ်စောင်ရောက်လာပြီး သခင်မလေးရဲ့ ယောက်မ





တော် သခင်မကြီး နေထိုင်ကောင်းရဲ့လား ဆိုတာ မေးတယ်လို့၊ ပြီးတော့လဲ သခင်မကြီး အတွက် သခင်မလေးရဲ့ ယောက်မတော်က အားဆေးဆေးလုံးတွေ ပေးလိုက်တယ်လို့။ သခင်မကြီးဆီမှာ ရှိယင်လဲ သခင်မလေးဆီကို ပေးပါဦးလို့”

လီဝမ်းမှာ ဆုံးအောင် နားမထောင်တော့ဘဲ ရယ်လိုက်လျက်

“အမယ်လေး....တော်ပါတော့ဟဲ့။ သခင်မလေးရော သခင်မကြီးရော ငါ့ဖြင့် မျက်စိလည်နေတာပဲ။ ဘာပြောလို့ပြောမှန်းတောင် မသိတော့ဘူး”

နတ်ငှက်မယ်က ပြုံးလိုက်လျက်

“လည်မယ်ဆို လည်စရာပေါ့။ သူပြောတဲ့အထဲမှာ မိသားစု ငါးစုလုံးက ပါနေတာကိုး”ဟု ဆိုကာ ရှောက်ဟုန်ဘက်သို့ လှည့်လိုက်ပြီးလျှင်

“အေး ညည်း တော်တယ်။ ရှင်းရှင်းလင်းလင်း ပြောတတ်တယ်။ သူများပြောသလို မဟုတ်ဘူး။ တချို့လူများ စကားပြောယင် ခြင်ကောင်အော်သလိုပဲ။ တယ်ပြီး နားငြီးဖို့ကောင်းတယ်။ ကြုံတုန်းမို့ ပြောလိုက်ရဦးမယ်”ဟုဆိုကာ နတ်ငှက်မယ်သည် လီဝမ်းဘက်သို့ လှည့်လိုက်ပြီး

“အချို့အစေတော်တွေ စကား ပြောတာကို ငှက်မယ် သိပ်နားကြားပြင်းကတ်တာပဲ။ ငှက်မယ်ရဲ့ အစေတော်တွေထဲမှာ ငှက်မယ် နားထောင်လို့ရတဲ့အစေတော် နည်းနည်းလောက်ပဲရှိတယ်။ တချို့က စကားကို ဆုံးအောင်မပြောဘူး။ အလယ်မှာတင် ရပ်ထားကြတယ်။ တချို့ကျတော့လဲ စကားကို စီကာပတ်ကုံးမပြောတတ်ဘဲ ဝါကျတိုလေးတွေနဲ့ ပြတ်တောင်းတောင်း ပြောတတ်ကြတယ်။ တချို့ကျတော့လဲ ထစ်အထစ်အနဲ့ ပြောတတ်ကြတယ်။ တချို့ကျတော့လဲ အာလေးလျှာလေးကြီးနဲ့ ပြောတတ်ကြတယ်။ ငှက်မယ်ရဲ့ အစေတော် ပင်အဲဆိုယင်လဲ ဒီအတိုင်းပဲ။ ဒါနဲ့ ငှက်မယ်အား ညည်းက ရပ်ကလေး

ချောချင်ရဲ့သားနဲ့ စကား ပြောတော့ ခြင် ကောင် မြည်သလိုပဲအေ။ ကျက်သရေ မရှိပါဘူး၊ သတိထား ပြောစမ်းလို့ ပြောတာနဲ့ ခုတော့ တော်တော်လေးကို တိုးတက်နေပြီ”

လီဝမ်းက ရယ်လိုက်လျက်

“လူတိုင်း လူတိုင်းဟာ ငှက်မယ်လို ထက်ထက်မြက်မြက်တွေ ချည်းပဲလို့ တွက်လို့တော့ ဘယ်ရမလဲကွယ်”

“ဒါပေမယ့် ငှက်မယ်ကတော့ ခုကောင်မလေးကို သဘော ကျတယ်။ ခု သူပြောတဲ့စကားက ရှည်လှဲမရှည်ဘူး။ လိုရင်းလဲ ရောက် တယ်”ဟုဆိုကာ ရှောက်ဟုန်ဘက်သို့ လှည့်လိုက်ပြီးလျှင်

“နင် ငါ့အဆောင်ကို လာနေပါလား။ ငါ မွေးစားမယ်။ ဟိုရောက်ယင် နင့်ကို ငါကောင်းကောင်းကြည့်မှာပေါ့”

ရှောက်ဟုန်က ရယ်လျက်ရှိ၏။

“ဘာဖြစ်လို့ ရယ်တာလဲ။ ညည်းနဲ့ငါ အသက် သိပ်မကွာဘဲ မွေးစားမယ်ပြောလို့ ရယ်တာလား။ ငါဟာ ညည်း မွေးစား အမေ မဖြစ်လောက်ဘူးထင်လို့လား။ ဒီလိုဆိုယင် ညည်း အတာပေါ့။ မေ ကြည့်လေ။ တချို့ဆိုယင် ငါ့ထက်နှစ်ဆလောက်တောင်ကြီးကြတယ်။ ဒါပေမယ့် ငါ့ကို အမေလို့ခေါ်နေကြတာပဲဥစ္စာ။ ငါက ခေါ်ခွင့်ပြု တော့ ခေါ်ကြတာပေါ့။ ညည်းကို ငါ မွေးစားမယ်ဆိုတာ ညည်းကို ငါ ချီးမြှောက်နေတာနော်”

ရှောက်ဟုန်က

“ဒါကြောင့် ရယ်တာမဟုတ်ပါဘူး သခင်မလေးရယ်။ သခင်မ လေးက ကျွန်မတို့ မျိုးရိုးဆက်ကို မှားပြောသွားလို့ ရယ်တာပါ။ အမှန် ကတော့ ကျွန်မအမေကမှ သခင်မလေးရဲ့ မွေးစားသမီး သခင်မလေးရဲ့။ ခုသခင်မလေးက ကျွန်မကိုလဲ မွေးစားသမီးတစ်ယောက်အနေနဲ့ပြောနေ လို့ ရယ်မိတာပါ”

“နင့်အမေက ဘယ်သူလဲ”

လီဝမ်းက ပြုံးလိုက်လျက်

“မမ မသိဘူးလား သူက လင်ချိရှောင်ရဲ့ သမီးလေ”





နတ်ငှက်မယ်မှာ အကြီးအကျယ် အံ့အားသင့်သွားလျက်

“ဟောတော့၊ ပြောမှမပြောဘဲကိုး။ သူတို့ပါးစပ်ထဲကို စူးနဲ့ ထိုးတောင်မှ လင်ချိရှောင်တို့ လင်မယားကတော့ ဘာသံမှမကြားရဘူး လို့ ပြောကြတာ ဒါကြောင့်ကိုး။ လင်မယားကတော့ လိုက်လဲလိုက်ပါ ပေရဲ့။ နှစ်ယောက်လုံး ဆွံ့အနေကြတဲ့ အတိုင်းပဲ။ သူတို့ လင်မယားက ဒီလောက် သွက်လက်ချက်ချာတဲ့ သမီးကလေး မွေးလိမ့်မယ်လို့ ဘယ်သူမှ ယုံကြမှာမဟုတ်ဘူး။ နေစမ်းပါဦး။ ညည်းအသက်က ဘယ်လောက်ရှိ ပြီလဲ”

“ဆယ့်ခုနစ်နှစ်ပါ”

ထိုနောက် အမည်ကိုမေး၏။

“အစတုန်းကကော့ ဟုန်းယုလို့ ခေါ်ပါတယ်။ ဒါပေမယ့် သခင်လေးပေါက်ယုရဲ့ နာမည်ထဲမှာ ယု ဆိုတဲ့စာလုံး ပါနေတဲ့အတွက် ရှောက်ဟုန်လို့ နာမည်ပြောင်းလိုက်ပါတယ်”

နတ်ငှက်မယ်သည် မျက်မှောင်ကုတ်ကာ ခေါင်းကိုယမ်းလိုက်၏။

“ဘာဆိုင်လို့လဲဟဲ့။ ယုဆိုတဲ့စာလုံးထဲမှာ အထူးအဓိပ္ပာယ်ပါ တယ်လို့များ ထင်လို့လား။ လူတွေကလဲ ဘာကြောင့်များလဲ မဆိုနိုင် ဘူး။ တချို့ကဆိုယင် ဒီနာမည်ကိုမှ ကြိုက်ကြတယ်။ ကောင်းပြီ၊ ငါ့ဆီ ကို လာပြီး အလုပ်လုပ်ချင်ယင် လာခဲ့။ အမလီဝမ်းကို ပြောလိုက်ရဦး မယ်။ ငှက်မယ်က သူ့အမေကို ပြောဖူးတယ်။ ကျွန်မဆီမှာ လိုင်တာရဲ့ မိန်းမတစ်ယောက်ပဲ ရှိတယ်။ ကျန်တဲ့လူတွေက သိပ်အားမကိုးရဘူး။ လိုင်တာရဲ့မိန်းမဆိုတာလဲ ယက်မလည်နိုင်ဘူး။ ဂျင်ခြေကိုလည်နေတာပဲ။ ဒါကြောင့် အဓေတော်ကောင်းကောင်း နှစ်ယောက်လောက် ရှာပေး စမ်းပါလို့ မှာလိုက်တယ်။ ပို့တော့ပို့လိုက်ပါရဲ့။ ဒါပေမယ့် သူ့သမီး ကျတော့ ငှက်မယ်ဆီကို မပို့ဘူး။ တခြားကို ပို့လိုက်တယ်။ သူ့သမီးကို ငှက်မယ်စိတ်တိုင်းမကျ ဖြစ်မှာစိုးလို့လားတော့ မပြောတတ်ဘူး”

“အမယ်လေး၊ သူ့အမေကို တလွဲထင်မနေပါနဲ့တော့။ ခု သူ့ သမီးကို ရနေပြီမဟုတ်လား”ဟု လီဝမ်းက စလေ၏။

''ကောင်းပြီ။ မေ့ာင်လေးပေါက်ယုကို ပြောလိုက်မယ်။ နောက်ထပ် တစ်ယောက်ရှာယူလို့၊ သူစိတ်ရှိတယ်ဆိုယင် ငှက်မယ်ဆီကို ပို့ပေးပါလို့ ပြောရမယ်''

ရှောက်ဟုန်ဏပြုံးလိုက်ရင်း

''ဘာရယ်၊ သခင်မလေး၊ စိတ်ရှိယင် ဟုတ်လား။ ကျွန်မပွာ စိတ်ပါတယ် မပါဘူးဆိုတာ မရှိပါဘူး သခင်မလေးရယ်။ ကျွန်မ အပြ တော့ သခင်မလေးအနားမှာ နေရယင် အစစအရာရာ ဗဟုသုတတိုးတာ ပေါ့။ အပြောအဆို အနေအထိုင်၊ အတွေ့အကြုံက အစ''

ထိုသို့ပြောဆိုနေကြစဉ် သခင်မကြီး ဝမ်ထံမှ အစေတော် တစ်ယောက်ရောက်လာကာ နတ်ငှက်မယ်ကိုလာ၍ ခေါ်၏။ ထို့ကြောင့် နတ်ငှက်မယ်မှာလည်း လီဝမ်းကို တစ်ယောက်တည်းထားခဲ့ပြီး လိုက်သွားရ၏။ ရှောက်ဟုန်မှာလည်း နီမောင်းပျော်ဖွယ် ရိပ်သာသို့ ထွက်သွားလေ၏။ ဤတွင် သူတို့အကြောင်းကို တော်ဦးမည်။

တစ်ညလုံး အိပ်မပျော်ဘဲ အိပ်ရာမှ ထလာခဲ့သည့် ထိုက်ယု အကြောင်းကို ဆက်ကြဦးစို့။ သူ့အဖော်များသည် ဥယျာဉ်ထဲတွင် ပန်းနတ်သမီးကို ပူဇော်နေကြောင်း သိရသည့်အခါတွင် ထိုက်ယုသည် သူ့ကို ပျင်းသည်ဟု ကဲ့ရဲ့မည်စိုးသည့်အတွက် ခပ်မြန်မြန်အဝတ်အစား လဲပြီးလျှင် အပြင်သို့ထွက်လာခဲ့ရာ ဝင်းထဲသို့အရောက်တွင် ပေါက်ယု နှင့် ပက်ပင်းတိုးနေ၏။

''မလေး၊ မနေ့ညက မောင့်အတင်း ဘာတွေပြောသလဲ။ တစ်ညလုံး စိတ်ညစ်နေရတယ်''ဟု ပေါက်ယုက ရယ်မော၍ပြော၏။

ထိုက်ယုက သူ့ကိုမကြည့်ဘဲ ဇူချွန်းဘက်သို့ လှည့်လိုက်၏။

''ဇူချွန်းရေ၊ အခန်းကိုလှည်းပြီးယင် ပြတင်းပေါက်တွေကိုပိတ် ထားလိုက်နော်။ ပြီးတော့ ပျံလွှားငှက်တွေ ပြန်လာချိန်လောက်ကျမှ ခန်းဆီးတွေကို ပြန်ချထားလိုက်။ ကန့်လန့်ကာတွေကို သေသေချာချာ ချနော်။ ခြင်္သေ့ရုပ်ကြီးတွေကို အပြင်ဘက်ကထား။ ပြီးတော့အမွှေး တိုင်ကိုထွန်းပြီးယင်လဲ အပေါ်က အုပ်ဆောင်းအုပ်ပစ်ခဲ့''

ထိုသို့ပြောဆိုပြီးနောက် ထိုက်ယုသည် လျှောက်လာခဲ့၏။





ထိုက်ယုက သူ့ကို ဤသို့ ခပ်တည်တည်လုပ်နေခြင်းမှာ ယမန်နေ့က သူရွတ်ပြခဲ့သည့် စာကြောင်း များကြောင့် ဖြစ်လိမ့်မည်ဟု ပေါက်ယု ထင်လိုက်မိ၏။ ညပိုင်းဏာ အဖြစ်အပျက် အကြောင်းကိုမူ သတိမရချေ။ ပေါက်ယုသည် ဦးညွှတ်နှုတ်ဆက်ကာ လက်နှစ်ဖက်ကို ဆုပ်၍ မြှောက်ပြလိုက်၏။ ထိုက်ယုမှာ သူ နှုတ်ဆက်သည်ကို မသိယောင်ပြုကာ တခြားအဖော်များရှိရာသို့ ထွက်လာခဲ့၏။

ပေါက်ယုမှာ ဝေခွဲ၍မရဘဲ ကျန်ရစ်ခဲ့လေ၏။

''မနေ့ကကိစ္စကြောင့်တော့ ဒီလောက်စိတ်မဆိုးနိုင်ဘူး။ ညနေကျတော့လဲ မိုးချုပ်မှပြန်လာတာ။ သူနဲ့မှမတွေ့ရဘဲ။ ဘာစိတ်ဆိုးစရာရှိလဲ''ဟုတွေးရင်း ပေါက်ယုသည် ထိုက်ယုနောက်မှလိုက်လာခဲ့၏။

ထိုက်ယုသည် ဝံပိုငှက်ကြီးများကို ကြည့်နေသည့် ပေါက်ကြည်နှင့်တန်ချွန်းတို့အနီးသို့ ရောက်လာကာ သုံးယောက်သား စကားပြောနေကြစဉ် ပေါက်ယုလည်း သူတို့အနီးသို့ ရောက်လာလေ၏။

''ဘယ်လိုလဲမောင်လေး။ မောင်လေးကိုမမြင်ရတာ ကြာလှပါပကောလား။ သုံးရက်တောင်ရှိသွားပြီ''ဟု တန်ချွန်းက ပြော၏။

''မလေးရော နေကောင်းတယ်နော်။ မနေ့ကတောင် မလေးအကြောင်းကို မလေးငှက်မယ်ဆီကို မေးနေသေးတယ်''

''လာပါဦး။ စကားကလေးဘာလေး ပြောကြရအောင်''

သူတို့နှစ်ယောက်သည် အခြားသူများနှင့်ခွဲကာ သလဲပင်များအောက်သို့ လျှောက်လာခဲ့ကြ၏။

''မကြာခင်တုန်းက မောင်လေးကို ဖေဖျားကခေါ်လို့ဆို'' ပေါက်ယုက ပြုံးလိုက်၏။

''မဟုတ်ပါဘူး၊ မခေါ်ပါဘူး''

''မသိပါဘူး၊ မနေ့က မောင်လေးကို အခေါ်ခိုင်းတယ်ကြားလို့''

''အဲဒီလူက နားကြားလွဲတာ ဖြစ်ပါလိမ့်မယ်။ မခေါ်ပါဘူး'' တန်ချွန်းမှာ ရယ်လျက်ရှိ၏။

''နှစ်လသုံးလလောက်အတွင်း မမစုထားတဲ့ ပိုက်ဆံတွေရှိတယ်။ နောက်တစ်ခါ မောင်လေး အပြင်ထွက်ယင် မမဖို့ လက်ရေးပန်းချီဖြစ် ဖြစ်၊ ရှုခင်းပန်းချီဖြစ်ဖြစ်၊ ကစားစရာဖြစ်ဖြစ် ဝယ်ခဲ့စမ်းပါ''

''မြို့ပြင်ဘက် ဈေးပွဲ၊ ဘုရားဈေးတွေမှာ ပစ္စည်း ကောင်း ကောင်းရယ်လို့ မတွေ့ခဲ့ပါဘူး မမရယ်။ အညံ့စားတွေ ချည်းပဲ။ အဲ မောင်လေးတို့အိမ်မှာ အသုံးမဝင်တဲ့ ရွှေထည်၊ ကျောက်စိမ်းအဟောင်း အမြင်း ပစ္စည်းတွေတော့ ရှိရဲ့။ ပြီးတော့ အထည်ဆိုင်တို့၊ အစား အသောက်ဆိုင်တို့ပဲ ရှိတယ်''

''မမပြောတာက ဒါမျိုးတွေပြောတာ မဟုတ်ဘူး။ တစ်ခါ တုန်းက မောင်လေးဝယ်လာခဲ့တာ မျိုးတွေလေ။ မိုးမခနိုးကြော ဖြစ် တောင်းကလေးတွေ၊ ဝါးမြစ်ကို ထွင်းထားတဲ့ အမွှေးတိုင် သေတ္တာ ကလေးတွေ၊ မြေမီးဖိုကလေးတွေကို ပြောတာပါ။ အဲဒီပစ္စည်းကလေး တွေက လက်ရာကောင်းတော့ မမ သိပ်သဘောကျတာပဲ။ တခြားလူ တွေကလဲ သဘောကျလှချည်ရဲ့ဆိုပြီး မမဆီက ယူသွားကြလို့''

ပေါက်ယုက ရယ်လိုက်၏။

''ဒါတွေကတော့ ပေါပေါတံယ်မမရယ်။ အစေတော်လေးတွေကို ငွေငါးရာလောက်ပေးလိုက်ယင် လှည်းနှစ်စီးတိုက်လောက်တောင် ရပါ တယ်''

''ဒီကောင်လေးတွေက အကောင်းကို သိတာမဟုတ်ဘူး။ မမ လိုချင်တာက ရိုးရိုးလှလှလေးတွေ၊ လက်ရာသန့်ရမယ်။ ပြီးတော့ အစစ် တွေလိုချင်တယ်။ အတုတွေဖြစ်မှာစိုးလို့ သူတို့ကိုမခိုင်းတာ။ လုပ်ပါ မောင်လေးရယ်။ ဝယ်ပေးပါ။ မမ မောင်လေးဖို့ ဖိနပ်ကလေးတစ်ရံ ထိုးပေးပါ့မယ်။ အယင် တစ်ခါကထက် လှလှ ထိုးပေးမယ်။ ဘယ့် နှယ်လဲ''

ပေါက်ယုက ပြုံးလိုက်လျက်

''မမက ဖိနပ်ထိုးပေးမယ်ဆိုလို့ သတိရသေးတယ်။ တစ်ခေ တုန်းက မမထိုးပေးတဲ့ဖိနပ်ကို စီးထားတုန်း ဖေဖျားက မြင်သွားပါ လေရော။ ဒီတော့ သူက ဒီဖိနပ်ကို မကြိုက်တဲ့ပုံနဲ့ ဘယ်သူ ထိုးပေးတဲ့





ဖိနပ်ကို စီးထားတာတဲ့လဲ။ ဒီတော့ မောင်လေးကလဲ မမထိုးပေးတာ လို့ မပြောချင်တာနဲ့ မွေးနေ့တုန်းက ဒေါ်လေးဝမ်ဇာ လက်ဆောင် ပေးဘာလို့ ပြောလိုက်တယ်။ ရုတ်တရက်တော့ ဘာမှ မပြောဘူး။ တော်တော်ကြာမှ အလကား လျှောက်ဖြုန်းတီးနေကြတယ်။ အချိန် လဲကုန်၊ ခွန်အားလဲကုန်၊ ပိုးစအကောင်းတွေလဲ ကုန်တယ်တဲ့။ ဒါနဲ့ ဒီအကြောင်းကို မာလာကို ပြန်ပြောပြတယ်။ ဒီတော့ မာလာက ဒါကံ အရေးမကြီးဘူးတဲ့။ ချောက မကျေမနပ်ဖြစ်နေတယ်တဲ့။ ကိုယ့်ရဲ့မောင် အရင်း ခေါက်ခေါက် ဖြစ်တဲ့ ကျီဟုန် ကို တော့ ဖိနပ် မ ထိုး ပေးဘဲ ပေါက်ယုကိုတော့ ထိုးပေးလို့ တော်တော် စိတ်ဆိုးနေတယ်လို့ ပြော တယ်''

တန်ချွန်းသည် မျက်မှောင်ကုတ်လိုက်၏။

''အိုး၊ ဘာဆိုင်လဲ။ မမက ဖိနပ်ချုပ်စားတဲ့မိန်းမ မဟုတ်တာ။ ကိုယ်ချုပ်ပေးချင်မှ ပေးမှာပေါ့။ ကျီဟုန်မှာ ခြေအိတ်တွေ ဖိနပ်တွေ အများကြီး။ အစေတော်တွေ အစေခံတွေဆိုတာလဲ မရေတွက်နိုင်ဘူး။ သူက ဘာဆိုင်လို့ ဝင်ပြောရတာလဲ။ အမေက ဘယ်သူ့ကို ဘာဖြစ်စေ ချင်လို့လဲ။ တန်ချွန်းညီမလေးဟာ အားတဲ့အချိန်မှာ ဖိနပ်တွေချုပ် ပေးတယ်။ ဘယ်အစ်ကို ဘယ်မောင်ကိုပဲ ဖြစ်ဖြစ် ညီမလေးချစ်တဲ့သူ ကိုပဲ ပေးမယ်။ ဘာမှပြောစရာမလိုဘူး။ အမေဟာ ဒီလိုချည်းပဲ''

ပေါက်ယုက ခေါင်းညိတ်ရင်း ပြုံးနေ၏။

''အေးလေ။ ဒေါ်လေးချော အနေနဲ့ကတော့ ဒီလိုပဲမြင်မှာ ပေါ့။ ဒါမှ သဘာဝကျမှာပေါ့''

ထိုစကားကြောင့် တန်ချွန်းသည် ပို၍ဒေါသွားဟာ ခေါင်းကို ယမ်းလိုက်ရင်း

''အစ်ကိုပြောတာလဲ အဓိပ္ပာယ်မရှိဘူး။ ဟုတ်တယ်။ အမေဟာ စိတ်သဘောထား ကျဉ်းမြောင်းတယ်။ အောက်တန်းကျတယ်။ စိတ် ထား ပုပ်တယ်။ ဒီတော့ သူဘာပြောပြော ညီမလေးတို့အနေနဲ့ ဂရုစိုက် စရာ မလိုပါဘူး။ ညီမလေးတို့မှာ ကိုယ့်ကိုမွေးထုတ်တဲ့ မိဘကလွဲလို့ ဘယ်သူ့ကိုမှ တာဝန်မရှိဘူး။ ညီအစ်ကိုမောင်နှမတွေကကော ကိုယ့်

အပေါ်မှာ ကောင်းယင် ကိုယ်ကလဲ ပြန်ကောင်းမယ်။ အကြီးကမွေး မွေး၊ အငယ်ကမွေးမွေး ကိုယ့်အပေါ်ကောင်းမှ ကိုယ်က ပြန်ကောင်း မှုစပဲ။ အမှန်တော့ ညီမလေးတို့အနေနဲ့ ဒီလိုပြောဖို့ မကောင်းပါဘူး။ ဒါပေမယ့် ဒီမိန်းမကြီးဟာ စိတ်ထားကိုမကောင်းဘူး။

''ပြီးတော့ နောက်တစ်ခုပြောရဦးမယ်။ အယင်တစ်ခါတုန်းက ပစ္စည်းလေးတွေကိုဝယ်ဖို့ အစ်ကို့ကို ညီမ ပိုက်ဆံတွေ ပေးလိုက်တယ် မဟုတ်လား။ အဲဒါကိုမြင်တော့ အမေက သူ့မှာ ပိုက်ဆံမရှိဘူးတဲ့။ ဒါပေမယ့် ညီမလေးက မကြားချင်ယောင်ဆောင်နေတယ်။ အစေတော်တွေလဲ ထွက်သွားရော ကျီဟုန်ကိုမပေးဘဲ အစ်ကို့ကို ပေးရမှာမို့လား၊ ဆိုပြီး ညီမလေးကိုဆူလိုက်တာ၊ မပြောပါနဲ့တော့။ ညီမလေး ဖြင့် သူ့ကိုစိတ်ဆိုးရမလား၊ ရယ်ရမလားတောင် မပြောတတ်တော့ဘူး။ ဒါနဲ့ မယ်မယ်ဆီကို သွားနေလိုက်တယ်''

ထိုစဉ် ပေါက်ကြည်ကလှမ်း၍

''ကဲ၊ ကိုရှေအိုးတို့၊ မလေအိုးတို့၊ စကားပြောလို့ မပြီးကြ သေးဘူးလား''

သူတို့နှစ်ယောက်သည် ပြုံးကာ ပေါက်ကြည်တို့ဆီသို့ ပြန်လာ ခဲ့ကြ၏။

ပြန်လာသောအခါတွင် ထိုက်ယုမှာ ပြန်သွားလေပြီ။ ထိုက်ယု သည် သူ့ကိုရှောင်နေခြင်းဖြစ်ကြောင်းကို ပေါက်ယုသိ၏။ ပေါက်ယု သည် သူ စိတ်ပြေအောင် နေလိုက်ဦးမည်ဟု အောက်မေ့ကာ သုံးလေး ရက်မျှနေလိုက်ပြီး စိတ်ပြေလောက်သည့်အချိန်ကျမှ ထိုက်ယုထံသို့လာခဲ့ ၏။ ခေါင်းကို ငုံ့လျှောက်လာစဉ် မြေကြီးပေါ်တွင် သလဲပွင့်များနှင့် ပရပ်လွှာကလေးများ ပြန့်ကျဲလျက်ရှိသည်ကို တွေ့ရလေ၏။





''အင်း၊ ခါတိုင်းဆိုယင် ဒီပန်းပွင့်ကလေးတွေကို သူကစက် နေကျ။ ခုတော့ စိတ်ဆိုးနေတာနဲ့ ပန်းပွင့်ကလေးတွေတောင် ဆင်း မကောက်တော့ဘူး။ ငါ ကောက်သွားမှ''ဟု စဉ်းစားနေစဉ် ပေါက် ကြည်က ဥယျာဉ်ထဲတွင် လျှောက်လည်ရန် ခေါ်၏။

''သွားနှင့်ပါ။ နောက်တော့ လိုက်ခဲ့မယ်''ဟု ပေါက်ယုက ပြော၏။

သူတို့ထွက်သွားသည်နှင့် ပေါက်ယုသည် ပန်းပွင့်ကလေးများကို ကောက်ကာ ဝတ်ရုံအင်္ကျီထဲတွင် ထည့်ပြီးနောက် ကမူကလေး တစ်ခု ပေါ်သို့ တက်လာခဲ့၏။ ထိုမှ စမ်းချောင်းကလေးတစ်ခုကို ဖြတ်ခဲ့၍ သစ်သီးခြံကိုဖြတ်လျက် မက်မုံပွင့်ကလေးများကို ထိုက်ယု မြှုပ်လေ့ ရှိသည့် ကမူကလေးပေါ်သို့ တက်လာခဲ့၏။ ကမူကလေးကို ကွေ့၍ ပန်းသင်္ချိုင်းဆီသို့လာခဲ့စဉ် ကမူတစ်ဖက်မှ ရှိုက်သံတစ်ခုကို ကြားရ၏။ တစ်ဖက်တွင် ငိုနေသူတစ်ဦးရှိကြောင်း သိနိုင်ပေ၏။

''အင်း၊ အစေတော်တစ်ယောက်ယောက် အနှိပ်စက်ခံရတာနဲ့ လာပြီး ငိုနေဟန်တူရဲ့''ဟု တွေး၏။ ထိုနောက် တေးဆိုသံကို ကြား ရ၏။ တေးမှာ အောက်ပါအတိုင်း ဖြစ်၏။

ပန်းပွင့်တို့ကြွေကာ လေမှာလွင့်ကြသည်
ယခုတော့ ရနံ့ပြယ်လို့ မေ့လွယ်ကြသည်
နွေရိပ်သာခန်းဆီ ပင့်ကူမျှင်တို့ လွင့်ပျံကြပြီ
မိုးမခရွက်များလဲ ရွှေချည်ကန့်လန့်ကာမှာ လွင့်ပါးကြသည်
ခန်းတွင်းရိပ်သာဆီ မယ့်တစ်ကိုယ်တည်း တေးသီ
ကုန်ဆုံးလို့ လွှမ်းမောရသည့် ချစ်စရာ့နွေပန်းချီ
တွေးမိတိုင်း ဖြေဆည်မရနိုင်သည်
အိုးစက်ရာကတ္တီ အိပ်လို့မပျော်ပြီ
မနင်းရက်ငေပမယ့် ပန်းလွှာမြေမဟီ
လျှောက်လို့လာခဲ့သည်။ ။

စိမ်းလန်းသော မိုးမခနဲ့ ဆီးတော်ပင်များသည်
မက်မုံပွင့်နဲ့ ဆီးတော်ပွင့်များ ကြွေကျသော်လဲ
ဂရုမထား အသနားမပိုပြီ
နောင်နှစ်တွင် ပွင့်သစ်ဦးတွေ ဖူးဝေဦးမည်
ဒါပေမယ့် ဟာလာဟင်း မယ့်အုံးစက်ရာဆီ....။ ။

ပေါက်ယုမှာ ထိုအသံကိုကြား၍ စိတ်မကောင်းဖြစ်နေ၏။ အကြောင်းကို ထပ်မံသိလိုလျှင် နောက်တစ်ခန်းကို ဖတ်ပါလေ။



အခန်း ၂၀

ကျန်းယုဟန်သည် မိတ်ဆွေသစ်တစ်ဦးအား ကြက်သွေးရောင်
နံ့သာခါးစည်းကြိုးတစ်ခု ပေးခြင်း။
ပေါက်ကြည်သည် ကတိုးနံ့သပ်ထားသည့် ပတ္တမြားလက်ကောက်ကို
ရှက်ရှက်ဖြင့် ပေးခြင်း။

မနေ့ညက သူ့အစ်ီချင်ဝမ်းက ဝင်းထဲသို့ ဝင်ခွင့်မပေးသည့်အတွက် ထိုက်ယုသည် ပေါက်ယုကို စိတ်ဆိုးနေကြောင်းကို ကျွန်ုပ်တို့ သိခဲ့ရလေပြီ။ ယနေ့မှာမူ ပန်းနတ်သမီး ပူဇော်ပွဲနေ့ဖြစ်သည့်အတွက် ထိုက်ယုသည် ပန်းပွင့်ကလေးများကို မြေကြီးထဲကို မြှုပ်ရင်း သူ့ဘဝကိုသူ နာကြည်းဖွာ ပူဆွေးသောကရောက်လျက်ရှိ၏။

အစတွင် ပေါက်ယုသည် ကမ္ဘူထိပ်တွင်ရပ်၍ နားထောင်နေ၏။ အစတွင် သူ့တေးသံကို သဘောကျကာ ထိုက်ယုကို ကရုဏာသက်လျက်ရှိသော်လည်း

ပန်းကြွေတို့ကို မြေမြှုပ်တော့ ငါ့ကို ရယ်မောကြသည်
ဒါပေမယ့် ငါ့ကို ဘယ်သူမြေမှာမြှုပ်မယ် မသိနိုင်ပြီ
နွေဦးကုန်ဆုံးလို့ အလှတွေပျက်သုဉ်းလေပြီ
သည်အခါတွင် ပန်းကြွေနဲ့ ဝိညာဉ်ကင်းတဲ့မေကို
ဘယ်သူ ဂရုစိုက်လေမည်....။

ဟူသော စာပိုဒ်များကို ကြားလိုက်ရသည့်အခါတွင် ပေါက်ယုသည် လက်တွင်ကိုင်လာသည့် ပန်းပွင့်ထုပ်ကလေးကို လွှတ်ချလိုက်မိ၏။ ထိုက်ယု၏အလှနှင့် နှစ်လိုဖွယ်ကောင်းခြင်းတို့သည်လည်း တစ်နေ့တွင် ပျောက်ကွယ်ကြရဦးမည်ဟု တွေးမိလိုက်သည်နှင့် ပေါက်ယုရင်ထဲတွင် မချိတစ်ကဲဖြစ်သွား၏။ ထို့အတူ ပေါက်ကြည်၊ ယင်လင်းနှင့် မာလာစတို့သည်လည်း ဤအဖြစ်မျိုးကို ကြုံတွေ့ကြရဦးမည် ဖြစ်ကြောင်းကို သဘောပေါက်လာခဲ့လေ၏။ သူတို့မရှိသည့်နောက်တွင် မိမိသည်လည်း မည်သို့ဖြစ်လေမည်နည်း။ ဤဥယျာဉ် ဤပန်းပွင့်များနှင့် ဤမိုးမခပင်တို့ကို မည်သူတွေ ဆက်လက်စောင့်ရှောက်ကြမည်နည်း။ သို့ဖြင့် ပေါက်ယုသည် အမျှင်မပြတ်တွေးလျက်ရှိရာ နောက်ဆုံး၌ မိမိသည် အသက်ဝိညာဉ်မရှိ၊ ခံစားမှုမရှိ၊ နာမ်ခန္ဓာတို့မရှိ၊ ဘာမျှမဟုတ်သော ပစ္စည်းတစ်ခုဖြစ်နေလျှင် ကောင်းလေစွ။ ပန်းနှံ့ ယစ်ထုံ၊ လှမျိုးစုံနှင့်၊ တေးသံဝင့်သည့် ပတ်ဝန်းကျင်တွင် နေရသည့်တိုင် ဤလောကီဘောင် အရှုပ်အထွေးမှ သူ လွတ်ကင်းလိုသောဆန္ဒ ဖြစ်မိ၏။

တစ်ယောက်တည်းငိုလျက်ရှိသည့် ထိုက်ယုသည် ကမူပေါ်မှ ငိုသံတစ်ခုကို ကြားလိုက်ရသဖြင့် လှည့်ကြည့်လိုက်မိရာ၏

"ငါ့ကို အရူးဆိုပြီး လူတွေက ဝိုင်းရယ်ကြတယ်။ ခုတော့ ငါ့လို ငိုနေတဲ့ အရူးတစ်ယောက် ပေါ်လာပြန်ပြီထင်တယ်"ဟု တွေးမိရာက ကမူဘက်သို့ လှမ်းကြည့်လိုက်သည့်အခါတွင် ပေါက်ယုကို မြင်လိုက်ရ၏။

"ဟင်း လက်စသတ်တော့ သူကိုး။ အလကား အသည်းနှလုံးမရှိတဲ့လူညာ...."

ထိုက်ယုသည် ထိုစကားလုံး ထွက်သွားမိသည့်အတွက် ပါးစပ်ကို ပိတ်လိုက်ပြီးလျှင် ခပ်ဝေးဝေးသို့ ရှောင်ထွက်လာခဲ့၏။

ပေါက်ယု သတိရ၍ ကြည့်လိုက်သည့်အခါတွင် သူ့ကို မတွေ့လိုသဖြင့် ရှောင်ထွက်သွားဟန်တူသည့် ထိုက်ယုကို မတွေ့လိုက်ရတော့ချေ။ ပေါက်ယုသည် ရုက်ရုက်ဖြင့် အင်္ကျီတွင် ပေရေနေသည့် ဖုန်တို့ကို ခါကာ မိမိနေထိုင်ရာ နီမောင်းပျော်ဖွယ်ရိပ်သာဘက်သို့ မြန်လှည့်ထွက်





လာခဲ့၏။ ရှေ့တွင် ထိုက်ယုကို လှမ်းမြင်လိုက်သည့်အတွက် ပေါက်ယုသည် နောက်မှ ခပ်သုတ်သုတ်လိုက်လာခဲ့၏။

"ဓကာနေပါဦး မလေး။ မလေးဟာ မောင့်မျက်နှာကို မကြည့်ချင်တောင် စကားကလေးတစ်ခွန်းလောက်ကိုတော့ နားထောင်သွားပါဦး။ ဒီစကားလေးတစ်ခွန်းကို နားထောင်ပြီးတဲ့နောက်မှာ မောင့်မျက်နှာကို တစ်သက်လုံး မကြည့်ချင်ဘူးဆိုယင်လဲ မကြည့်ဘဲ နေနိုင်ပါတယ်"

ထိုက်ယုသည် မကြားချင်ယောင်ပြုကာ ဆက်လျှောက်သွားမည်ပြုသေး၏။ သို့ရာတွင် စကားတစ်ခွန်းဟုဆိုလိုက်သဖြင့် အနည်းငယ်ထူးဆန်းနေသည့်အတွက် ရပ်နေလိုက်၏။

"ဘာလဲ၊ ပြော"

ပေါက်ယုက ပြုံးလိုက်သည်။

"နှစ်ခွန်းပြောယင်ကော နားထောင်မယ်နော်"

ထိုက်ယုသည် ဘာမျှမပြောတော့ဘဲ ဆက်လျှောက်လာခဲ့၏။

ပေါက်ယုသည် သူ့နောက်က လိုက်လာခဲ့လေ၏။

"မလေး ခုတလောမှာ ဘာဖြစ်နေတာလဲဟင်။ အယင်ကနဲ့ နည်းနည်းမှ မတူဘူး"

ထိုက်ယုက နောက်ပြန်လှည့်ကြည့်လိုက်လျက်

"ခုတလောနဲ့ အယင်ဆိုတာ ဘာကိုပြောတာလဲ"

ပေါက်ယုက သက်ပြင်းကြီးတစ်ချက်ကို ချလိုက်လျက်

"ဩော် မလေးရယ်။ မလေးဒီကိုရောက်လာခါစတုန်းက မလေးနဲ့ မောင်ဟာ ကစားဖော် ကစားဖက်တွေ။ မလေးရောက်လာတဲ့အခါကျတော့ မောင် အတိုင်းအဆမရှိ ပျော်ခဲ့တယ်။ မလေးကိုမြင်ရတော့ စိတ်ထဲမှာ ချမ်းမြေ့သွားခဲ့ရတယ်။ မောင်ကြိုက်တဲ့ဟင်းကို မလေးကြိုက်တတ်မှန်းသိလို့ မလေးဖို့သတ်သတ်ချန်ပြီး မလေးလာမှ အတူတူစားခဲ့ကြတယ်။ ထမင်းကို တစ်စားပွဲတည်းစားပြီး တစ်အိပ်ရာတည်း အိပ်ခဲ့ကြတယ်။ မလေး စိတ်မကြည်မလင်ဖြစ်စေမယ့် စကားမျိုး အမူအရာမျိုးကို မပြောရ မလုပ်ရဘူးလို့ မောင့် အစေတော်တွေကို သတိပေးခဲ့တယ်။

တကယ်ကတော့ မိတ်ဆွေသူငယ်ချင်းလို ကြီးပြင်းလာခဲ့ကြတဲ့ မွေ မျိုးညီအစ်ကို မောင်နှမတွေဟာ တခြားလူတွေထက်ပိုပြီး ကြင်နာသ တယ်လို့ မောင်ထင်တယ်။ ခုတော့ မလေးက မောင့်ကို စိမ်းကားပြ မလေးပေါက်ကြည်တို့၊ မလေးငှက်မယ်တို့ သူစိမ်းတွေကို ပိုပြီး ခင်တွယ် နေတာကိုတွေ့တော့ မောင် တကယ်ရင်နာတယ်။ ခုဆိုယင် မလေး မော ကို အဆက်ဖြတ်ထားတာ သုံးလေးရက် ရှိသွားပြီ။ တကယ်တော့ မော မှာ တစ်မအေတည်းကမွေးတဲ့ ညီအစ်ကိုမောင်နှမဆိုလို့ ရှိတာမဟုတ် ပါဘူး။ မလေးသိတဲ့အတိုင်း အဖေတူမအေကွဲက မွေးလာတဲ့ ညီအစ်ကို မောင်နှမတွေပဲ ရှိတာပါ။ မလေးလိုပဲ မောင်ဟာလဲ တစ်ဦးတည်း သော မွေးချင်းပါ။ ဒါကြောင့် မောင်နဲ့မလေးတို့ဟာ တစ်ယောက်နဲ့ တစ်ယောက် ပိုပြီးနီးစပ်ကြတယ်၊ နားလည်ခဲ့ကြတယ်လို့ မောင် တွက် ခဲ့တယ်။ ခုတော့ မောင့်မှာ ဒီမျှော်လင့်ချက်လဲ ဆုံးခဲ့ပြီပေါ့။ ခု ရင်ထဲ မှာ ဘယ်လောက် ခံစားနေရတယ်ဆိုတာကို ဖွင့်ပြောပြရမယ့်လူတောင် မရှိတော့ဘူးပေါ့"

ပြောရင်းဆိုရင်း ပေါက်ယုမျက်လုံးမှ မျက်ရည်တွေစီးကျလာ၏။

ပေါက်ယု၏စကားကိုကြားကာ သူ့အခြေအနေကို မြင်ရသည့်အခါတွင် ထိုက်ယုမှာလည်း သူ့ကို သနားသွား၏။ ထိုက်ယုသည် မျက်ရည်တွေဝဲလျက် ခေါင်းကို ငုံ့ထားမိ၏။ မည်သို့မျှမပြောမိချေ။

ပေါက်ယုမှာ အားတက်လာကာ

"မောင့်အပြစ်တွေကို မောင်သိပါတယ်။ ဒါပေမယ့် မောင်ဟာ ဘယ်လောက်ပဲဆိုးဆိုး မလေး ထိခိုက်နစ်နာအောင်တော့ မလုပ်ရက်ပါဘူး။ တကယ်လို့ မောင်လုပ်တာ မတော်တာရှိယင်လဲ မလေး မောင့်ကို ဆိုနိုင်တယ်၊ ဆုံးမနိုင်တယ်၊ သတိပေးနိုင်တယ်၊ ရိုက်ချင်သပ ဆိုယင် ရိုက်နိုင်ပါတယ်၊ အရေးမကြီးပါဘူး။ မောင် ခံနိုင်ပါတယ်။ ဒါပေမယ့် မလေးက ခုလို မောင့်ကို လျစ်လျူပြုထားတာတော့ ဘာကြောင့်မှန်းမသိဘူး။ မောင်မခံနိုင်ဘူး။ ဒီလို ကြာကြာနေယင် မောင် ရူးလိမ့်မယ်ထင်တယ်။ ဘာလုပ်ရမှန်းမသိတော့ဘူး။ တကယ်လို့ ခုနေမှာ မောင် သေသွားယင်တောင် မောင်ဟာ 'ချွတ်၍ မကျွတ်၊





တစ္ဆေဝင်ဋ္ဌ၊ ပူလိုက်ဆင်းရဲ၊ အမြဲခံရ'ဆိုတဲ့ စာလို ဖြစ်မှာပါ။ တန်ခိုးအကြီးဆုံး ဆိုတဲ့ ရဟန္တာအဆူဆူ လာပြီးချွတ်တောင်မှ မောင်ကျွတ်မှာ မဟုတ်ဘူး။ မောင်ဘာတွေမှားနေတယ်ဆိုတာကို မလေး ပြောပြမယ် ဆိုယင် မောင့်ဘဝဟာ အသစ်မွေးလာတာနဲ့ အတူတူပါပဲ မလေးရယ်"

ထိုက်ယုမှာ မနေ့က စိတ်ဆိုးနေသည်တို့ အကုန်လုံး ပျောက်သွား၏။

"ဒါဖြင့် မနေ့ညက မလေးလာတော့ မောင့်အစေခံတော်တွေကို ဘာဖြစ်လို့ တံခါးဖွင့်မပေးနဲ့လို့ ပြောထားသလဲ"

ပေါက်ယုမှာ အံ့အားသင့်လျက်ရှိရာမှ

"ဘာ.... မောင်က တံခါး ဖွင့်မပေးနဲ့လို့ ပြောထားတယ် ဟုတ်လား။ ဒီလိုစကားမျိုး ပြောမိတယ်ဆိုယင် ခုချက်ချင်း သေရပါစေရဲ့ မလေးရယ်။ မဟုတ်ရပါဘူး"

"တော်စမ်းပါ၊ မနက် စောစောစီးစီး သေစကားတွေ သိပ် မပြောစမ်းပါနဲ့။ မောင် ပြောသလား မပြောဘူးလား ဒါပဲပြောပါ။ ကျိန်ဖို့ မလိုပါဘူး"

"မလေးလာတာကိုလဲ မောင်မသိဘူး၊ ဘာမှလဲ မသိပါဘူး။ မနေ့ညက မလေးပေါက်ကြည်ရောက်လာလို့ သူနဲ့ ခဏ တဖြုတ်တော့ စကားပြောမိကြရဲ့။ ဒါပေမယ့် သူလဲ မကြာပါဘူး။ ခဏနေတော့ ပြန်သွားတာပါပဲ"

ထိုက်ယုသည် သူ့စကားကို စဉ်းစားနေ၏။ အတန်ကြာမှ မျက်နှာကြည်ကြည်ဖြင့်

"ထားပါတော့လေ၊ ဟုတ်မှာပါ။ မောင့် အစေတော်တွေက ညဉ့်နက်ပြီထင်တာနဲ့ ခပ်လွယ်လွယ် ပြောလိုက်ကြဟန် တူပါတယ်"

"ဖြစ်နိုင်တယ်၊ ဘယ်သူလဲ ဆိုတာ မောင် စုံစမ်းကြည့်ဦးမယ်။ ပြောတဲ့ကောင်မတော့ သိရောပေါ့"

"ဟုတ်တယ်၊ မောင့်ရဲ့ အစေတော်တွေကို နည်းနည်းတော့ ဆုံးမပေးဖို့ကောင်းတယ်။ မလေးအနေနဲ့ ပြောလို့တော့ မကောင်းဘူးပေါ့လေ။ မလေးကို သရော်မော်ကား ရိုင်းရိုင်းပျပျ ပြောတာက

အရေးမကြီးပါဘူး။ မလေး ခံနိုင်ပါတယ်။ ဒါပေမယ့် နောက်တစ်ခါ မောင် အမြတ်တနိုးထားတဲ့ ပေါက်ကြည်ကို သွားပြီး ရှိင်းရှိင်းစိုင်းစိုင်း ပြောမိနေမှ ဒုက္ခရောက်နေမယ်''

ထိုက်ယုက ပြုံးစနဲ့နဲ့ဖြင့် ပြော၏။ ပေါက်ယုကား ပြုံးရမည်လား စိတ်ဆိုးရမည်လားဟု မဝေခွဲနိုင်အောင် ဖြစ်လျက်ရှိ၏။ ထိုသို့ ပြောဆိုနေကြစဉ် ထမင်း စားရန် လာခေါ်နေသဖြင့် မေဖျား၏ အဆောင်ဘက်သို့လာခဲ့ကြ၏။ ထိုက်ယုကိုမြင်သည့်အခါတွင် မေဖျားက

''သမားတော်ကြီးပေါက်ရဲ့ဆေးတွေကို စားနေတာ ဘယ့်နှယ် နေသေးလဲ မဈေး''

''သိပ်မသက်သာ မထူးလှပါဘူး အရီးရယ်။ မယ်မယ်ကတော့ သမားတော်ကြီးဝမ်ရဲ့ဆေးကို စားစေချင်တယ်လို့ ပြောနေပါတယ်''

ပေါက်ယုက

''မလေး ကျန်းမာရေးက ခက်သားပဲ မေဖျားရဲ့။ သူ့မှာ မျိုးရိုးကစပြီး သွေးအားနည်းတဲ့ရောဂါပါလာပြီး လူကလဲနုနုနယ်နယ် ကလေး ဆိုတော့ နည်းနည်း အအေးမိတာကို မခံနိုင်တော့ဘူးပေါ့။ အမှန်ကတော့ ဆေးကိုတော်တော်များများစွဲစားသွားမှ ကောင်းမှာ။ ဆေးလုံးတွေ ရှိတယ်မဟုတ်လား''

သခင်မ ဝမ်က

''ဟိုတစ်နေ့က သမားတော်ကြီးက ဆေးတွေ ပေးသွားတယ် မဟုတ်လား။ ဘာဆေးရယ်တော့ မေဖျားမခေါ်တတ်ဘူး''

''ဩော်....ကောလိသိမ်မြစ်ထင်ပါတယ် မေဖျားရယ်''

''မဟုတ်ပါဘူးကွယ်''

''ရတနာရှစ်ပါး သွေးဆေးလား၊ ဘယ် အားတိုးဆေးလား၊ ဒါမှမဟုတ် ညာအားတိုးဆေးလား။ ဒါမှ မဟုတ် ရနံ့ခြောက်ပါး နှလုံးအားတိုးဆေးလား''

''မဟုတ်ပါဘူးကွယ်၊ ဒါတွေ တစ်ခုမှမဟုတ်ဘူး။ သမ္ဘာဒေဝ ဆေးကြီးဆိုလားဘာလားပဲ''

ပေါက်ယုက လက်ခုပ်လက်ဝါးတီးလိုက်လျက်





''မေဖျားပြောတဲ့ သမ္ဘာဒေဝဆေးကြီးဆိုတာ မကြားဖူးပေါင် မေဖျားရယ်။ ဒီလိုဆိုယင် ဗောဓိသတ္တလျက်ဆားတို့ဘာတို့ပါ ပေါ် ကုန်လိမ့်မယ်ထင်တယ်''

ခန်းဆောင်ထဲတွင် ရှိနေသူများအားလုံး ရယ်ကြ၏။

ပေါက်ကြည်က ရယ်ချင်စိတ်ကိုချုပ်တည်းကာ

''သိကြားရေစင် နှလုံး သွေး အားတိုးဆေး ဖြစ်ပါလိမ့်မယ် မေဖျားရဲ့''

''အေး....ဟုတ်တယ်ဟုတ်တယ် သိပါဘူးကွယ်။ ခေါင်းတွေကလဲ တယ်ပြီးမကောင်းတော့ပါဘူး'' ဟု သခင်မဝမ်က ပြောလေ၏။

''မေဖျားခေါင်းက ရှုပ်တာမဟုတ်ပါဘူး။ သမ္ဘာဒေဝနတ်တွေနဲ့ ဗောဓိသတ္တတွေက ရှုပ်ကုန်တာပါ''

''ဟင်း၊ တော်ပြီ။ ဒါမျိုး မနောက်ကောင်းဘူး။ တော်တော်ကြာ ဖေဖျားရိုက်နေလိမ့်ဦးမယ်''

''အမယ်လေး ဒါမျိုးပြောလို့ ဖေဖျားက မောင့်ကို မရိုက်ပါဘူး''

''ဟုတ်ပြီလေ။ ဆေးနာမည်ကို သိပြီပဲ။ မနက်ဖြန်ကျတော့ အဝယ်ခိုင်းလိုက်တာပေါ့''

ပေါက်ယုက

''ဒီဆေးတွေက အလကားပါ မေဖျားရယ်။ မောင့်ကိုသာ ငွေ သုံးပိဿာခွဲလောက် ပေးစမ်းပါ။ မလေးအတွက် မောင် ဆေးဖော်ပေးပါ့မယ်။ မောင်ဖော်ပေးတဲ့ဆေးကိုစားယင် မလေးရောဂါ ယူပစ်သလို ပျောက်ရစေ့မယ်''

''တော်စမ်းပါ။ သားရဲ့ဆေးက ဘာဆေးမို့လို့ ဒီလောက် တောင် တန်ဖိုးကြီးရတာလဲ''

ပေါက်ယုက ရယ်လိုက်လျက်

''တကယ်ပြောတာ။ ဆေးက တော်တော်ဈေးကြီးတယ်။ ဆေး ညွှန်းကလဲ တော်တော်ထူးခြားတယ်။ ဒီပြင် ဆေးမည်တွေကို မောင် မပြောတော့ဘူးလေ။ တချို့ကိုပဲ ပြောပြမယ်။ ဘာပါရမလဲဆိုယင်၊

ပထမဦးဆုံးမွေးတဲ့ ကလေးရဲ့ အချင်းရယ်၊ အရွက်ရှိတဲ့ လူသဏ္ဍာန်ကောလိသိမ်မြစ်ရယ်– ဗီနှစ်ခုနဲ့ပဲ ငွေ သုံးပိသာခွဲကျော် တန်နေပြီ။ ပြီးတော့ လိပ်လောက်ရှိတဲ့ ပုဇွန်စာမြစ်ရယ်၊ အနှစ်တစ်ထောင် ကြာတဲ့ ထင်းရှူးပင်အမြစ်မှာကပ်နေတဲ့ သစ်ဥရယ်၊ ပြီးတော့ အဲဒီလို ရှားရှားပါးပါး ဆေးဖက်ဝင်ပစ္စည်းတွေရယ် ရှာရမယ်။ သိပ်ရှားတဲ့ ဆေးဖက်ဝင်ပစ္စည်းတွေ မဟုတ်ပါဘူး။ ရှာယင်ရပါတယ်။ ဒါပေမယ့် အရေးကြီးဆုံး ဆေးမှည်ကို ကြားလိုက်ရယင် လန့်များသွားကြမလား မသိဘူး။ အစ်ကို ဆွေ့ဖန်ကတော့ ဆေးဖော်နည်းကို တောင်းနေတာ တစ်နှစ်လောက် ရှိပြီ။ ဒါတောင် သူ့မှာ အဲဒီဆေးကိုဖော်ဖို့ ပစ္စည်းတွေလိုက်ရှာရတာ နှစ်နှစ်ကျော်လောက်ရှိပြီ။ ငွေလဲ ဆယ်ပိသာလောက်ကုန်ပြီ။ မယုံယင် မလေး ပေါက်ကြည့်ကို မေးကြည့်ပါလား”

ပေါက်ကြည့်က လက်ခါပြ၍ ရယ်လိုက်ရင်း

“အမယ်လေး၊ သူများကို ဆွဲမထည့်ပါနဲ့။ ဒါတွေ ပေါက်ကြည့် ဘာမှမသိပါဘူး။ ကြားလဲ မကြားဖူးဘူး။ ဘာဖြစ်လို့ မဟုတ်က ဟုတ်က လျှောက်ပြောနေရတာလဲ”

ဒေါ်လေးဝမ်က

“ဟုတ်တယ်။ ငါ့တူမကတော့ မမှန်တာကို ဘယ်တော့မှပြောမှာ မဟုတ်ဘူး”

ပေါက်ယုက ချာခနဲလှည့်လိုက်ကာ လက်ခုပ်တီးလိုက်ရင်း

“ဟုတ်တယ်။ မောင်ပြောတာ အမှန်ပြောတာ။ ခုတော့ မောင်ပဲ လိမ်ပြောနေသလိုလို”

လှည့်ကြည့်လိုက်သည်တွင် ပေါက်ကြည့်နောက်မှထိုင်ကာ ပါးစပ်ကို လက်တစ်ဖက်ဖြင့်အုပ်ပြီး လက်တစ်ချောင်းကို ပါးတွင်ကပ်၍ ယို့ယို့ ထိုင်နေသော ထိုက်ယုကို မြင်လိုက်၏။

နတ်ငှက်မယ်သည် အတွင်းဆောင်ဘက်တွင် စားပွဲများကို နေရာချပေးရာတွင် စီမံနေရာမှ အပြင်ဘက်အဆောင်သို့ ထွက်လာခဲ့ပြီးလျှော်





“ဟုတ်တယ် ဒေါ်လေးဝမ်ရဲ့။ ပေါက်ယုက ညာပြောနေတာ မဟုတ်ဘူး။ တစ်နေ့တုန်းကတွင်ပဲ ငှက်မယ်ဆီကို ဆွေ့ဖန်ရောက်လာပြီး သူ့ကို ပုလဲ နည်းနည်းပေးပါလို့ လာတောင်းတယ်။ ငှက်မယ်က ဘာလုပ်ဖို့လဲလို့ မေးတယ်။ ဒီတော့ သူက ဆေးဖော်ချင်လို့တဲ့။ ဒီလောက်ဒုက္ခများမှန်း မသိလို့ပါ မလေးငှက်မယ်ရာ။ ဒီလောက်သာ ဒုက္ခများမှန်းသိယင် ကျွန်တော် မဖော်ပါဘူးလို့ ပြောတယ်။ ဒီတော့ ငှက်မယ်ကလဲ သိချင်တာနဲ့ မောင်လေးဟာက ဘာဆေးလဲလို့ မေးတယ်။ ဒီတော့ သူက ပေါက်ယုကပေးတဲ့ဆေးညွှန်းဆိုပြီး ဆေးအမည်တွေကို ရွတ်ပြတယ်။ ငှက်မယ်လဲ သေသေချာချာ နားထောင်ချိန် မရပါဘူး။ ခုဟာက ဒီဆေးဖော်ဖို့အတွက် ပုလဲတွေ ဝယ်ရမယ် မလေးရဲ့တဲ့။ ဒါပေမယ့် အဲဒီပုလဲက ခေါင်းမှာပန်ပြီးသားပုလဲ ဖြစ်ရမယ်။ ဒါကြောင့် မလေးငှက်မယ်ဆီကို လာတာတဲ့။ တကယ်လို့ မလေး ငှက်မယ်ဆီမှာ ပုလဲအလွတ် အဆင်သင့် မရှိယင်လဲ ဆံထိုးတို့ ဘာတို့ ထဲက ဖြုတ်ပေးပါ မလေးရယ်တဲ့။ နောက်တော့ ဒီထက်ကောင်းတဲ့ ပုလဲတစ်လုံးကို ကျွန်တော် အစားဝယ်ပေးပါ့မယ်တဲ့။

“ဒါနဲ့ ငှက်မယ်လဲ ခေါင်းမှာစိုက်ထားတဲ့ ဆံထိုးတွေထဲက ပုလဲတွေကို ဖြုတ်ပေးလိုက်ရတာပေါ့။ ပြီးတော့လဲ ဒါနဲ့ မပြီးသေးဘူး။ ရွှေနန်းတော်ကြီးမှာ သုံးတဲ့ နန်းသုံးဇာ သုံးလေးတောင်လောက်လိုချင်တယ်တဲ့။ ပုလဲတွေကိုတော့ အမှုန့်ကြိတ်ပြီးပြီ၊ တခြားဆေးမှုန့်တွေနဲ့ ရောရမယ်တဲ့”

“မြတ်စွာဘုရား၊ မလေးပြောမှပဲ ရှင်းတော့တယ်နော်” ဟု ပေါက်ယုကကြားဖြတ်၍အော်၏။ နတ်ငှက်မယ် စကားဆုံးသွားသည့် အခါတွင် ပေါက်ယုက

“ဒါက စတိအဖြစ် လုပ်ရတာ မလေးရဲ့။ တကယ့်ဆေးညွှန်းအတိုင်းဖော်ယင် အဲဒီပုလဲက ရှေးသချိုင်းဂူတွေထဲမှာ ရှိတဲ့ ရှေးက နန်းတွင်းသူတွေဝတ်တဲ့ ပုလဲတွေ၊ ကျောက်မျက်တွေကို အမှုန့်ကြိတ်ရမယ်

လို့ ဆိုထားတာ။ ဒါပေမယ့် ရှေးသင်္ချိုင်းဂူတွေကို ဘယ်မှာလိုက်ရှာပြီး တူးနေနိုင်ပါ့မလဲ။ ဒီတော့ အသက်ရှင်နေတဲ့လူတွေ သုံးနေတဲ့ ပုလဲတွေကိုပဲ လိုက်ရှာရတော့တာပေါ့"

သခင်မဝမ်က

"အမိဒ္ဓဗုဒ္ဓ မြတ်စွာဘုရား။ ကြံကြီးစည်ရာကွယ်။ အဲဒီသင်္ချိုင်းဂူတွေထဲမှာ ပုလဲတွေ ရတနာတွေရှိတယ်ပဲ ထားပါဦး။ သင်္ချိုင်းတွေကို ဘယ်လိုလုပ်တူးမှာလဲ။ ပြီးတော့ ရှေးပဝေသဏီကတည်းက ရှိခဲ့တဲ့ အရိုးတွေကို မင်းတို့ဘယ်လိုလုပ်ပြီး ရှာကြမှာလဲ။ ဒီနည်းနဲ့ဖော်တဲ့ဆေးကလဲ ဘယ်မှာကောင်းနိုင်ပါတော့မလဲ"

ပေါက်ယုက ထိုက်ယုကို လှမ်း၍အကူအညီတောင်း၏။

"မလေး ကြည့်ပြောစမ်းပါဦး။ မောင်ကလိမ်ပြောနေတယ်ဆိုယင် မလေးငှက်မယ်က ဘာဖြစ်လို့ မောင့်ဘက်ကကူပြီး ပြောမှာလဲ"

ပေါက်ယုသည် ထိုက်ယုဘက်သို့ မျက်နှာ မူထားသော်လည်း မျက်လုံးများကမူ ပေါက်ကြည်ဆီသို့ ရောက်နေကြ၏။

ထိုက်ယုက သခင်မဝမ်၏ လက်မောင်းကို ကိုင်လိုက်လျက်

"ဒေါ်ကြီး ကြည့် နော်။ သူ ပြော တာ ကို ပေါက်ကြည်က မှလောက်ခံတော့ ထိုက်ယုဆီကိုလာပြီး အကူအညီ တောင်းနေပြန်ပြီ"

"ဟုတ်တယ်။ ပေါက်ယုဟာ ထိုက်ယုဆိုယင် သိပ် အနိုင်ကျင့်တာပဲ"ဟု ဒေါ်လေးဝမ်က ပြော၏။

ပေါက်ယုက ပြုံးလိုက်ရင်း

"မေဖျား မသိပါဘူး။ မလေးပေါက်ကြည်တို့ ဒီကို မလာခင် သူတို့ချည်းပဲ နေတုန်းကတည်းက သူ့အစ်ကိုဆွေ့ဖန် ဘာတွေလုပ်နေတယ်ဆိုတာ ဘာမှသိတာမှမဟုတ်တာ။ ခုလို ဥယျာဉ်ထဲမှာ တခြားစီခွဲနေရတဲ့အခါကျတော့ သာပြီးတောင် သိမှာမဟုတ်ဘူး။ ဒါပေမယ့် သူ့နောက်ထိုင်နေတဲ့ မလေးထိုက်ယုကတော့ ကျွန်တော် လိမ်ပြောနေတယ်မှတ်လို့ ကျွန်တော့်ကို ကရော်ကရော်ထိုးနေပြီ"





ထိုစဉ် အစေတော်တစ်ယောက် ရောက်လာ၏။ ပေါက်ယုနှင့် ထိုက်ယုအား ထမင်းစားရန် မယ်မယ်က အခေါ် လွှတ်လိုက်ကြောင်း ဖြင့် ပြော၏။ ထိုက်ယုသည် ပေါက်ယုကိုမခေါ်တော့ဘဲ ရှေ့မှ ထွက်သွား၏။

"နေဦးလေ မလေး။ သခင်လေး ပေါက်ယုကို မစောင့်တော့ဘူးလား"ဟု အစေတော်က မေး၏။

"သူက ဘာမှစားချင်ပုံ မရပါဘူး။ လာပါဟယ်။ ငါတော့ ဆာလှပြီ။ သွားနှင့်မယ်"ဟုဆိုကာ ထွက်သွား၏။

"မောင်ကတော့ မေဖျားနဲ့ အတူစားမယ်လေ"

"အမယ်လေး၊ မေဖျားနဲ့မစားပါနဲ့။ မေဖျားက ခုတလောမှာ သက်သတ်လွတ် စားနေတာ။ သွား၊ မယ်မယ့်အဆောင်မှာ သွားစားချည်"

"ကိစ္စမရှိဘူးလေ။ မောင်လဲ သက်သတ်လွတ် စားမှာပေါ့"ဟု ဆိုကာ ပေါက်ယုသည် ကုလားထိုင်တစ်လုံးတွင် ဝင်ထိုင်နေ၏။

သခင်မဝမ်က ပေါက်ကြည်နှင့် အခြား မိန်းကလေးများအား သူ့ကို ဂရုစိုက်မနေဘဲ ကိုယ့်ထမင်းကို ဆက်စားရန်ပြော၏။ ပေါက်ကြည်က

"မောင်လေး လိုက်သွားဖို့ ကောင်းတယ်။ ဘာမှ မစားချင်တောင်မှ ထိုက်ယု အဖော်ရတာပေါ့။ ခုတလော ထိုက်ယုကို ကြည့်ရတာ ငူတူတူငိုင်တိုင်တိုင်နဲ့"

"ဘာမှမဖြစ်ပါဘူး။ စောနေယင် သူ့ဘာသာသူ ကောင်းသွားမှာပါ"

ပေါက်ယုသည် ထမင်းစားပြီးနောက်ပါးစပ်ကိုကျင်းရန် ရေနွေးတောင်း၏။ တောင်းရင်း မယ်မယ်သည် သူ ထမင်းလာမစားသည့် အတွက် စိတ်မကောင်းဖြစ်နေမည်လော၊ ထိုက်ယုသည်လည်း တကယ်မှ နေထိုင်ကောင်းပါ၏လော စသည်ဖြင့် တွေးတော စိုးရိမ်လျက် ရှိ၏။

တန်ချွန်းနှင့် ဆီချွန်းတို့က သူ့ကိုကြည့်၍ပြုံးကာ

"မောင်လေးကိုကြည့်လိုက်ယင် အမြဲတမ်း ရေးကြီး သုတ်ပျာ ချည်းပဲ။ ထမင်းတောင်မှ ဖြောင့်အောင်စားနိုင်ရဲ့လား မသိဘူး"

"အမယ်လေး မြန်မြန် စားပြီး ထိုက်ယု နောက်ကို လိုက်သွားတာပဲ ကောင်းပါတယ်။ ဗီနားမှာနေတာ ရှုပ်လွန်းလို့"ဟု ပေါက်ကြည်က ပြော၏။

ပေါက်ယုသည် လက်ဖက်ရည်ကို တစ်ကျိုက်မော့သောက်လိုက်ပြီးနောက် ထွက်လာခဲ့ရာ သူ့ဝင်းပေါက်တွင် ရပ်နေသည့် နတ်ငှက်မယ်ကို တွေ့ရ၏။ နတ်ငှက်မယ်သည် သွားကြားထိုးရင်း ပန်းအိုးများကိုရွှေ့နေသည့် သူငယ်တော်များကို ကြီးကြပ်လျက်ရှိ၏။

ပေါက်ယုကို မြင်သည့်အခါတွင် နတ်ငှက်မယ်က ပြုံးလိုက်လျက်

"မောင်လေးရောက်လာတာ အတော်ပဲ။ ဏောဝင်ဦး။ မမအတွက် လက်ရေးပန်းချီကလေးဘာလေး ရေးပေးသွားစမ်းပါ"

ပေါက်ယုမှာ မငြင်းသာတော့ဘဲ ဝင်းထဲသို့ လိုက်လာခဲ့ရ၏။

အိမ်ထဲသို့ ရောက်လျှင် နတ်ငှက်မယ်က စုတ်တံ၊ မင်သွေးခုံ စက္ကူစသည်တို့ကို အယူခိုင်းလိုက်ပြီးလျှင် ပါးစပ်မှ နှုတ်တိုက် ရွတ်ပြလေ၏။

"အနီပန်းရိုက် ဖဲစ အလိပ်လေးဆယ်။ နဂါးရုပ်ဖော် ပန်းရိုက်ဖဲစ အလိပ်လေးဆယ်၊ အရောင်မျိုးစုံ ရွှေနန်းတော်သုံး ဇာအုပ်အမျိုးမျိုး အလိပ်တစ်ရာ၊ ရွှေဘယက်လေးကုံး"

"ဘာတွေလဲ မမရဲ့။ မမရဲ့ဟာက စာရင်းလဲ မဟုတ်၊ လက်ဆောင်ပေးဖို့လဲမဟုတ်၊ မောင်က ဘယ်လိုရေးရမှာလဲ"

"ရေးမှာသာ ရေးစမ်းပါလေ။ ကိုယ့်ဟာကိုယ်သိပါတယ်။ ကိုယ်မှတ်မိယင် ပြီးတာပဲဟာ"

ပေါက်ယုသည် ပြောသည့်အတိုင်း ရေးပေးလိုက်၏။ ရေးပေးပြီးသည့်အခါ နတ်ငှက်မယ်က စာရင်းကိုသိမ်းထားလိုက်၏။ ထိုနောက် ခပ်ပြုံးပြုံးဖြင့်





"မောင်လေးက လက်ခံမယ်ဆိုယင် မမပြောချင်တာ တစ်ခုရှိတယ်။ မောင်လေးဆီမှာ ရှောက်ဟုန်ဆိုတဲ့ အစေတော်ကောင်မလေး တစ်ယောက်ရှိတယ် မဟုတ်လား။ အဲဒါ မောင်လေး သဘောတူမယ်ဆိုယင် မမဆီမှာ ခေါ်ထားချင်တယ်။ နောက်တော့ မမ အစား တစ်ယောက် ရှာပေးမယ်လေ"

"မလိုပါဘူး မမရယ်။ ကျွန်တော့်အဆောင်မှာ လူတွေ ပြည့်နေတာပဲ။ မမ ကြိုက်တဲ့ လူခေါ်ပါ ရပါတယ်။ ဒါများ ပြောနေရသေးသလား"

"ဒါဖြင့် မမ သူ့ကို အခေါ်ခိုင်းလိုက်မယ်နော်"

"ခိုင်းလိုက်လေ"

ပေါက်ယုက ပြန်ထွက်မည်အပြုတွင် နတ်ငှက်မယ်က လှမ်းခေါ်လိုက်ပြန်၏။ ပြောစရာရှိသည်ဟု ပြော၏။

"မယ်မယ် စောင့်နေတယ်။ ပြောစရာရှိယင် အပြန်မှ ပြောပါလား"

မယ်မယ်၏ အဆောင်များဆီသို့ ပေါက်ယု ရောက်သွားသည့်အခါတွင် အားလုံး စားသောက်ပြီးနေကြလေပြီ။ မယ်မယ်က

"ဆိုစမ်း။ မင့်မေဖျားက ငါ့မြေးကို ဘာဟင်းတွေနဲ့များ ကျွေးလိုက်သလဲ"

"မထူးပါဘူး မယ်မယ်ရယ်။ မောင်လဲ ထမင်းတစ်ပန်းကန်ပဲ ပိုစားခဲ့ပါတယ်။ မလေးထိုက်ယုကော"

"ရှိပါ့တော်။ အတွင်းဆောင်ထဲမှာ"

အတွင်းဆောင်ထဲသို့ ပေါက်ယုဝင်သွားသည့်အခါတွင် အစေတော်တစ်ယောက်သည် မီးပူအိုးတစ်လုံးထဲသို့ မီးသွေးများကို ထည့်နေ၏။ အခြားနှစ်ယောက်မှာ ခုတင်မီးဖိုကြီးပေါ်တွင် ထိုင်ကာ ပန်းပုံစံများကို ရေးလျက်ရှိပြီး ထိုက်ယုမှာ ငုံ့၍ အဝတ်ကိုက်နေ၏။ ပေါက်ယု သူတို့ဆီသို့ ပြုံး၍လျှောက်လာခဲ့ပြီးလျှင်

"မလေး တင့်ငုံ့နဲ့ ဘာလုပ်နေတာလဲ။ ထမင်းစားပြီးခါစ တင့်ငုံ့လုပ်နေယင် ခေါင်းကိုက်လိမ့်မယ်"

ထိုက်ယုသည် မည်သို့မျှမပြောဘဲ သူ့အလုပ်ကို သူ ဆက်လုပ်လျက်ရှိ၏။

"ပိုးစ ဟိုဘက်ထောင့်က တွန့်နေသေးတယ်၊ ထပ်ပြီး မီးပူတိုက်လိုက်ပါဦးလား" ဟု အစေတော်တစ်ယောက်က ပြော၏။ ထိုက်ယုက ကတ်ကြေးကို ချလိုက်ပြီးနောက်

"ရပါတယ်၊ ခဏနေယင် ပျောက်သွားမှာပေါ့"

ထိုက်ယုက သူ့ကိုအရေးမစိုက်ဟန် ပြုနေစဉ်တွင် ပေါက်ကြည်၊ တန်ချွန်းနှင့် အခြားမိန်းမပျိုများသည် မယ်မယ်နှင့် စကားစမြည်ပြောရန် ရောက်လာကြ၏။ ခဏကြာလျှင် ပေါက်ကြည်သည် အတွင်းဆောင်ဘက်သို့ကူးလာကာ ထိုက်ယုဘာလုပ်နေသနည်းဟု မေးမြန်းပြီးနောက် ထိုက်ယု အင်္ကျီစကိုက်နေသည်ကို ကြည့်နေ၏။

"အမယ် မလေးထိုက်ယုက ဘယ်ဆိုးလို့လဲ။ အင်္ကျီစတွေဘာတွေ ကောင်းကောင်း ကိုက်တတ်နေပြီပဲ"

"သူများကို လိမ်တတ်ညာတတ်အောင် ဒါမျိုးလဲ တတ်ထားရတယ်"ဟု ထိုက်ယုက ခပ်ငေါ့ငေါ့ပြော၏။ ပေါက်ကြည်ကပြုံးလျက်

"ဒြော် မလေးကို ပြောရဦးမယ်။ မောင် လေး ပေါက် ယု က ပေါက်ကြည်ကို တော်တော်စိတ်ဆိုးသွားတယ်ထင်တယ်။သူပြောနေတဲ့ ဆေးတွေအကြောင်း ပေါက်ကြည် ဘာမှမသိဘူးလို့ ပြောလိုက်တော့ သူ အောင့်သွားတာပေါ့"

"သူ့ကို အရေးစိုက်မနေစမ်းပါနဲ့။ တော် တော် ကြာ သူ ဘာသာသူ စိတ်ပြေသွားမှာပါ"

ပေါက်ယုက ပေါက်ကြည်ဘက်သို့ လှည့်၍

"မယ်မယ်က ကျင်ဖဲကစားချင်တယ်လို့ ပြောနေတယ်။ အဲဒါ အိမ်မပြည့်လို့။ တစ်အိမ် ဝင်ပါလား"

ပေါက်ကြည်က ပြုံးလိုက်၏။

"ရပါတယ်၊ ပေါက်ကြည်ကလဲ ကစားရအောင် လာတာပဲ"

ပေါက်ကြည်က ထွက်သွားမည်အပြုတွင် ထိုက်ယုကလှမ်း၍





"မလေး ပေါက် ကြည် သတိထားနော်။ မြန် မြန် သွား ယင် ကောင်းမယ်ထင်တယ်။ ဒီမှာ ကျားရှိတယ်။ ကိုက်စားလိမ့်မယ်"

ထိုက်ယုက အနားတွင်ချော့မော့ မျက်နှာချိုသွေး၍ ရပ်နေသည့် ပေါက်ယုကို ဂရုမစိုက်ဘဲ အင်္ကျီစများကို ညှပ်မြဲ ညှပ် လျက်ရှိနေ၏။

"အလုပ်မလုပ်ခင် အပြင်ထွက်ပြီး လမ်း က လေး ဘာ လေး မလျှောက်ဘူးလား"ဟု ပေါက်ယုက မေးသော်လည်း ထိုက် ယု သည် ဘာမျှမပြောဘဲ တိတ်ဆိတ်မြဲ တိတ်ဆိတ်လျက်ရှိ၏။

"သူ့ကို ဘယ်သူက အင်္ကျီစတွေ အကိုက်ခိုင်းထားတာလဲ" ဟု ပေါက်ယုက အစေတော်တစ်ယောက်ကို လှမ်းမေးလိုက်၏။

"ဘယ်သူက အကိုက်ခိုင်းခိုင်းပေါ့။ ဒါက မောင်လေး ပေါက်ယုရဲ့ အလုပ်မဟုတ်ပါဘူး"ဟု ထိုက်ယုက ရွဲ့၍ပြော၏။

ပေါက်ယုက တစ်စုံတစ်ရာကိုပြောမည်ပြုစဉ် အစေခံတစ်ယောက် ရောက်လာကာ အပြင်တွင် သူ့ကိုတွေ့လို၍ ဧည့် သည် တစ် ယောက် ရောက်နေကြောင်းဖြင့် ပြောဆို၏။ ပေါက်ယုက အပြင်သို့ ထွက်လာသည်တွင် ထိုက်ယုက

"သူပြန်မလာခင် တပည့်တော်မ သေသွားယင် ကောင်းပါတယ် ဘုရား။ ကယ်နိုင်ယင် ကယ်ကြပါဘုရား"ဟု ပြောနေ၏။

အပြင်သို့ရောက်သည့်အခါတွင် ပေ့မင်းကို တွေ့ရ၏။ ပေ့မင်းက ဖုန်ဇူယင်က အဖိတ်ခိုင်းသဖြင့် လာ ရောက် ဖိတ် ရ ခြင်း ဖြစ် ကြောင်း ပြော၏။ ဤတွင် မနေ့ကချိန်းထားခဲ့သည်ကို အမှတ်ရကာ အပြင်ထွက်လျှင် ဝတ်သည့် အဝတ်အစားများကို ယူခိုင်းလိုက်ပြီးနောက် စာကြည့်ဆောင်ထဲမှ စောင့်နေ၏။

ပေ့မင်းသည် ဒုတိယဝင်းတံခါးနားတွင် အချိန်အတော်ကြာသွား၍စောင့်နေ၏။ အတန်ကြာသည့်အခါတွင် အဘွားကြီးတစ်ယောက်
32 ထွက်လာသည်ကို တွေ့ရ၏။

"စာကြည့်ဆောင်ထဲမှာ သခင်လေးပေါက်ယု စောင့်နေတယ်။ အပြင်ထွက်ဖို့ အဝတ်အစားတွေ ပေးလိုက်ပါတဲ့။ သခင်လေးရဲ့ အစေတော်တွေကို အဘွားပြောပေးပါလား"

"ဟဲ့ ကောင်၊ သခင်လေးပေါက်ယုက ဒီမှာမနေတော့ဘူးတဲ့။ ဥယျာဉ်ထဲမှာ ပြောင်းနေတာ နင်မသိဘူးလား။ သူ့ အစေတော်တွေလဲ ဒီမှာဘယ်ရှိတော့မလဲ။ ဥယျာဉ်ထဲမှာ ပြောင်းနေကုန်ကြပြီ။ ဒီလာပြောလို့ ဘယ်သူ့ကိုတွေ့မှာလဲ။ ဥယျာဉ်ထဲကိုသွားပြောမှ ရမှာပေါ့"

"ဟုတ်သားပဲ။ ကျွန်တော်မေ့သွားတယ်"ဟု ဆိုကာ ပေ့မင်းသည် တဟီးဟီးရယ်ရင်း ဥယျာဉ်ဘက်သို့ ထွက်လာခဲ့၏။

ပေ့မင်းသည် အတွင်းတံခါးသို့ ဝင်လာခဲ့ပြီးလျှင် လမ်းတွင် ခြင်းလုံးခတ်နေသည့် သူငယ်ကလေးတစ်ယောက်အား ထိုအကြောင်းကို အပြောခိုင်းလိုက်၏။ မကြာကြာလျှင် သူငယ်ကလေးသည် ဝတ်စုံများကို ထုတ်၍ယူလာသဖြင့် ပေ့မင်းလည်း ထိုဝတ်စုံများကို စာကြည့်ဆောင်သို့ ယူလာခဲ့လေ၏။

ပေါက်ယုသည် အဝတ်အစားလဲပြီးနောက် မြင်းပြင်ခိုင်းကာ ပေ့မင်း၊ ချူရောင်၊ ရွှန်းယွိ နှင့် ရွှန်းရှူးတို့ကို ခေါ်၍ ထွက်လာခဲ့၏။ ဖုန်ဇူယင်၏ ဝင်းတံခါးဝသို့ရောက်၍ သူတို့ရောက်လာကြောင်း ပြောလိုက်သည့်အခါ၌ ဖုန်ဇူယင်ကိုယ်တိုင် ထွက်၍ ကြိုဆိုခြင်းပြု၏။ ဆွေ့ဖန်ကား အစေတော်များနှင့်အတူ ခပ်စောစောကပင် ရောက်နေလေပြီ။ ထိုမျှမက မင်းသမီးအဖြစ် ကလေ့ရှိသည့် နာမည်ကျော် ယောကျာ်း မင်းသမီး ကျန်းယုဟန်နှင့်တကွ ဖဲပန်းနံ့သာဆောင်မှ ပြည့်တန်ဆာ တစ်ဦးဖြစ်သည့် ယွန်အဲတို့လည်း ရောက်နေကြ၏။ သူ့တို့အား အိမ်ရှင် ဖြစ်သူက မိတ်ဆက်ပေးပြီးလျှင် လက်ဖက်ရည်များ တည်ခင်း၏။

ပေါက်ယုက လက်ဖက်ရည်ခွက်ကို မြှောက်လိုက်ရင်း ပြုံးလျက်

"လူတစ်ယောက်ရဲ့ ကံအဆိုးအကောင်းနဲ့ ပတ်သက်လို့ နောင်ကြီးပြောလိုက်တာကို ကျွန်တော့်စိတ်ထဲမှာ စွဲနေတယ်ဗျာ။ ခု ခင်ဗျား အခေါ်လွှတ်လိုက်တာနဲ့ ကျွန်တော်လဲ ချက်ချင်း ထလိုက်လာခဲ့တာ"

ဖုန်ဇူယင်က ရယ်လိုက်လျက်





"ဟန်ကျလိုက်လေဗျာ။ ဒါကြောင့်မို့ ကျုပ်လူတွေကို အားကိုးတာ။ ဒီစကားကို ပြောလိုက်ရတာက တခြားကြောင့်မဟုတ်ဘူး ကိုယ့်ညီရေ့။ ဒီကိုမလာဘဲ မနေနိုင်အောင်လို့ ပြောလိုက်တာ။ နို့မို့ ယင် ကိုယ့်ညီက လာချင်မှ လာမယ်မဟုတ်လား။ ကြည့် ခုကျုပ်က ပြောလိုက်တော့ ကျုပ်ညီ မလာဘဲ မနေနိုင်တော့ဘူး"

ရယ်မောစကား ပြောဆိုနေကြစဉ် အရက်များ လာချသဖြင့် သူတို့အားလုံး ကိုယ့်နေရာတွင်ကိုယ် ပြန်ထိုင်ကြ၏။ ဖုန်ဇူယင်က အစေတော် သူငယ်ကလေးတစ်ယောက်အား လိုက်၍ အရက်ငှဲခိုင်းပြီး ယွန်အဲအားလည်း ဧည့်သည်များနှင့် ဆုကောင်းအရက်သောက်ရန် သူတို့ စားပွဲသို့ ခေါ်လိုက်၏။ အရက်သုံးခွက် ကုန်သွားသည့်အခါတွင်မူ ဆွေ့ဖန်မှာ သောင်းကျန်းလာခဲ့လေပြီ။ ဆွေ့ဖန်သည် ယွန်အဲ၏လက်ကို ဖမ်းဆွဲလိုက်ရင်း

"လာစမ်း၊ ယွန်အဲ။ ခု နောက်ဆုံးပေါ်တဲ့ သီချင်းသစ်တွေကို အစ်ကိုတို့ကို ဆိုပြစမ်း။ ဒီနေ့ညတော့ မူးအောင်ကိုသောက်မှယ်။ အရက်နှစ်အိုးလုံး ကုန်အောင်ကိုသောက်မယ်။ ဘယ့်နှယ်လဲ"ဟု မူးသံကြီးဖြင့် ပြောနေ၏။

ယွန်အဲမှာ ဆွေ့ဖန်၏စကားကို ငြင်းနိုင်တော့ဘဲ ဗျပ်စောင်းကိုယူ၍ ဆိုပြ၏။

"ကျွန်မမှာ ချစ်သူနှစ်ယောက်ရှိသည်....ဘယ်သူ့ကိုမှ ကျွန်မ မမေ့နိုင်သည်....တစ်ယောက်အကြောင်းကိုတွေးရင်း တစ်ယောက်က နှလုံးသားထဲမှာရှိနေသည်....သူတို့နှစ်ယောက်စလုံးမှာ ချစ်စရာတွေ တစ်မျိုးစီရှိကြသည်....မနေ့ညက နှင်းဆီချုံနားမှာ ကျွန်မတို့နှစ်ယောက် ချိန်းတွေ့ခဲ့ကြသည်....တစ်ယောက်က ချစ်လို့လာသည်....တစ်ယောက်က ချောင်းဖို့လာသည်....သူတို့ နှစ်ယောက်နဲ့တွေ့တော့ ကျွန်မ ဘာမှမဖြေရှင်းနိုင်ပါပြီ...."

"ကဲ ဆိုပြီးပြီလေ။ အစ်ကိုဆွေ့ဖန်သောက်တော့"

"ဟင့်အင်း၊ နင့်သီချင်းက အရက်တစ်အိုး ဘယ်တန်ဦးမလဲ။ ဒီထက်ကောင်းတာ တစ်ပုဒ်ဆိုပြဦး။ ဒါမှ ငါတစ်အိုးလုံးကုန်အောင် သောက်ပြမယ်"

ပေါက်ယုက ကြားဖြတ်၍

"ဒီမှာ အစ်ကိုဆွေ့ဖန်။ ခင်ဗျား ဒီလောက်မြန်မြန်သောက်လို့ မူးသွားယင် ကျွန်တော်တို့ ဘယ်ပျော်ရတော့မလဲဗျ။ ဒီတော့ ဒီလိုလုပ်ရအောင်။ ပထမတစ်ခွက် ကုန်အောင်သောက်ပြီးယင် တစ်ခုခု အလေ့င်းအစားလုပ်ကြရအောင်။ ရှုံးတဲ့လူက နောက်ထပ်ဆယ်ခွက် ဆက်တိုက်သောက်ရမယ်။ ပြီးတော့ ကျန်တဲ့လူတွေကို လိုက်ပြီး အရက် ငှဲ့ပေးရမယ်၊ ဘယ့်နှယ်လဲ"

သူ့စည်းကမ်းကို သဘောတူကြသဖြင့် ပေါက်ယုသည် အရက် တစ်ခွက်ကို ကောက်ယူကာ တစ်ခွက်လုံးကို ဆက်တိုက်မော့ချလိုက်၏။

"ကဲ၊ ပြီးတော့ ကဗျာစပ်ပြိုင်ကြမယ်ဗျ။ စပ်ရမယ့်အကြောင်းက မိန်းကလေးတစ်ယောက်ရဲ့ အလှမ်း၊ အဆွေး၊ အပျော်၊ အရှင်နဲ့ ပတ်သက်လို့ လေးကြောင်းပဲစပ်ရမယ်။ အဲဒီထဲမှာ လှမ်းတယ် ဆွေးတယ်ဆိုယင်လဲ ဘာကြောင့် လှမ်းတယ်ဆွေးတယ်ဆိုတာ ပါရမယ်။ ပျော်တယ်ဆိုယင်လဲ ဘာကြောင့် ပျော်တယ်ရှင်တယ်ဆိုတာ ပါရမယ်။ ကဗျာပြိုင်စပ်ရင်း အရက်သောက်ရမယ်။ ခုပေါ်နေတဲ့သီချင်း တစ်ပုဒ်ကို ဆိုပြရမယ်။ ပြီးတော့ ရှေးသီချင်းတစ်ပုဒ်ကို ရွတ်ပြရမယ်။ ဒါမှမဟုတ်ယင်လဲ ကျမ်းလေးကျမ်းထဲမှာ ပါတဲ့စာ၊ သို့မဟုတ် ဂန္ထဝင် ငါးကျမ်းထဲမှာပါတဲ့ စာပုဒ်ကို ရွတ်ပြရမယ်။ အဲဒီရွတ်ပြတဲ့စာဟာလဲ ဟောဒီစားပွဲပေါ်မှာရှိတဲ့ ပစ္စည်းတစ်ခုခုနဲ့ ပတ်သက်နေရမယ်၊ ဘယ့်နှယ်လဲ"

ပေါက်ယု စကားပြော၍ မဆုံးမီ ဆွေ့ဖန်သည် ထိုင်ရာမှထကာ ဆူပူကန့်ကွက်လျက်ရှိ၏။

"ကျုပ် မလုပ်ဘူး။ ဒီအထဲမှာ ကျုပ်မပါဘူး။ ဒါ သက်သက် ကျုပ်ကို လူရယ်စရာဖြစ်အောင် လုပ်တာ။ ဒီလိုလုပ်လို့ ဘယ်ရမလဲ"





ယွန်အဲက မတ်တတ်ရပ်လိုက်၍ သူ့ကို ကုလားထိုင်ပေါ်သို့ တွန်း၍ အထိုင်ခိုင်းလိုက်ပြီးလျှင်

"အစ်ကို ဘာကိုကြောက်နေတာလဲ။ အစ်ကို နေ့တိုင်းသောက် နေတာ မဟုတ်ဘူးလား။ ကျွန်မလောက်တောင် မသောက်နိုင်ဘူး လား။ လုပ်ပါ။ ကျွန်မလဲပါမယ်။ နိုင်ယင်လဲနိုင်ပေါ့။ မနိုင်ယင်လဲ ဒီလောက်အရက်ကလေးကို သောက်ရုံနဲ့ သေမသွားနိုင်ပါဘူး။ ဒါမှ မဟုတ် ဒီဝိုင်းထဲမှာ မပါဘဲ ကျွန်မတို့ကို စားပွဲထိုးပဲ လုပ်ပေးနေတော့ မှာလား"

အားလုံးက လက်ခုပ်တီးကြသဖြင့် ဆွေ့ဖန်မှာ မနေသာတော့ဘဲ ပါရန် သဘောတူရ၏။

ပေါက်ယုက ဆက်ပြော၏။

"မိန်းမပျိုလေးရဲ့အဆွေး။ သူ့မှာ အရွယ်ပျော့ လွန်လာသည့် တိုင်အောင် မစွံနိုင်လို့ ဆွေးနေရတယ်ဗျ။ မိန်းကလေးရဲ့ အလွမ်းက သူ့ယောကျ်ားက စီးပွားရှာထွက်သွားလို့ သူ့မှာ လွမ်းကျန်ရစ်ရတာ။ မိန်းကလေး ပျော်သွားတာက မနက်ခင်း အိပ်ရာထမှာ သူ့ရုပ်ကို မြင် လိုက်ရလို့ ပျော်သွားတာဗျ။ မိန်းကလေးဝမ်းသာတာက နွေဦးဝတ် တဲ့ ဝတ်စုံသစ်ကလေးကိုရလို့ ဝမ်းသာနေတာ။ ကဲ အဲဒါတွေပါ အောင် စပ်ကြဗျာ"

"ကောင်းတယ်၊ စပ်မယ်"ဟု အားလုံးကအော်ကြ၏။ ဆွေ့ဖန် ကမူ ခေါင်းယမ်းကာ

"မကောင်းဘူးဗျ။ ပေါက်ယု လျော်ဖို့ကောင်းတယ်"

"ဟာ၊ သူပြောတဲ့စကားတွေကို ကျုပ်မှ နားမလည်တာ"

ယွန်အဲက သူ့ပေါင်ကို ဆွဲလိမ်လိုက်လေ၏။

"တော်စမ်းပါ။ ကိုယ်စပ်မယ့်ကဗျာကိုပဲ စပ်စမ်းပါ။ အစ်ကို မစပ်နိုင်ယင် လျော်ပေတော့ပဲ"

ပေါက်ယုက လက်တန်း ကောက်စပ်လိုက်သည်တွင် ယွန်အဲသည် ဗျပ်စေ့င်းကိုကိုင်၍ နောက်မှမွှေးလိုက်ရင်း တီးပေး၏။

....လွှမ်းမျက်ရည်တွေ သွေးလိုစီးဆင်းနေ....ရိပ်သာ တစ်ဝိုက်မှာ ပန်းပွင့်တွေဝေ.... မိုးသက်လေတို့ ပက်ဖျန်း....အိပ်မပျော်သော ညချမ်းတွေ....အလွှမ်းသစ်နဲ့အဆွေးဟောင်းတွေ ဘယ်ခါမှ မေ့လို့မရပေ....အတိတ်ကြေးမုံကို ပြန်လှန်ကြည့်တော့ မျက်မှောက်အတွန့်မပြေ .... ညတာတွေ ရှည်လှချည့် ဆုံးစမမြင်ပေ .... သူ့အလွှမ်း ဆုတောင်းက ဥပမာလေ .... စမ်းရေများလို အစဉ် စီးဆင်းနေ....

ထိုသီချင်းဆုံးသည့်အခါတွင် ဩဘာ မပေးသူ ဆို၍ ဆွေ့ဖန်တစ်ယောက်တည်းသာရှိ၏။

"မကောင်းဘူး။ သီချင်းက စည်းမကိုက်ဘူး"ဟု ဆွေ့ဖန်က အော်၏။ ပေါက်ယုသည် အရက်တစ်ခွက်ကို ကုန်အောင်သောက်လိုက်ပြီးလျှင် စားပွဲပေါ်မှ သစ်တော်သီးတစ်ခြမ်းကို ကောက်စားလိုက်၏။

"သစ်တော်ပွင့်တွင်၊ မိုးစက်ထင်၍၊ အဝင်အသွား၊ တံခါးလည်းပိတ်"ဟု ပေါက်ယုက ရှေးစာတစ်ပုဒ်ကိုရွတ်ကာ မိုးကိုဖွဲ့သော ကဗျာဖြစ်ကြောင်းပြော၏။

နောက်အလှည့်မှာ ဖုန်ဇူယင်၏ အလှည့်ဖြစ်၏။

"မိန်းကလေးက သူ့ယောကျာ်း သေကောင် ပေါင်းလဲလိုဖြစ်လို့ ဆွေးတယ်ဗျ။ နန်းတော်ပေါ်မှာရှိတဲ့ သူ့လေသာဆောင် ပြိုကျလို့ စိတ်ညစ်တယ်ဗျာ။ ပထမကလေးတုန်းက သားဦးကလေး နှစ်ယောက် အမြွှာမွေးလို့ ဝမ်းသာတယ်ဗျာ။ ဥယျာဉ်ထဲက ပုရစ် ကလေးတွေကို တိတ်တဆိတ်လိုက်ကောက်ရလို့ ပျော်တယ်။ အဲဒီ အကြောင်းကို ဖွဲ့ပြမယ်"ဟုဆိုကာ အရက်ခွက်ကို မြှောက်လိုက်ပြီးလျှင်





ဘယ်လောက်ကူကူ၊ ဘယ်လောက်နွဲ့နွဲ့
သင်ဟာ ငှက်ကလေး မဖြစ်ပေါင်ကွယ့်။
ဘယ်လောက်ချောချော၊ ဘယ်လောက်နွဲ့နွဲ့
သင်ဟာနတ်သမီး၊ မဖြစ်ပေါင်ကွယ့်။
ငါ့စကားကို မယုံလျှင်
မေးပါ့ ပတ်ဝန်းကျင်
ပတ်ဝန်းကျင်ကအဖြေလွှဲ
သင့်ကိုပိုချစ်ဆဲ။ ။

ထိုသို့ဆိုပြီးနောက် ကြက်ကြော်တစ်ဖဲ့ကိုယူ၍ စားလေ၏။

"တောကျေးလက်က၊ဘုံဆိုင်ဝတွင်၊ သားနားလှပ၊ ရွှေကြက်ဖသည်၊ လကိုကြည့်၍ တွန်သတည်း"ဟု ရှေးစာတစ်ပုဒ်ကို ရွတ်ပြကာ ကြက်ကိုဖွဲ့ခြင်းဖြစ်ကြောင်း ပြော၏။

ထိုနောက်တွင် ယွန်အဲအလှည့်ဖြစ်၏။

"မိန်းကလေးက ဆွေးနေတယ်ရှင်။ ဆွေးတဲ့ အကြောင်းကတော့ သူ့ကို ထောက်ပံ့ပြုစုမယ့် ယောကျာ်းမှ ရပါဦးမလား ဆိုတဲ့ အကြောင်းပဲ"

ဆွေ့ဖန်က သက်ပြင်းချလိုက်ရင်း

"ကလေးမရယ်။ ဒီမှာ အစ်ကိုဆွေ့ဖန် တစ်ယောက်လုံး ရှိနေတာပဲ။ ဘာပူစရာရှိသလဲ"

"ဟော့လူ၊ ဝင်မရှုပ်နဲ့။ အသာနေစမ်း"ဟု ဝိုင်းအော်ကြ၏။

ယွန်အဲက

"မိန်းကလေး စိတ်ညစ်တဲ့ အကြောင်းကတော့ ပြည့်တန်ဆာခေါင်းဟာ သူ့ကိုအမြဲရိုက်နှက် ဆူပူ ကြိမ်းမောင်းနေလို့။ နောင်မှာ ဒီလိုပဲ ဆူပူကြိမ်းမောင်း ရိုက်နှက်နေတော့မှာလားလို့ တွေးပြီး စိုးရိမ်နေတယ်"

ဆွေ့ဖန်က ကြားဖြတ်၍

"စိတ်ချပါကွာ၊ မပူပါနဲ့။ မနေ့ကလို သိပ်မရိုက်ပါနဲ့လို့ ဒီကောင်ကြီးကို ငါ ပြောခဲ့ပြီးပါပြီ"

"ဟော့တော်ဗျာ။ နောက်တစ်ခါ ခဝ်ဗျား နွှောင့်ယှက် ယင်ဆယ်ခွက် သောက်ရမယ်"ဟု ဝိုင်းအော်ကြ၏။ ဤတွင် ဆွေ့ဖန်က သူ့ပါးကို သူပြန်ရိုက်လိုက်ပြီး "ကဲ၊ ဒီသောက်ပါးစပ်၊ ပြောဦးဟာ၊ ခုနင့်ကို သတိပေးနေပြီ။ နောက်ထပ်စကားတစ်ခွန်းမှ မပြောနဲ့တော့" ဟုဆို၏။

"မိန်းကလေးက ဘာကြောင့် ပျော်သလဲဆိုတော့ သူ့ချစ်သူက မခွဲတော့ဘဲ သူနဲ့အတူနေလို့ ပျော်တာ။ ဝမ်းသာတာကတော့ ပလေ့သံတွေတီးပြီး သူ စောင်းကိုတီးခွင့်ရလို့တဲ့" ဟုဆိုကာ သီချင်းတစ်ပုဒ်ကို ကောက်ဆိုလေ၏။

ထိုနောက် ခွက်ထဲမှအရက်ကို တစ်ကျိုက်တည်းသောက်ချလိုက်ပြီးလျှင် မက်မုံသီးတစ်ကိုက်ကို ယူ၍စားလေ၏။

'ပန်းမျိုးလည်းစုံ၊ မက်မုံလဲပွင့်၊ ပန်းတင့်လျက်' စသည့် ရှေးကဗျာတစ်ပုဒ်ကို ကောက်၍ရွတ်ကာ မက်မုံသီးကိုဖွဲ့ကြောင်းပြော၏။

ယခုအလှည့်မှာ ဆွေ့ဖန်၏အလှည့် ဖြစ်၏။

"ကောင်းပြီ။ ဒီလိုဆို ကျွန်တော် ပြောမယ်။ မိန်းကလေးက လွမ်းနေတယ်။ ဘာဖြစ်လို့လဲဆိုတော့"

ရှေ့ဆက်မပြောနိုင်ဘဲ အတန်ကြာရပ်နေ၏။ ဖုန်ဇူယင်က

"ပြောလေဗျာ၊ ဘာဖြစ်လို့လဲ။ ကောင်မလေးက ဘာဖြစ်လို့ လွမ်းတာလဲ၊ ဆို"

ဆွေ့ဖန်မှာ မျက်လုံးကြီးပြူးကာ ရှေ့ဆက်မပြောတတ်ဘဲ ဖြစ်နေ၏။

"မိန်းကလေးက ဘာဖြစ်လို့လွမ်းသလဲဆိုတော့၊ ဟို မာမရှိန်းကို ယူမိလို့ လွမ်းနေတယ်ဗျာ"ဟု ပြောသည်တွင် အားလုံးဝိုင်းရယ်ကြ၏။

"ဘာရယ်တာလဲဗျ။ ကျွန်တော် ပြောတာ မဟုတ်ဘူးလား။ ကောင်မလေးရဲ့ချစ်သူက မာမရှိန်းဖြစ်နေတယ်၊ဒီတော့ လွမ်းတာပေါ့"

"ဟုတ်ပါတယ်ဗျာ၊ မှန်ပါပေတယ်။ ကဲ ဆက်မှာသာ ဆက်စမ်းပါဦး"

ဆွေ့ဖန်သည် မျက်လုံးကြီး ပြူးလျက်က





"ကောင်မလေးက ဘာဖြစ်လို့ဆွေးသလဲဆိုတော့"ဟု ဆိုကာ မဆက်နိုင်ဘဲ ထစ်နေပြန်၏။

"ဆိုပါဦး၊ ဘာဖြစ်လို့ဆွေးတာတဲ့လဲ"

"ဘာဖြစ်လို့လဲ ဆိုတော့ သူ့အိပ်ခန်းဆောင်ထဲက လူဝံကြီးထွက်လာလို့"

အားလုံးက ဝိုင်းရယ်လိုက်ကာ

"မဖြစ်နိုင်ဘူး၊ မဆီလျော်ဘူး။ ကဲ လျော်ရမယ် လျော်ပါ"

ပေါက်ယုက အရက်တစ်ခွက်ငှဲ့သောက်လိုက်ရင်း

"မဆီလျော်ပေမယ့် ကာရန်တော့ကိုက်သားပဲ။ကာရန်ကိုက်ယင်တော်ရောပေါ့"

"အသာနေစမ်းပါ၊ ဝင်မရှုပ်စမ်းပါနဲ့။ အကဲဖြတ် ခေါင်းသူကြီးက အောင်မှတ်ရပြီလို့ ပြောနေပြီပဲ။ ငါ့ညီက ဘာဝင်ရှုပ်တာလဲ"

သို့ဖြင့် အားလုံးက ဘာမျှမပြောတော့ဘဲ တိတ်သွားကြ၏။

"နောက်နှစ်ကြောင်းက ပိုခက်တယ်၊ အစ်ကို့အစား ညီမ စပ်ပေးလိုက်ရမလား"ဟု ယွန်အဲက ပြောလေ၏။

"ရပါတယ်၊ ငါ့ဘာသာငါစပ်မှာပေါ့။ 'မင်္ဂလာဦးည၊ အိပ်ရာထဉ္စ၊ ရှင်ပျကြည်လင်အပျိုစင်လဲ၊ ချစ်ခင်အတူတောင်းဆုယူလျက်'တဲ့"

"အမယ် မဆိုးဘူး။ ကဗျာဉာဏ်တွေ ဘာတွေ ကွန့်မြူးလာပြီ"

"ကောင်မလေး ပျော်တဲ့ အကြောင်းကတော့ 'ထိုနေ့ညဉ့်၊ အတွေ့ထူးလှ၊ သူ့ဘဝကို၊ ကျေနပ်အားရ၊ ထိုတစ်ညကြောင့်'...."

"ဟော့လူ တော်တော့ဗျာ၊ ညစ်ညစ်ပတ်ပတ်တွေ လျှောက်မပြောနဲ့" ဟု ဝိုင်းအော်ကြလေ၏။

"ခြင်တစ်ကောင်သည်၊ ဝီဝီမြည်လျက်"

"ဟော့လူ ဘယ်လိုကဗျာလဲဗျ"

"ခြင်နှစ်ကောင်က တဖျတ်ဖျတ်နှင့်"

"တော်ပြီ။ မလိုချင်ဘူး။ တော်တော့"ဟု ဝိုင်းအော်ကြပြန်၏။

"ကောင်းပြီ၊ ခင်ဗျားတို့က တော်ပါဆိုလို့ ကျွန်တော်ရပ်တာ။ ကျွန်တော် ရှုံးတယ်ဆိုတာမျိုးအဖြစ်မခံနိုင်ဘူး။ ဒါကြောင့် အရက်လဲ ထပ်မသောက်နိုင်ဘူး။ ဒါပဲ"

"တော်ပါပြီ။ ခင်ဗျားဘာသာ မသောက်ချင်ယင်လဲ နေပါ"

ထိုနောက် ကျန်းယုဟာန်အလှည့်သို့ ရောက်၏။

"မိန်းကလေးရဲ့ အလှမ်းကို ကျွန်တော်ဆိုပြမယ်။ 'ကြင်သက်ဆွေလဲ၊ ဝေးမြေရပ်ခြား၊ တိုင်းတစ်ပါးသို့၊ ရှောင်ရှား ထွက်ခွာလေသောကြောင့်'။

"မိန်းကလေးရဲ့ သောက။ 'အမွေး နံ့သာ၊ လိမ်းလိုပါလဲ၊ ဥစ္စာခနေ၊ ရှာမရခဲ့'"

"မိန်းကလေးရဲ့ ဝမ်းသာမှု။ 'လင်နှင့် မယား၊ ရွှေသွားနောက်လိုက်၊ အကြိုက်ကိုဆောင်'" ဟု ဆိုပြီး ဇာတ်ကဗျာ တစ်ပုဒ်ဆိုပြ၏။

"ဘုံကြိုးပြတ်လာ၊ နတ်ကလျာသို့
ရောင်ဝါဝိုးဝင်း၊ အဆင်းသွင်ပြင်
နွေဦးဝင်စ၊ ပန်းအလှသို့
ကြည့်၍မဝ၊ ရှုမဝခဲ့။
နန်းမပျော်စင်၊ ဗဟိုစင်မှ
သံလှင်ရိုက်ညောင်း၊ နာရီမောင်းနှင့်
ထောင်သောင်းကြယ်ပန်း၊ နဂါးငွေတန်းလည်း
ဆန်းတင့်ကောင်းကင်၊ နောက်သို့ဝင်ခဲ့။
ငွေမင်မှုန်အိမ်၊ မီးစာမှိန်၍
အချစ်အိမ်ကို၊ တင်းတိမ်ဖုံးအပ်။"

ထိုသို့ဆိုပြီးနောက် ကျန်းယုဟာန်သည် အရက်ခွက်ကို မြှောက်၍ သောက်လေ၏။

"ကျွန်တော်က ကဗျာတွေဘာတွေကိုတော့ သိပ်မရဘူးခင်ဗျ။ ဒါပေမယ့် မနေ့က ကျွန်တော် ဖတ်တဲ့ ကဗျာ တစ်ပုဒ်ထဲက စာ တစ်





ကြောင်း နှစ်ကြောင်းကိုတော့ မှတ်မိတယ်။ အဲဒါကိုပဲရွတ်ပြပါရစေ" ဟု ဆိုကာ "မခလာပန်းနံ့၊ သင်းချိုပျံ့လျှင်၊ နွေရက်အဝင် ရောက်တော့သည်'တဲ့" ဟုဆို၍ ထိုင်လေ၏။

သို့ဖြင့် သူတို့အလောင်းအစားပွဲသည် ပြီးဆုံးသွား၏။ သို့ရာတွင် ဆွေ့ဖန်မှာ ထိုင်ရာမှထလိုက်လျက်

"မရဘူး၊ လျော်ရမယ်။ စားပွဲပေါ်က ရှိတဲ့ ပစ္စည်းတစ်ခုခုကို စပ်ပါလို့ ပြောရဲ့သားနဲ့ ဒီစားပွဲပေါ်မှာမရှိတဲ့ ရတနာကို ဘာဖြစ်လို့ ထည့်စပ်ရတာလဲ"

ကျန်းယုဟာန်က နားမလည်နိုင်ဘဲ

"ဘယ်ရတနာကို ထည့်စပ်လို့လဲဗျာ"

"မငြင်းနဲ့လေ၊ ကဲ နောက်ပြန်ရွတ်စမ်းပါဦး" ဟု ဆိုသာ ဖြင့် ကျန်းယုဟာန်က ရွတ်ပြလေ၏။

"ကဲ မာလာ တဲ့ဗျ။ မာလာ ဆိုတဲ့ အဖိုးတန် ရတနာလေး ဟောဒီ စားပွဲပေါ်မှာ မရှိဘူးဗျ။ ကျုပ်ပြောတာကို မယုံယင် သူ့ကို မေးကြည့်" ဟု ပေါက်ယုကို လက်ညှိုးထိုးပြ၏။

ပေါက်ယုက မတ်တတ်ရပ်လိုက်ပြီးလျှင်

"ကောင်းပြီ၊ ဒီလိုဆိုယင် ဒီအနေနဲ့ ဘယ်နှစ်ခွက်သောက်ရမလဲ။ သူ့အစား ကျွန်တော်သောက်လိုက်မယ်"

ဆွေ့ဖန်က သူ့ဖန်ခွက်ကို ထိုးပေးလိုက်၏။

ဖုန်ဇူယင်နှင့် ကျန်းယုဟာန်တို့မှာ အဓိပ္ပာယ်ကို နားမလည်နိုင်အောင် ဖြစ်နေကြ၏။

ဤတွင် ယွန်အဲက မာလာဆိုသည်မှာ မည်သူဖြစ်ကြောင်းကို ပြောပြ၏။ ဤတွင် ကျန်းယုဟာန်က မတ်တတ်ရပ်လိုက်၍ တောင်းပန်၏။

"ဒါ ခင်ဗျားအပြစ်မဟုတ်ဘူး။ ဟိုကမှသိလို့ ရိုးရိုးသားသား ဆိုတာပဲဟာ" ဟု ဝိုင်းပြောလေ၏။

ပေါက်ယုသည် ငြီးစီစီဖြစ်လျက်ရှိသဖြင့် ခန်းဆောင်အပြင်သို့ ထွက်လာခဲ့လေရာ ကျန်းယုဟာန်လည်း နောက်မှလိုက်လာကာ မာလာ ဆိုသည့် စကားလုံးကို မသိသဖြင့် ပြောဆိုမိကြောင်း တောင်းပန်၏။

ပေါက်ယုသည် ရုပ်ချောလှသည့် ကျွန်းယုဟန်ကို ငေးကြည့်နေမိ၏။ ပေါက်ယုသည် ကျွန်းယုဟန်လက်ကို ကိုင်ထားလိုက်ပြီးလျှင်

"အားယင် ကျွန်တော့်ဆီကိုလဲ အလည်လာနိုင်ပါတယ်ဗျာ။ စကားမစပ် ခင်ဗျားကို တစ်ခုတော့ မေးစမ်းရဦးမယ်။ ခင်ဗျားတို့ ဇာတ်ထဲမှာ ချီကွမ်းဆိုတဲ့မင်းသားတစ်လက် ရှိသေးတယ်နော်။ သိပ်နာမည်ကြီးတာပဲဗျာ။ ကျွန်တော်တော့ တစ်ခါမှမကြည့်ဖူးသေးဘူး"

ကျွန်းယုဟန်က ပြုံးလိုက်လျက်

"ချီကွမ်းဆိုတာ ကျွန်တော့်ရဲ့ ဇာတ်မင်းသားနာမည်ပါ"

ပေါက်ယုသည် ဝမ်းသာအားရဖြင့် ခုန်လိုက်၏။

"ဟာ၊ ကံကောင်းလိုက်တာဗျာ။ ဒါ့ကြောင့်လဲ နာမည်ကျော်ပေတာကိုးဗျ။ ကျွန်တော်တို့ ပထမဆုံးတွေ့ကြတဲ့ ဒီပွဲကိုတော့ မေ့နိုင်မှာ မဟုတ်ဘူးဗျာ"

ပေါက်ယုသည် အတန်ကြာမျှ စဉ်းစားနေပြီးနောက် အင်္ကျီလက်ဖျားထဲတွင် ထိုးထည့်ထားသည့် ယပ်တောင်ကို ထုတ်လိုက်ကာ ယပ်တောင်တွင် ဆွဲထားသည့် ကျောက်စိမ်းတုံးကိုဖြုတ်လိုက်ပြီး ဇာတ်မင်းသားချီကွမ်းကို ပေးလိုက်ရင်း

"မိတ်ဆွေဖြစ် အနေနဲ့တော့ ဒီလက်ဆောင်ကလေးကို လက်ခံပါဗျာ"

ချီကွမ်းက ပြုံးကာ

"ကျွန်တော်က ဒီလက်ဆောင်နဲ့ မတန်သေးပါဘူးဗျာ။ ကောင်းပြီလေ။ ကျွန်တော်ကလဲ လက်ဆောင်တစ်ခု ပြန်ပေးပါရစေ။ ဒီပစ္စည်းကို ကျွန်တော် ဒီနေ့မနက်ကျမှပထမဆုံးစဝတ်တာပါ။ အသစ်ပဲ ရှိပါသေးတယ်။ ကျွန်တော့်ရဲ့ခင်မင်မှု အထိမ်းအမှတ်ပေါ့"

ချီကွမ်းသည် အပေါ်ဝတ်ရုံကို လှန်လိုက်ပြီးနောက် ခါးတွင် စည်းထားသည့် ကြက်သွေးရောင် ပိုးခါးစည်းကို ဖြုတ်လိုက်၏။

"ချန်ရှန်းမိဖုရားက ဆက်တဲ့ ပဏ္ဏာလက်ဆောင်တော်ပါ။ နွေရာသီမှာ ဆင်လို့ရှိယင် ကိုယ်ရေကိုမွှေးစေပြီး ချွေးတိတ်စေတယ်လို့ ဆိုပါတယ်။ ကျွန်တော့်ကို ပေကျင်းကိုယ်တော်လေးက မနေ့ကချီးမြှင့်





လိုက်လို့ ဒီနေ့မနက်တွင်မှ သုံးတာပါ။ အမှန်ကတော့ ကျွန်တော် ဘယ်သူ့ကိုမှ ပေးဖို့စိတ်မကူးပါဘူး။ ဒါပေမယ့် အစ်ကို့လက်ဆောင်ကို ပြန်တဲ့အနေနဲ့ ဒါလေးကိုတော့ လက်ခံပါ"

ပေါက်ယုသည် ကြက်သွေးရောင်ခါးစည်းကြိုးကို ဝမ်းမြောက်ဝမ်းသာဖြင့် လက်ခံလိုက်၏။ ထိုနောက် သူ့ခါးတွင် စည်းထားသည့် ဖက်ဖူးရောင်ခါးစည်းကြိုးကို ဖြုတ်လိုက်ပြီး ချီကွမ်းကိုပေးလိုက်ပြန်၏။ သူတို့နှစ်ယောက် ပိုးခါးစည်းကြိုးများကို စည်းနေကြစဉ် ဆွေ့ဖန်သည် သူတို့နှစ်ယောက်ဆီသို့ ရောက်လာကာ "ပြောစမ်း၊ ဒီမှာဘာလာလုပ်နေကြတာလဲ။ အရက်ဝိုင်းနဲ့ အစားအသောက်ဝိုင်းက လစ်သွားကြပြီး ဒီမှာ ဘာလာလုပ်နေကြတာလဲ၊ ပြောကြစမ်း"

သူတို့နှစ်ယောက်က ဘာမှမဟုတ်ဟုပြောသည့်တိုင် ဆွေ့ဖန်သည် ယုံကြည်ဟန် မရှိသေးချေ။ ထိုစဉ် ဖုန်ဇူယင်ရောက်လာကာ အထဲသို့ ခေါ်သွားသဖြင့် သူတို့လည်း အထဲသို့ ဝင်လိုက်လာခဲ့ကြ၏။ သို့ဖြင့် ညဉ့်နက်သည်အထိ သောက်စားပြီးနောက် လူစုခွဲခဲ့ကြ၏။

ဥယျာဉ်ထဲရှိ အဆောင်သို့ ပြန်ရောက်သည့်အခါတွင် ပေါက်ယုသည် အဝတ်အစားလဲကာ လက်ဖက်ရည်သောက်နေစဉ် မာလာက သူ့ယပ်တောင်တွင်ဆွဲထားသည့် ကျောက်စိမ်းပွင့် ပျောက်နေသည်ကို မြင်သဖြင့် မေး၏။

"မြင်းစီးတုန်းက ပြုတ်ကျနေရစ်သလား မသိဘူး"

သို့ရာတွင် အိပ်ရာထဲသို့ဝင်ခဲ့၍ သူ့ခါးတွင်စည်းထားသည့် ကြက်သွေးရောင်ခါးစည်းကြိုးကို မြင်သည့်အခါ မာလာသိလိုက်လေပြီ။

"ကဲ၊ သခင်လေးမှာ ခါးစည်းကြိုးအသစ်ရပြီ။ မာလာ့ရဲ့ ခါးစည်းကြိုးကော"

ထိုအခါကျမှ ချီကွမ်းကို ပေးလိုက်သည့် ခါးစည်းကြိုးမှာ မာလာ့ခါးစည်းကြိုးဖြစ်ပြီး ထိုခါးစည်းကြိုးကို မပေးသင့်ကြောင်း သတိရလာ၏။ ပေါက်ယုသည် စိတ်မကောင်းသော်လည်း အမှန်ကို ပြောရန် ခက်နေသည့်အတွက်

"နောက်ကျယင် မောင် အသစ်တစ်ခုပေးပါမယ် မာလာရယ်"

မာလာက ခေါင်းညိတ်ကာ သက်ပြင်းချလျက်

"သခင်လေး ဘယ်မှာသွားပြီး ဘာတွေလုပ်လာတယ်ဆိုတာ မာလာသိပါတယ် သခင်လေးရယ်။ ဘာပဲဖြစ်ဖြစ် မာလာရဲ့ ခေါင်းစည်းကြိုးကို သခင်လေးကို အမြတ်တနိုးပေးထားတာ။ ခုလို မကောင်းတဲ့ မိန်းမကို ပေးခဲ့တာကတော့ မကောင်းပါဘူး။ အေးလေ၊ ဒါတွေ သခင်လေး သိပါတယ်"

ပေါက်ယုသည် အရက်မူးနေသည့်အတွက် မာလာလည်း အထူးအထွေ မပြောတော့ဘဲ အိပ်ရာသို့ဝင်ခဲ့၏။

နောက်တစ်နေ့ မနက် အိပ်ရာမှနိုးသည့်အခါတွင် သူ့ကို ပြုံး၍ ကြည့်နေသည့် ပေါက်ယု၏မျက်နှာကို မြင်ရ၏။

"မာလာတို့များ ညကအိပ်လိုက်တာ၊ ကုလားသေ ကုလားမော့ပဲ၊ သူခိုးလာယင်တောင် ဘာမှသိမှာမဟုတ်ဘူး။ ကိုယ့်ကိုယ်ကိုလဲ ပြန်ကြည့်ပါဦး"

မာလာသည် သူ့ခေါင်းကို ပြန်ငုံ့ကြည့်လိုက်၏။ မနေ့ညက သူစည်းထားသည့် ခေါင်းစည်းကြိုးသည် မာလာ၏ခေါင်းတွင် ရောက်နေသည်ကို တွေ့ရ၏။ သူ အိပ်ပျော်နေစဉ် ပေါက်ယုက ပတ်ပေးထားသည်ကို သိလိုက်သည့်အခါတွင် မာလာသည် ပိုးခေါင်းစည်းကြိုးကို လျင်မြန်စွာ ဖြုတ်ပစ်လိုက်ကာ

"မလိုချင်ဘူး။ အပေါစား ခေါင်းစည်းကြိုးတွေ။ ဘာလုပ်ဖို့လဲ။ ရော့ ပြန်ယူသွား"

ပေါက်ယုက တဖွဖွ တောင်းပန်သည့်အခါတွင်မှ မာလာသည် ထိုခေါင်းစည်းကြိုးကို လက်ခံ၏။ သို့ရာတွင် ခန်းဆောင်ထဲမှ ပေါက်ယုထွက်သွားသည်နှင့် တစ်ပြိုင်နက် မာလာသည် ထိုခေါင်းစည်းကြိုးကို ဖြုတ်ကာ သေတ္တာအလွတ်ထဲသို့ ထည့်ထားလိုက်၏။ ပေါက်ယုမှာ ပြန်လာသည့်အခါတွင် ထိုအချက်ကို သတိမထားမိသေးချေ။

"မနေ့က ဘာထူးသေးလဲ"ဟု ပေါက်ယုက မေး၏။

"ငှက်မယ်သခင်မလေးက နေပြီး ရှောက်ဟုန်ကို အခေါ်ခိုင်းလိုက်တယ်။ ကောင်မလေးကတော့ သခင်လေးဆီကို ခွင့်ပန်ရအောင်





ဆိုပြီး သခင်လေးပြန်လာသည်အထိ စောင့်မလို့ပါပဲ။ ဒါပေမယ့် မာလာက မလိုပါဘူးဆိုပြီး မာလာကိုယ်တိုင် သူ့ကို ငှက်မယ်သခင်မလေးဆီ အပို့ခိုင်းလိုက်တယ်"

"အင်း၊ ကောင်းပါတယ်။ မောင်ပြန်လာအောင် စောင့်ဖို့ မလိုပါဘူး။ ပြီးတော့ ရွှေနန်းတော်ကြီးက ထိပ်ထားက လွှတ်လိုက်လို့ မိန်းမစိုးကြီး ဆီယုလာတယ်။ ခုလဆန်းမှာ သုံးရက်တိုင်တိုင် မဟာဝေယန်ကျောင်းတိုက်မှာ အလှူပေးပါဆိုပြီး ငွေဆယ်ပိဿာအစိတ် ပို့ခိုင်းလိုက်တယ်။ အဲဒီကျောင်းတိုက်မှာ သခင်ကြီး ကျိချိန်ကိုယ်တိုင် ကြီးမှူးပြီး အမွှေးတိုင်များ၊ ဆီမီးများ ပူဇော်ပါတဲ့။ ပြီးတော့ သီလယူပြီး ဥပုသ်သီတင်းများ ဆောက်တည်ပါတဲ့။ နဂါးလှေ ပွဲတော်အတွက်လဲ လက်ဆောင်တွေ ပို့လိုက်တယ်"

ပေါက်ယုအတွက် ပေးလိုက်သည့် လက်ဆောင်များကို အစေတော်တစ်ယောက်အား သွားယူရန် ခိုင်းလိုက်၏။ ယင်းတို့မှာ ရွှေနန်းတော်သုံး ယပ်တောင်နှစ်ချောင်း၊ ကတိုးနံ့သပ်ထားသည့် ပုတီးနှစ်ကုံး၊ နတ်ငှက်မြီး ပိုးထည်စနှစ်စ၊ ကြာပွင့်ပုံရက်ထားသည့် နှီးကြောဖျာနှစ်ချပ်တို့ ဖြစ်၏။

ပေါက်ယုက ထိုပစ္စည်းများကို ဝမ်းမြောက်ဝမ်းသာ လက်ခံကာ အခြားလူများလည်း ထို့အတူ ရကြသလောဟု မေး၏။

"မယ်မယ်ကတော့ နံ့သာ တောင်ဝှေးတစ်ချောင်းနဲ့ မဟူရာကျောက်ခေါင်းအုံးတစ်လုံးရတယ်။ သခင်ကြီးကျိချိန်၊ သခင်မကြီး ဝမ်နဲ့ သခင်မဆင့်တို့ကတော့ နံ့သာ တောင်ဝှေးတစ်ချောင်းစီရတယ်။ သခင်လေးနဲ့ သခင်မလေးပေါက်ကြည်ကတော့ အတူတူပဲရတယ်။ ကျန်တဲ့ သခင်မလေး သုံးယောက်နဲ့ သခင်မလေးထိုက်ယုတို့ကတော့ ယပ်တောင်နဲ့ ပုတီးပဲ ရတယ်။ တခြား ဘာမှ မပါဘူး။ သခင်မလီဝမ်းနဲ့ သခင်မလေး ငှက်မယ်တို့ကတော့ ဇာနှစ်အုပ်၊ ပိုးစနှစ်အုပ်၊ နံ့သာအိတ်နှစ်လုံးနဲ့ ရွှေနန်းတော်ကြီးမှာ သုံးကြတဲ့ ဆေးလုံးနှစ်လုံးစီရတယ်"

"ဘာဖြစ်လို့လဲ။ တကယ်ဆိုယင် မောင်နဲ့ မလေးထိုက်ယုတို့က အတူတူ ရကြရမှာပဲ။ ဘာဖြစ်လို့ မလေးပေါက်ကြည်နဲ့ အတူပေးတာလဲ။ မှားများ မှားလို့လား"

"မမှားပါဘူး။ လက်ဆောင်ထုပ်တွေ ပေါ်မှာ နာမည်တွေ သေသေချာချာရေးထားတာပဲ။ သခင်လေးရဲ့ လက်ဆောင်ပစ္စည်းတွေက မယ်မယ့်ခန်းဆောင်မှာ ရှိလို့ မာလာပဲ သွားယူရတာ။ မနက်ဖြန်ညနေ ငါးမောင်းရိုက်ယင် ရွှေနန်းတော်ကြီးကို အခစားဝင်ပြီး ကျေးဇူးစကား သွားဆိုရမယ်တဲ့။ မယ်မယ်ကမှာလိုက်တယ်"

"အင်း သွားရမှာပေါ့"

ပေါက်ယုသည် အစေတော်ဇီရှုကိုခေါ်ကာ

"သွား၊ ဒီပစ္စည်းတွေကို သခင်မလေးတိုက်ယုကို သွားပေးချည်။ ဒါတွေဟာ မောင် မနေ့ကရတဲ့ လက်ဆောင်ပစ္စည်းတွေပဲလို့။ ကြိုက်ရာကို ယူလိုက်ပါလို့ပြော"

ခဏလျှင် အစေတော်ပြန်လာကာ

"သခင်မကလေးက ပြောလိုက်တယ်ရှင့်။ သူလဲ လက်ဆောင်တွေ ရတယ်တဲ့။ ကိုယ့်လက်ဆောင်ကို ကိုယ့်ဘာသာသိမ်းထားပါတဲ့"

ပေါက်ယုသည် ပစ္စည်းများကို အသိမ်းခိုင်းလိုက်ပြီးနောက် ကိုယ်လက်သန့်စင်ကာ မယ်မယ်ကို ကန်တော့ရန် ထွက်လာခဲ့၏။ လမ်းတွင် ထိုက်ယုကို တွေ့သဖြင့် မိအောင်လိုက်ခဲ့ကာ ခပ်ပြုံးပြုံးဖြင့်

"မောင်ပေးလိုက်တဲ့ လက်ဆောင်တွေကို ဘာဖြစ်လို့ မယူလိုက်တာလဲဟင်"

ယခု အဖြစ်အပျက်ကြောင့် ထိုက်ယုမှာ ခပ်စောစောက ပေါက်ယုအပေါ်တွင် စိတ်ကောက်ခဲ့သည်တို့ကို မေ့လျော့သွားလေပြီ။

"ထိုက်ယုတို့က ဒီလိုအဖိုးတန် လက်ဆောင်တွေကို မရထိုက်ပါဘူး။ ပေါက်ကြည်တို့နဲ့ မယှဉ်သာပါဘူး။ ပြီးတော့ ပေါက်ကြည်ရဲ့ ရွှေနဲ့ကျောက်စိမ်းနဲ့လဲ မနှိုင်းယှဉ်ပါနဲ့။ တော်တော်ကြာ သူတို့မှာ နာကုန်ပါဦးမယ်။ ထိုက်ယုက သူလိုငါလို အညတရ၊ လင်ဆေးမှာ အလေ့ကျ ပေါက်တဲ့ သစ်ပင်ပါ"





ပေါက်ယုက သူတို့နှစ်ယောက်ကို စောင်းပြောလိုက်မှန်း ချက်ချင်းသိလိုက်၏။

"အေးလေ၊ တချို့လူတွေကတော့ ရွှေနဲ့မြလို ထင်ကောင်းထင်ကြမှာပေါ့။ ဒါပေမယ့် မောင့်စိတ်ထဲမှာတော့ ဒီလိုတစ်ခါမှမထင်ဖူးပါဘူး။ တကယ်ပါ။ မြေမျိုရစေရဲ့။ နောက်တစ်ခါ လူပြန်မဖြစ်ရပါစေနဲ့"

ဤသည်ကို ထောက်၍ သူပြောလိုက်သည့် စကား ထိသွားကြောင်းကို ထိုက်ယုသိလိုက်၏။

"တော်စမ်းပါ။ ဟုတ်တာမဟုတ်တာနဲ့။ ကျိန်တွယ်ပြောမနေစမ်းပါနဲ့"

"မောင့်ရင်ထဲမှာ ဘယ်လိုဖြစ်နေတယ် ဆိုတာကို ပြောရတာခက်တယ် မလေးရယ်။ ဒါပေမယ့် တစ်နေ့ကျယင် မလေးနားလည်လာမှာပါ။ မယ်မယ်နဲ့ မောင့်မိဘတွေအလွဲယင် မလေးဟာ ကမ္ဘာလောကကြီးမှာ မောင့်အဖို့ အရင်းအနှီးဆုံး သူပါ။ မောင် ကျိန်တွယ်ပြောရဲပါတယ်"

"အမယ်လေး။ ကျိန်ဖို့လဲ မလိုပါဘူးရှင်။ ဟုတ်ပါတယ်။ မလေးဟာ မောင့်နှလုံးသားထဲမှာ နေရာတစ်နေရာရှိပါတယ်။ ဒါပေမယ့် သူ့ကိုမြင်လိုက်တာနဲ့ တစ်ပြိုင်နက် မောင့်ရင်ထဲမှာ မလေးနေရာ မရှိတော့ပါဘူး။ ဘုံပျောက်သွားပါပြီ"

"ဒါက မလေးထင်တာကိုး။ မောင်ကတော့ ဒီလို မဟုတ်ပါဘူး"

"ဒီလိုမဟုတ်ယင် မနေ့က မောင် လိမ်ပြောနေတာကို ပေါက်ကြည်က မထောက်ခံတော့မှ မလေးကို ဘာဖြစ်လို့လာပြီး အကူအညီတောင်းနေရတာလဲ။ မလေးသာ ကူပြီးမပြောယင် မောင် ဘယ်လိုနေမလဲ"

ထိုစဉ် သူတို့အနားသို့ ပေါက်ကြည်လာသဖြင့် စကားပြတ်သွားကာ မယ်မယ်၏ အဆောင်များဘက်သို့ လာခဲ့၏။ ပေါက်ကြည်သည် သူတို့နှစ်ယောက်ကိုမြင်သော်လည်း မမြင်ယောင်ပြုကာ မယ်မယ်၏

အဆောင်သို့ ရောက်သည်အထိ ဒေါ်လေးဝမ်နှင့် စကားပြောလာတော ခေါင်းကို ငုံ့ထား၏။ သူတို့ရောက်လာသည့်အခါတွင် ပေါက်ယုတို့နှစ်ယောက်မှာ ရောက်နှင့်နေလေပြီ။

ပေါက်ကြည်အမေ ဒေါ်လေးဆွေ့သည် သူ့သမီး ပေါက်ကြည်ကို ဘုန်းတော်ကြီးတစ်ပါးက ရွှေဘယက်ပြားကလေးတစ်ကုံး ပေးခဲ့ကြောင်း၊ ပေါက်ကြည်မှာ ကျောက်စိမ်းရှိသူတစ်ဦးနှင့် ဖူးစာဆုံမည်ဟု ဘုန်းကြီးက ဗေဒင်ဟောခဲ့ကြောင်းဖြင့် သခင်မကြီးဝမ်ကို ပြောခဲ့ဖူးသည့်အတွက် ပေါက်ကြည်သည် ပေါက်ယုနှင့် ခပ်ခွာခွာနေလေ့ရှိ၏။ ယခုတစ်ဖန် မနေ့က နန်းမတော်ထိပ်ထားက သူနှင့် ပေါက်ယုတို့ကို လက်ဆောင် အတူတူပေးလိုက်သောအခါ၌ ပေါက်ကြည်သည် ထိုအချက်ကို အထူးသတိထားမိပြန်၏။ သို့ရာတွင် ပေါက်ယုမှာကား ထိုက်ယုနှင့် ပြဿနာ ရှင်းနေရသည့်အတွက် သူတို့နှစ်ယောက် လက်ဆောင်တူနေကြပုံကို အထူးအထွေ မတွေးမိချေ။

ပေါက်ယုသည် ထိုအချက်ကို သတိမရဘဲ ပေါက်ကြည်နှင့် တွေ့သည်နှင့် ပေါက်ကြည်၏ လက်ကောက်ဝတ်တွင်ရှိသည့် ကတိုးနံ့သပ်ကျောက်နီလက်ကောက်ကို အပြခိုင်း၏။ ဤတွင် ပေါက်ကြည်ကလည်း ချွတ်ပြရ၏။ သို့ရာတွင် ပေါက်ကြည်မှာ အနည်းငယ် ပြည့်ဖြိုးသူဖြစ်သည့်အတွက် လက်ကောက်ကို တော်တော်နှင့် ချွတ်မရချေ။ ပေါက်ယုသည် နူးညံ့ဖွံ့ဖြိုးသော ပေါက်ကြည်၏ လက်မောင်းကို ငေးကြည့်ရင်း "အင်း ဒီလက်မောင်းတွေသာ ထိုက်ယုရဲ့လက်မောင်းတွေဆိုယင်တော့ ငါပွတ်သပ်နေမိမှာပဲ။ ခုတော့ ပေါက်ကြည်ရဲ့ လက်မောင်းတွေ ဖြစ်နေတာက ခက်နေတယ်"ဟု တွေးနေ၏။

ပေါက်ယုသည် ထိုက်ယုပြောသည့် ရွှေနှင့် ကျောက်စိမ်းဆိုသည့်စကားကို သတိရလိုက်သဖြင့် ပေါက်ကြည်ကို သေသေချာချာ စိုက်ကြည့်နေမိ၏။ ပေါက်ကြည်၏ မျက်နှာသည် ငွေပန်းကန်ပြားနှယ် ဝိုင်းစက်လျက်ရှိ၏။ ဝန်းစက်သည့် မျက်လုံးများသည် အရောင်တဖိတ်ဖိတ်လက်လျက်ရှိကြပြီး နှုတ်ခမ်းများမှာလည်း ဆေးမဆိုးရဘဲ နီရဲလျက်ရှိကြ၏။ မျက်လုံးတို့မှာလည်း မင်မသုံးဘဲနှင့် မည်းနက်လျက် ရှိ





ကြ၏။ ပေါက်ကြည်သည်လည်း ထိုက်ယုနှင့်မတူ၊ တစ်မျိုးချောမော၍ တစ်မျိုးချစ်စရာကောင်းသည်သာ ဖြစ်၏။ သို့ဖြင့် ပေါက်ယုသည် ပေါက်ကြည်၏အလှတွင် ယစ်မူးလျက် ရှိလေရာ ပေါက်ကြည်က လက်ကောက်ကိုချွတ်ပြီး လှမ်းပေးလိုက်သည့်အခါတွင် မယူမိဘဲ ငေးငိုင်ငိုင်ဖြစ်လျက်ရှိလေ၏။

ပေါက်ကြည်သည် စူးစူးရဲရဲရှိသည့် ပေါက်ယု၏ အကြည့်ကြောင့် ရှက်သွားကာ လက်ကောက်ကိုချထားပြီး ထွက်သွားတော့မည် ပြုလိုက်၏။ ထိုစဉ် လက်ကိုင်ပဝါကို ပါးစပ်တွင်ကိုက်ထားရင်း လှောင်ပြုံးပြုံးရင်း ကြည့်နေသည့် ထိုက်ယုကို အခန်းဝတွင် လှမ်းမြင်လိုက်ရ၏။

"အို၊ မလေး၊ အအေးထဲမှာ ဘာဖြစ်လို့ ရပ်နေတာလဲ။ တော်ကြာ အအေးမိနေပါ့မယ်"ဟု ပေါက်ကြည်က လှမ်းပြောလိုက်လေ၏။

"စောစောတုန်းကတော့ အထဲမှာပါ။ ဒါပေမယ့် အပြင်ဘက်နားက ငှက်မြည်သံကြားလိုက်လို့ ပြေးထွက်ကြည့်တာ။ ကြည့်လိုက်တော့ ငှက်လဲမဟုတ်ဘူး။ ဘဲငန်းကြီးရယ်"

"ဟုတ်လား၊ ဘယ်မှာလဲ။ ပေါက်ကြည်လဲ ကြည့်ချင်လိုက်တာ"

"မလေးလဲ အပြင်ရောက်ရော၊ ပျံပြေးရော"

ထိုသို့ပြောရင်း ထိုက်ယုသည် လက်ကိုင်ပဝါဖြင့် ပေါက်ယုမျက်နှာကို လှမ်းရိုက်လိုက်သည်တွင် ပေါက်ယုလည်း လန့်၍ အော်လိုက်မိလေ၏။

မည်သို့ဖြစ်သည်ကို သိလိုလျှင် နောက်တစ်ခန်းကို ဖတ်ပါလေ။

## အခန်း ၂၉

### ကံမျက်နှာသာပေးခံရသူများသည် ပို၍ ကံကောင်းရန် ဆုတောင်းကြခြင်း။ တစ်ဖက်သတ်ချစ်တတ်သော မိန်းကလေးတစ်ယောက်သည် အချစ်နာကျခြင်း။

ပေါက်ယုသည် ကိုယ့်အတွေးနှင့်ကိုယ် ဖြစ်နေသည့်အတွက် ထိုက်ယုက လက်ကိုင်ပဝါဖြင့် ဖျတ်ခနဲလှမ်းရိုက်လိုက်သည့်အခါတွင် လန့်သွား၏။

"ဘယ်သူလဲဟင်"

ထိုက်ယုက ခေါင်းကို စောင်းငဲ့ကာ ရယ်လိုက်လျက်

"မတော်လို့ပါမောင်ရယ်။မလေးပေါက်ကြည်က ဘဲငန်းကြီးကို ကြည့်ချင်တယ်ဆိုလို့ ပြလိုက်တာ။ မောင်မောင့်ကို ခိုက်မိသွားလို့ပါ"

ပေါက်ယုက မျက်လုံးကို ပွတ်လိုက်ပြီးလျှင် တစ်စုံတစ်ရာ ပြန်ပြောလိုက်မည်ပြုစဉ် နတ်ငှက်မယ် ရောက်လာ၏။

စကားပြောကြရင်း နတ်ငှက်မယ်က မှုဟာဝေယန် ကျောင်းတိုက်တွင် ကျင်းပမည့် ကထိန်သို့သွားကာ ဇာတ်ပွဲ ပျော်ပွဲတို့ကိုကြည့်ရန် ပြော၏။





"ပူလှ အိုက်လှတယ် မလေးငှက်မယ်ရယ်။ ပေါက်ကြည်က တော့ မကြည့်ဖူးတဲ့ ဇာတ်ဆိုလို့လဲ မရှိသလောက်ရှိနေပြီ။ မလိုက်တော့ပါဘူး"

"အို၊ ပွဲက ကျောင်းတိုက်ကြီး နှစ်တိုက်ကြားထဲက ကွက်လပ်မှာ ကမှာ။ အရိပ်တွေထိုးပြီး အေးက အေးပါဘိသနဲ့။ ကြည့်ယင် စောစောစီးစီး ပြောကြနော်။ ငှက်မယ်က အစေတော်တွေကိုလွှတ်ပြီး နေရာတွေဘာတွေ အပြင်ခိုင်း၊ မင်းစင်တွေ ဘာတွေ အထိုးခိုင်းရဦးမှာ။ အဲဒီအချိန်လောက်ကျယင် ရာသီဥတုကလဲ ဒီလောက်ပူတော့မှာ မဟုတ်ပါဘူး။ ဒေါ်လေးဝမ်ကိုတော့ ပြောပြီးပြီ။ မလေးတို့မလိုက်ယင်လဲ ငှက်မယ်ဘာသာ သွားကြည့်မှာ။ ခုတလော နေရတာ ပျင်းခြောက်ခြောက်နဲ့။ ပြီးတော့ အိမ်မှာလုပ်တဲ့ပွဲတွေတော့ ရှိပါရဲ့။ ဒါပေမယ့် ကိုယ့်မှာ စီမံရတာနဲ့ဘာနဲ့ဆိုတော့ ဘယ်မှာ ကောင်းကောင်းကြည့်ရလို့လဲ"

ဤတွင် မယ်မယ်ကလည်း

"ကောင်းတယ်ဟေ့။ ဒီလိုဆိုယင် မယ်မယ်လဲ လိုက်မယ်"ဟု ပြောလေ၏။

နတ်ငှက်မယ်က

"မယ်မယ်လိုက်မယ်ဆိုယင်တော့ အတိုင်းထက် အလွန်ပေါ့။ တစ်ခုပဲရှိတယ်။ ငှက်မယ်တော့ လွတ်လွတ်လပ်လပ် ဇိမ်နဲ့ကြည့်ရတော့မှာ မဟုတ်တော့ဘူး"

"အမယ်လေး။ ကျုပ်က မင်းစင်ကကြည့်ပါမယ်တော်။ညည်းက ဘေးကကြည့်ပေါ့။ ဒီတော့ ကျုပ်ကို သိပ်ပြီး စောင့်ရှောက်စရာမလိုတော့ဘူးပေါ့"

"ကြည့်၊ မယ်မယ်က ငှက်မယ်ကို ဘယ်လောက်အလိုလိုက်သလဲ" ဟု နတ်ငှက်မယ်က ပြော၏။

"ညည်းတို့သားအမိလဲ လိုက်ခဲ့ကြ။ အိမ်မှာနေယင် အလကား ပျင်းကြော ဆန့်ပြီး အိပ်နေကြမှာ"ဟု မယ်မယ်က ပေါက်ကြည်ကို ပြော၏။

ဤတွင် ပေါက်ကြည်ကလည်း လိုက်ရန် သဘောတူရ၏။

မယ်မယ်သည် အစေတော်တစ်ယောက်ကို ခေါ်ကာ ဒေါ်လေးဆွေ့ကို ကထိန်သို့လိုက်ရန်၊ တစ်ဆက်တည်းတွင် သခင်မဝမ်ကိုလည်း မိန်းကလေးများကို ခေါ်သွားမည်ဖြစ်ကြောင်း ပြောခဲ့ရန်လွှတ်လိုက်၏။ သခင်မဝမ်မှာမူ ကောင်းစွာ နေမကောင်းသည့်ပြင် ထိပ်ထားထံမှ သတင်းများကိုလည်း စောင့်ဆိုင်းရဦးမည် ဖြစ်သည့်အတွက် မလိုက်တော့ကြောင်းဖြင့် ပြောလိုက်၏။ ထိုသို့ လာပြောသည့် အခါတွင် သခင်မဝမ်သည် ပြုံးလျက်

"မယ်မယ်ကတော့ ပျော်အောင် ကြံဖန် နေတတ် ပေတယ်။ ကဲ ကဲ၊ ဥယျာဉ်ထဲက အဆောင်တွေမှာ နေကြတဲ့ သူငယ်မတွေကိုပြောလိုက်။ လဆန်း တစ်ရက်နေ့မှာ မယ်မယ်နဲ့ ကထိန်ကို လိုက်ချင်လိုက်သွားကြလို့ ပြောချည်"

တစ်ခါမျှ အပြင်သို့ မထွက်ရသည့် အစေတော်ကလေးများမှာ ထိုသတင်းကြောင့် ဝမ်းသာလျက်ရှိကြ၏။ မိမိတို့သခင်မကလေးများ ဇာတ်ပွဲသို့သွားရန် အင်တင်တင်ဖြစ်နေလျှင်လည်း သူတို့က အတင်းတိုက်တွန်းလွန်းသည့်အတွက် နောက်ဆုံးတွင် လီဝမ်းပင်လျှင် ကထိန်ဇာတ်ပွဲသို့လိုက်ရန် သဘောတူလိုက်၏။ မယ်မယ်မှာလည်း ဝမ်းသာလျက်ရှိ၏။ ထိုအတောအတွင်းတွင် ပွဲနေရာထိုင်ခင်းတို့ကို ပြင်ဆင်ရန် အစေတော်များကို ကြိုတင်လွှတ်လိုက်၏။

ပဉ္စမ လဆန်း တစ်ရက်နေ့သို့ ရောက်လျှင် ယွန်းစံအိမ်ကြီး၊ ရှေ့ရှိ လမ်းမကြီးတစ်လျှောက်တွင် က,ရထားကြီးများ၊ သန်လျင်းများ၊ လက်ပါးစေများ၊ မြင်းများနှင့် ရှုပ်ယှက်ခတ်လျက်ရှိ၏။ ထိုကထိန်မှာ မြောက်နန်းမတော်ထိပ်ထား၏ ကထိန်ဖြစ်ပြီး မယ်မယ်ကိုယ်တိုင် အမွှေးတိုင်များ ပူဇော်ရန် လာရောက်မည့် ကထိန်ဖြစ်သည့်အတွက် ခါတိုင်းနှင့် မတူဘဲ အထူးစည်ကားလျက် ရှိ၏။

ယွန်းစံအိမ်ကြီးမှ သခင်မများသည် အိမ်ဝင်းဝသို့ ထွက်လာကြ၏။ မယ်မယ်၏ သန်လျင်းကို လူရှစ်ယောက်ထမ်းပြီး လီဝမ်၊ နတ်ငှက်မယ်နှင့် ဒေါ်လေးဆွေ့တို့၏ သန်လျင်းများကို လူလေးယောက်





ထမ်းကြ၏။ ပေါက်ကြည်နှင့် ထိုက်ယုတို့ စီးနင်းလိုက်ပါမည့် က,ရထားကြီးမှာ အစိမ်းရောင် ယင်းချပ်၊ ပုလဲပန်းပွား၊ ရတနာကိုးသွယ်တို့၏ ပုံစံများဖြင့် မွမ်းမံထား၏။ ယွန်းစံအိမ်ကြီးမှ ကျိမိသားစုဝင် ညီအစ်မတစ်တွေ လိုက်ပါမည့် က,ရထားကြီးမှာ ဟသ်ာပြဒါးရောင် ဘီးကြီးများနှင့် ပန်းပွားတော့ ခတ်ထားသည့် ပေါင်းမိုးကြီးကို မိုးထား၏။

ထိုနောက်တွင် မယ်မယ်၏ အစေတော်များဖြစ်သော ယုန်ယွမ်း၊ ယင်ဝူ၊ ဟူပိုနှင့် ချင်ချူတို့ လိုက်ပါလာကြ၏။ ထိုနောက် ထိုက်ယု၏ အစေတော်များဖြစ်သော ဇူချွန်း၊ စွေ့ယင်နှင့် ချွန်ရှန်း၊ ပေါက်ကြည်၏ အစေတော်များဖြစ်သော ယင်အဲနှင့် ဝမ်ဆင့်၊ ယင်ချွန်း၏ အစေတော်များဖြစ်သော စူချီနှင့် ရှချူ။ တန်ချွန်း၏အစေတော်များဖြစ်သော တိုက်ရှုနှင့် စွီမို၊ ကျိချွန်း၏ အစေတော်များဖြစ်သော ရှုဝါနှင့် ဆိုင်မင်း။ ဒေါ်လေးဆွေ့၏ အစေတော်များဖြစ်သော တုန်ဆီနှင့် တုန်ကွေ့တို့ လိုက်ပါလာကြလေ၏။

ထို့အပြင် ယင်လင်းနှင့်အတူ အစေတော်များဖြစ်သော ချင်အဲ၊ လီဝမ်း၏ အစေတော်များဖြစ်သော စုယွန်နှင့် ပီယွေ့။ နတ်ငှက်မယ်၏ အစေတော်များဖြစ်သော ပင်အဲ၊ ဖုန်အဲနှင့် ရှောက်ဟုန်။ သခင်မဝမ်၏ အစေတော်များဖြစ်သော ချင်ချွန်းနှင့် စိုင်ယွန်းတို့ကလည်း လိုက်ချင်သည် ဆိုသဖြင့် လိုက်ပါလာခဲ့ကြ၏။

နတ်ငှက်မယ်၏ သမီးငယ်ဖြစ်သော တာချဲ၏ နို့ထိန်းနှင့် အစေတော်များကလည်း က,ရထားတစ်စင်းနှင့် လိုက်ပါလာကြ၏။

ထို့အပြင် အသက်ကြီးကြီး အစေတော်အတွားကြီး နှစ်ယောက်၊ အဆောင်အသီးသီးမှ အထိန်းတော်ကြီးများနှင့် ပစ္စည်းထိန်းများ၏ဇနီးများလည်း လိုက်ပါလာကြ၏။ လမ်းမတစ်ခုလုံးမှာ သူတို့ရထားများ၊ သန်လျင်းများဖြင့် ပြည့်နှက်လျက်ရှိ၏။ ရှေ့ဆုံးမှသွားသည့် မယ်မယ်၏ သန်လျင်းသည် စံအိမ်ကြီးနှင့် တော်တော်ဝေးဝေးသို့ ရောက်သွားသည့်တိုင် အစေတော်များမှာ ဝင်းတံခါးဝတွင် ရထားပေါ်သို့ တက်၍မပြီးကြသေးချေ။ အသံဗလံများမှာလည်း ဆူညံလျက်ရှိလေ၏။

"ဟဲ့ ကောင်မ၊ တို့ရထားနဲ့ မလိုက်ခဲ့နဲ့။ သွား ဟိုမှာတက်"

"ဟဲ့ကောင်မရဲ့ ထိုင်ယင် ကြည့်လဲထိုင်ပါဟဲ့၊ ငါ့သခင်မရဲ့ ပစ္စည်းတွေပေါ် ဒီလိုပဲတက်ထိုင်ရသလား"

"အမယ်လေးတော်။ ငါ့ပန်းတွေတော့ ကြေကုန်ပါပြီ။ တက်နင်းထားလိုက်တာ ကြည့်စမ်းပါဦး"

"ဟဲ့ကောင်မ၊ အရမ်းမလုပ်ပါနဲ့။ ယပ်တောင်ကျိုးတော့မယ်"

ရယ်သံ၊ စကားပြောသံများသည် ထိုအနီးတစ်ဝိုက်တွင် သောသောညံလျက်ရှိ၏။ ပစ္စည်းထိန်း ချူယွီ၏မိန်းမကား ရထားများကို တစ်စင်းပြီးတစ်စင်း လျှောက်ကြည့်ကာ ဆူပူမာန်မဲလျက် ရှိ၏။

"ဟဲ့ကောင်မတွေ၊ လမ်းမှာ ငြိမ်ငြိမ်သက်သက် ဣန္ဒြေရရလဲ လိုက်လာခဲ့ကြနော်။ ဟီးတိုက်ပြီး လိုက်မလာကြနဲ့"

ချူယွီ၏မိန်းမသည် တဟဲ့ဟဲ့ဖြင့် ဝင်းပေါက်ဝတွင် အစေတော်များကို မာန်မဲနေချိန်တွင် ရှေ့ဆုံးမှ သွားနှင့်သော သန်လျင်းမှာ ဓာထိန်ကျင်းပမည့် မဟာဝေယန် ကျောင်းတိုက်သို့ ရောက်နေလေပြီ။ ပေါက်ယုံမှာ မယ်မယ်၏ သန်လျင်းရှေ့မှ မြင်းဖြင့် လိုက်လာခဲ့လေရာ လမ်းဘေးတစ်ဖက်တစ်ချက်တွင် ကြည့်ရှုသူများမှာ တိုးမပေါက်အောင် စည်ကားလျက်ရှိ၏။

ကျောင်းတိုက်ဝင်းဝသို့ ရောက်သည်နှင့် ခေါင်းလောင်းသံများနှင့် စည်တော်သံ များ ကို ကြားရ၏။ ကျောင်းထိုင် ဆရာတော်ကြီးချန်းသည် သံဃာတော်များနှင့်အတူ သူတို့ကိုဆီးကြိုခြင်းပြု၏။ သို့ဖြင့် မယ်မယ်၏သန်လျင်းသည် ကျောင်းဝင်းထဲသို့ ဝင်လာခဲ့၏။ ကျောင်းဝင်းကို စောင့်ကြပ်နေသည့် နတ်ရုပ်ကြီးနှစ်ရုပ်အနက် တစ်ရုပ်မှာ ရေတိုင် တစ်သောင်းအကွာကို မြင်နိုင်သည်ဟု အဆိုရှိပြီး နောက်တစ်ရုပ်မှာ လေသံသဲ့သဲ့မျှသာရှိသော ဈာလာဟလ စကားတို့ကို ကြားနိုင်သည်ဟု အဆိုရှိလေ၏။ ကျောင်းဝင်းမှ နတ်ရုပ်ကြီး နှစ်ရုပ် အနီးသို့ ရောက်လျှင် မယ်မယ်သည် သန်လျင်းကို အရပ်ခိုင်း၏။ ကျောင်းတိုက်တွင် ကြိုတင်ရောက်နေသည့် ကျီချန်နှင့် လူငယ်များက မယ်မယ်တို့ကို လာကြိုကြ၏။ မယ်မယ်၏အစေတော်များဖြစ်သည့် ယုန်ယွန်းတို့အသိုက်မှာ အတော်ဝေးဝေးတွင် ပြတ်ကျန်ရစ်ခဲ့ကြောင်းကို သိသည့်အတွက်





နတ်ငှက်မယ်က ရထားပေါ်မှ ခပ်သုတ်သုတ်ဆင်းလာကာ မယ်မယ်ကို သန်လျင်းပေါ်မှ တွဲချပေး၏။ ထိုသို့ တွဲချပေးနေစဉ် ဓာတ်ကြေး တစ်လက်ဖြင့် မီးထွန်းရန် မီးစာများကို ညှပ်နေသည့် အသက် ဆယ့်နှစ်နှစ် ဆယ့်သုံးနှစ်ခန့်ရှိ ဘုန်းကြီးကျောင်းသားကလေး တစ်ယောက်သည် အထူးအဆန်းဖြစ်၍ ကြည့်ချင်သဖြင့် နတ်ငှက်မယ်ဆီသို့ ပြေးလာသည်တွင် ဝင်ဆောင့်မိလေရာ နတ်ငှက်မယ်က ကျောင်းသားကလေး၏ နားရွက်ကို ဆွဲလိမ်လိုက်ရာ ကျောင်းသားကလေးမှာ ဖင်ထိုင်လျက် လဲကျသွားလေ၏။

"ဟဲ့ သေနာကောင်လေးရဲ့၊ လူကြည့်သွားပါလားဟဲ့။ ဘယ့်နှယ် အတင်းဝင်တိုးရတာလဲ"

ကျောင်းသားကလေးမှာ ကြောက်ရွံ့သဖြင့် ကတ်ကြေးကို ပြန်မကောက်နိုင်တော့ဘဲ ကျောင်းပြင်သို့ ထွက်ပြေး၏။ ထိုအချိန်တွင် ပေါက်ကြည်နှင့်အမျိုးသမီးများမှာ အစေတော်များ၊ လက်ပါးစေများနှင့်အတူ ရထားပေါ်မှ ဆင်းသက်လျက်ရှိချိန်ဖြစ်ရာ သူတို့ အနီးတစ်ဝိုက်တွင် ရှုတ်ရှုတ်သဲသဲ ဖြစ်သွား၏။ ထွက် ပြေး သွား သည့် ကျောင်းသားကလေးကို မြင်လျှင် အစေတော်များနှင့် လက်ပါးစေများက "ရိုက်ဟာ၊ချလိုက်ပါလား၊ ဖမ်းထား" စသဖြင့် အော်ကြ၏။

"ဟဲ့ ဘာဖြစ်လို့လဲ"ဟု မယ်မယ်က မေး၏။

နတ်ငှက်မယ်က မယ်မယ်ကို သန်လျင်းပေါ်မှ တွဲ၍ချနေစဉ် ကျီချန်က အကျိုးအကြောင်းစုံစမ်းရန် ထွက်သွား၏။

"မီးစာတွေကို ဖြတ်တဲ့ ဘုန်းကြီး ကျောင်းသား ကလေးပါ မယ်မယ်။ အချိန်မီ လမ်းဖယ်မပေးတာနဲ့ ဝင်တိုက်မိလို့ပါ"

"သွား သွား၊ ကျောင်းသား ကလေးကို ခေါ် ချည် စမ်း၊ ကလေးကို ဘာမှမလုပ်ကြပါနဲ့ဟယ်။ ဆင်းရဲသား သားသမီး ဆိုတာ သိပ် အကွပ်အညှပ်ကြီးတော့ လူတောသူတော မတိုးရဲဘဲ ကြောက်တတ်တာပေါ့။ ဒီလို ခမ်းခမ်းနားနားတွေ မမြင်ဖူးတော့ ကြည့်ချင်

ရှာတယ် ထင်ပါရဲ့။ ကလေးကို ကြောက်သွားအောင်မလုပ်ကြပါနဲ့။ အဖေအမေတွေကလဲ ဘယ်ဆုံးမှတတ်ပါ့မလဲ။ သွား အသာ ခေါ်လာခဲ့''ဟု ကျီချန်ကို ခိုင်းလိုက်၏။

ကျီချန်သည် ဘုန်းကြီးကျောင်းသားကလေးကို ဆွဲခေါ်လာ၏။ ကျောင်းသားကလေးမှာ တုန်ယင်လျက် ရှိကာ ကတ်ကြေးကို လက်တစ်ဖက်တွင် ကိုင်ရင်း ဒူးထောက်နေ၏။ မယ်မယ်က ကျောင်းသားလေးကို တွဲထူရန် ကျီချန်ကိုပြောလိုက်ပြီး

''ဟဲ့ သူငယ်လေး၊ ဘာမှမကြောက်နဲ့။ ခု အသက် ဘယ်လောက် ရှိပလဲ''

သို့ရာတွင် ကျောင်းသားလေးမှာ ကြောက်လွန်းသဖြင့် စကား တစ်လုံးမျှ မထွက်ရဲဘဲဖြစ်လျက်ရှိ၏။

''သနားပါတယ်ကွယ်''ဟု ဆိုကာ ကျီချန်ဘက်သို့လှည့်လိုက်ပြီး ''ကဲ ကဲ သွားပါစေတော့၊ သကြားလုံးလေးဘာလေး ဝယ်စားရအောင် ပိုက်ဆံပေးလိုက်ပါကွယ်။ သူ့ကို ဘာမှမလုပ်ပါစေနဲ့တော့''

ကျီချန်သည် ကျောင်းသား ကလေးကို ခေါ်သွားသည်တွင် မယ်မယ်လည်း သူ့နောက်လိုက်နောက်ပါများနှင့်အတူ ဆင်းတုတော်များကို လိုက်ဖူးလျက် ရှိလေ၏။

သူငယ်တော်များသည် တတိယတံခါး၏ အပြင်ဘက်မှ ဘုရားများကိုဖူးနေသည့် မယ်မယ်တို့ကို လှမ်းကြည့်နေစဉ် ကျီချန်သည် ကျောင်းသားကလေးကို သူတို့ထဲသို့ခေါ်လာကာ ပိုက်ဆံပေးပြီး ပြန်လွှတ်လိုက်ရန်၊ ကျောင်းသားကလေးကို ရိုက်နှက်ကြိမ်းမောင်းခြင်းမပြုရန် ပြောခိုင်းလိုက်၏။ အစေခံများသည် ရောက်လာကြကာ ကျောင်းသားကလေးကို ခေါ်သွားကြ၏။

ကျီချန်သည် လှေကားထစ်ပေါ်တွင်ရပ်ရင်း ''ပစ္စည်းထိန်းမှူးကောဟော့''ဟု လှမ်းမေးလိုက်ရာ သူငယ်တော်များက ''ပစ္စည်းထိန်းလာပါ''ဟု ပြိုင်တူ အော်ခေါ်ကြ၏။

ချက်ချင်းပင် ပစ္စည်းထိန်းကြီး လင်ချီရှောင်သည် ဦးထုပ်ကို လက်တစ်ဖက်တွင်ကိုင်၍ ရောက်လာ၏။





ကျီချန်က

''နေရောင် ကျယ်တော့ကျယ်ပေမယ့် လူက ကျုပ်တို့ ထင်တာထက် များနေတယ်ဗျို့။ ဒီတော့ လိုတဲ့သူငယ်တော်တွေ၊ အစေခံတွေကိုပဲ ဒီကျောင်းဝင်းထဲမှာထား။ မလိုတဲ့အစေခံတွေကို အပြင်ထွက်နေပေ့စေ။ ပြီးတော့ တံခါးမကြီးနှစ်ပေါက်နဲ့ ဘေး မလှယ်ပေါက်တွေမှာလဲ ကောင်လေးတွေနှစ်ယောက်စီကို အစောင့်ခိုင်းထား။ လိုတာရှိယင် ခိုင်းရအောင်လို့။ ဒီနေ့ စံအိမ်နှစ်အိမ်စလုံးက မိန်းမပျိုကလေးတွေ လာကြမှာဆိုတော့ ကျောင်းတိုက်ဝင်းထဲကို အပြင်လူ မဝင်ပါစေနဲ့''

''ကောင်းပါပြီ သခင်လေး။ မှန်ပါတယ် သခင်လေး။ စိတ်ချပါ သခင်လေး''ဟု လင်ချီရှောင်က အမောတကော ပြော၏။

''ကဲ၊ ဒါဖြင့်သွားနိုင်ပြီ။ ကျီယုန်ကိုကော မမြင်ပါလား''

ထိုသို့ ပြောဆိုနေစဉ် ကျီယုန်သည် ဘောင်းဘီ ကြယ်သီးကို တပ်၍ ခေါင်းလောင်းစင်ပေါ်မှ ဆင်းလာ၏။

''ကြည့်စမ်း၊ ငါကတော့ နေပူကြီးထဲမှာ အလုပ်ရှုပ်လို့။ သူကတော့ အရိပ်ထဲမှာ ဇိမ်နဲ့''

ကျီချန်သည် ကျီယုန်ကို တံတွေးနှင့် ထွေးရန် အစေခံများကို အမိန့်ပေးလိုက်သဖြင့် အစေခံတစ်ယောက်က ကျီယုန်၏ မျက်နှာကို တံတွေးဖြင့်ထွေး၏။

''ပြီးတော့ ဘာလုပ်နေသလဲဆိုတာ မေးစမ်း''

''သခင်ကျီချန်က နေပူထဲမှာ ပင်ပင်ပန်းပန်း အလုပ်လုပ်နေတဲ့အချိန်မှာ ခင်ဗျားက အရိပ်ထဲမှာ ဘာသွားလုပ်နေတာလဲ''ဟု အစေတော်တစ်ယောက်က ကျီယုန်ကိုမေးလေ၏။

ကျီယုန်မှာ လက်နှစ်ဖက်ကို ဘေးသို့ချကာ စကား တစ်လုံးမျှ မပြောရဲတော့ချေ။

ဤသည်ကိုမြင်သည့်အခါတွင် ကျီယွန်၊ ကျီချင်းနှင့် ကျီပင်းတို့မှာလည်း လန့်လျက်ရှိလေ၏။ ကျီဟုန်၊ ကျီမြန်နှင့် ကျီယွမ် တို့သည်လည်း ဦးထုပ်ကလေးတွေ ကိုယ်စီဆောင်းပြီး အရိပ်ထဲတွင် မနေရဲကြတော့ဘဲ ကျောင်းတိုက်တံတိုင်းနားသို့ သွားနေကြ၏။

ကျီချန်က အနီးတွင် ရပ်နေသည့် သားဖြစ်သူ ကျီယုန်ဘက်သို့ လှည့်က

"သွား၊ ဒီနားမှာ ဘာရပ်နေတာဘဲ၊ အိမ်ပြန်ပြီး မင့်အမေကို သွားပြောချည်၊ ဒီမှာ မယ်မယ်တို့အားလုံး ရောက်နေကြပြီလို့။ လူကြီးတွေကို လာပြီး ဝတ်ပြုလှည့်လို့"

ကျီယုန်သည် ခပ်သုတ်သုတ်ထွက်လာကာ မြင်းတစ်စီး ယူခဲ့ရန် အော်ပြောနေ၏။ "စောစောက အခေါ်ခိုင်းပါလား၊ ခုတော့ သူ့မိန်းမ မလာတာနဲ့ စိတ်တိုပြီး ငါ့ကို အခြောက်တိုက် ဆူတယ်" ဟု တွေးရင်း အစေတော် သူငယ်တော် တစ်ယောက်ဘက်သို့ လှည့်၍

"ဟေ့ ကောင်။ ငါ့ကို မြင်းတစ်စီးလောက် ရှာပေးစမ်းပါဆိုတာ။ ဘယ်မှာလဲကွ" ဟု အော်ငေါက်လျက်ရှိ၏။

ကျီယုန်သည် သူငယ်တော် တစ်ယောက်ကို လွှတ်၍ အခေါ်ခိုင်းမည် စိတ်ကူးသေး၏။ သို့ရာတွင် နောင်တွင် ဖခင် သိသွားမည်စိုးသည့်အတွက် မခိုင်းရဲတော့ချေ။ သို့ဖြင့် မြင်းစီးကာ ကိုယ်တိုင်သွားခေါ်ရ၏။

သို့ရာတွင် ကျီချန်အကြောင်းကို ပြန်ကောက်ကြဦးစို့။ ကျီချန်သည် သားဖြစ်သူကို ဆူပူကြိမ်းမောင်းပြီးနောက် ကျောင်းတိုက်ထဲသို့ ဝင်လာခဲ့သည်တွင် ကျောင်းထိုင် ဆရာတော် ချန်းကို တွေ့ရ၏။

"ကျုပ်က အိမ်သည်ဆိုတော့ လာတဲ့ ဒကာတွေ ဒကာမတွေကို ညှိဝတ်ကျေအောင်ပြုစုဖို့ ဝတ္တရား ရှိပေတယ်ဗျ။ သို့သော်လည်း အထဲမှာ ဒကာမတွေချည်းပဲရှိတဲ့အတွက် ဒကာကြီး အထဲကိုလာယင် ကောင်းမယ်ထင်တယ်"

ဆရာတော်ချန်း၏ ရဟန်းဒကာမှာ ကွယ်လွန်သူ ယွန်းကူ မြို့စားကြီးဖြစ်လေသည်။ ယွန်းကူမြို့စားကြီးသည် ထိုစဉ်က ယတြာချေသည့်





သဘောဖြင့် ဆင်းရဲနွမ်းပါးသည့်မိသားစုများမှ ရဟန်း ခံလိုသူများကို ပစ္စည်းလေးပါး ဒါယကာအဖြစ် တာဝန်ယူကာ ရဟန်းဘောင်သို့ သွတ်သွင်းပေးခဲ့ရာ ဆရာတော်ချန်းမှာ ထိုစဉ်ကတည်းက ရဟန်းဘောင်သို့ ကူးပြောင်းခဲ့သူတစ်ဦး ဖြစ်လေ၏။ ထို့နောက်တွင် ဆရာတော်ချန်းသည် တာအိုရဟန်းများ၏ ဂိုဏ်းချုပ်ဆရာတော်ကြီးဖြစ်လာခဲ့ပြီးလျှင် နတ်ရွာစံတော်မူခဲ့သော ဘုရင်မင်းမြတ်က 'ဘဒ္ဒန္တမထေရ်' ဟူသောဘွဲ့ကို ဆက်ကပ်ခြင်းခံရသည့် ပုဂ္ဂိုလ်လည်း ဖြစ်လေ၏။ ယခုအချိန်တွင်မူ တာအိုဂိုဏ်း၏မဟာနာယက ဆရာတော်ကြီး စဖြစ်ပြီးဘုန်းတော်ကြီးသော ဘုရားကိုယ်တော်တိုင်က 'ရဟန္တာ' ဟု ကိုးကွယ်ဆည်းကပ်ခြင်းခံရသည့် ဆရာတော်ကြီးဖြစ်၏။ ဆရာတော်ကြီးသည် ယွန်းစံအိမ်နှင့် နိန်စံအိမ်ကြီးနှစ်အိမ်သို့ မကြာခဏ ဆွမ်းစားကြွလေ့ရှိသည့်အတွက် ထိုစံအိမ်မှ အိမ်သူအိမ်သားများအားလုံးနှင့် သိကျွမ်းလျက်ရှိ၏။

ဆရာတော်ကြီး ကြွလာသည့်အခါတွင် အမျိုးသမီးများက ပတ်ပြုကြလေ၏။

"ဒကာမကြီးလဲ နေလို့ထိုင်လို့ကောင်းတယ်နော်။ အင်း ကြည့်ရတာ ဟိုတလော ကြွလာတုန်းကထက်တောင် ကျန်းမာရေးကောင်းတဲ့ပုံပဲဗျ"

"တင်ပါ့။ ကောင်းပါတယ်ဘုရား။ ဆရာတော် ဘုရားကော ကျန်းမာပါရဲ့လား ဘုရား"

"အိမ်း၊ ကျန်းမာပါတယ်ဗျာ။ ဘုန်းကြီးကတော့ ဒကာမကြီးရဲ့ မြေးကလေးအတွက်ပဲ တစ်ခါတစ်ခါ စိတ်ပူမိတာပဲ။ ခုတော့ နေလို့ထိုင်လို့ ကောင်းရဲ့နော်။ ပြီးခဲ့တဲ့ လပြည့်ကျော် ဆယ့်တစ်ရက်နေ့တုန်းက ကျုပ်တို့ကျောင်းမှာ တာငတိသာ ပူဇော်ပွဲ လုပ်လို့ ဒကာမကြီးရဲ့မြေးကိုတောင် အခေါ်လွှတ်လိုက်သေးတယ်။ ဒါပေမယ့် စံအိမ်မှာ မရှိဘူးတဲ့"

"တင်ပါ၊ အဲဒီအချိန်လောက်တုန်းက မရှိပါဘူးဘုရား"

မယ်မယ်သည် သူ့မြေးကို လှမ်းခေါ်လိုက်၏။

ပေါက်ယုသည် အပြင်မှပြန်လာစဉ် ဖြစ်သဖြင့် ဆရာတော်၏ ရှေ့သို့ ရောက်လာ၏။

"တင်ပါ၊ ရှိပါတယ်ဘုရား"

ဆရာတော်ချန်းသည် ပေါက်ယုကိုလှမ်းကြည့်လိုက်ရင်း မယ်မယ်ဘက်သို့ လှည့်၍

"တော်တော်တောင် ထွားလာပါလား ဒကာမကြီးရဲ့"

"ထွားတော့ ထွားပါရဲ့ဘုရား။ ဒါပေမယ့် လူက သိပ်အကြမ်းပတမ်း မခံနိုင်ဘူးဘုရာ့။ နုနေတယ်၊ သူ့အဖေက ကလေးကို စာချည်းပဲ အကျက်ခိုင်းနေတော့ ကလေးကျန်းမာရေး ထိခိုက်တာပေါ့ဘုရား"

"သူငယ်လေးရဲ့ လက်ရေးပန်းချီတွေ၊ စာတွေ ကဗျာတွေကို ကျုပ်မကြာခဏ တွေ့ဖူးပါတယ်။ မဆိုးလှပါဘူး။ ဒီ လောက်တော် လျက်သားနဲ့ ပျင်းတယ်လို့ ပြောတာကတော့ မကောင်းလှဘူးပေါ့။ ကြည့်ရတာကတော့ မဆိုးလှပါဘူး။ အင်း ဒကာမကြီးရဲ့မြေးကိုကြည့်ရတာ၊ ရုပ်ရော၊ ဟန်အမူအရာရော သွားလေသူ သူ့ဘိုးအေ ဒကာကြီး မြို့စားကြီးနဲ့ တယ်တူပေတာပဲ"

ဆရာတော်ချန်းသည် သက်ပြင်းချ၍ ပြောလိုက်လေ၏။

ထိုအခါတွင် မယ်မယ်မှာလည်း သွားလေသူ မြို့စားကြီး ကို အမှတ်ရလာကာ မျက်ရည်တွေ ဝဲလာ၏။

"တင်ပါ့ဘုရား။ တပည့်တော်မရဲ့ သားတွေ မြေးတွေအားလုံးမှာ သူတစ်ယောက်ပဲ မြို့စားကြီးနဲ့ တူပါတယ်ဘုရား"

ဆရာတော်ချန်းသည် ကျိချန်ဘက်သို့ လှည့်လိုက်ရင်း

"ဒကာတို့ကတော့ ဘိုးတော်မြို့စားကြီးကို ဘယ်မြင်ဖူးလိုက်မလဲ။ ဒကာကြီးကျိရှဲနဲ့ ဒကာကြီးကျိချိန်တို့တောင် သူတို့ခမည်းတော်ကြီးကို မှတ်မိလိုက်ရုံကလေးပဲ ရှိမယ်"

"တပည့်တော်မမှာဖြင့် သူ့အတွက်ပဲ စိတ်ပူနေရတာ ပါပဲဘုရား။ အရွယ်ရောက်လာပြန်တော့လဲ မပျက်စီးအောင် ကြည့်ရှုရတာက နည်းကဲ့တာဝန်မဟုတ်ဘူး ဘုရား၊ သူ့ကို အိမ်ထောင်ရက်သား ချပေးဖို့ ဆိုပြန်တော့လဲ ဗေဒင်ဟူးရားတတ်တဲ့ ကိုရင်ကြီးတစ်ပါးက





သူ့ဇာတာကိုကြည့်ပြီး ငယ်ငယ်ရွယ်ရွယ်နဲ့ အိမ်ထောင်ပြုရမယ့် ဇာတာ မပါဘူးတဲ့ ဘုရား။ တပည့်တော်မအလို ပြောရမယ်ဆိုယင်တော့ သူ အိမ်ထောင်ရက်သားကျပြီး အေး အေး ဆေးဆေး နေတာထိုင်တာကို မြင်ချင်လှပါပြီဘုရား။ သူ့အိမ်ထောင်ဘက်ကရုပ်ရည်ရှိပြီး လိမ္မာယဉ်တော်ပါပြီး။ စည်းစိမ်တွေ ဂုဏ်တွေက အရေးမကြီးပါဘူး။ ပြောလို့သာ ပြောရတယ်။ ရုပ်လဲချော မနော လဲကောင်းဆိုတာကတော့ အရှားသားကလား ဘုရား"

စကားပြတ်သွားကြစဉ် နတ်ငှက်မယ်က

"တင်ပါ့ဘုရား။ တပည့်တော်မတို့ သမီးလေးအတွက် အဆောင်လက်ဖွဲ့များ စီရင်ပေးမယ်လို့ ဆရာတော်မိန့်ဖူးပါတယ် ဘုရား။ တစ်နေ့ကလဲ ဖဲဝါစ လိုချင်တယ်ဆိုလို့ ကပ်လိုက်ပါတယ် ဘုရား။ ဆရာတော် အားယင်သာ တစ်ဆိတ်"

ဆရာတော်ချန်းသည် နတ်ငှက်မယ်ဘက်သို့ လှည့်၍ပြုံးလိုက်ရင်း

"ဩော်၊ ဒကာမလေး ငှက်မယ်လဲ ရှိသကိုး။ ဘုန်းကြီးက မျက်စိမှုန်တော့ ဒကာမလေးကို ကောင်းကောင်းမသဲကွဲဘူးဗျ။ လက်ဖွဲ့ကတော့ စီရင်ပြီးပါပြီ။ ဒကာမလေးတို့ဆီကို မောင် ကျောင်းသား တစ်ယောက်ကို အပို့ခိုင်းမလို့လုပ်နေတုန်း ဟောဒီထိပ်ထားရဲ့ ကထိန်ကြောင့် အလုပ်များနေတာနဲ့ မေ့သွားတယ် ဒကာမလေးရေ။ ခုထိ ရုပ်ပွားတော်ရှေ့မှာ ပူဇော်လျက်ရှိသေးတယ်"

ဆရာတော်ကြီးချန်းသည် ရုပ်ပွားတော်ဆောင်ထဲသို့ ဝင်သွားကာ ခဏကြာလျှင် နဂါးရုပ်များရေးထားသည့် ပိုးနီစတစ်စအုပ်ထားသော ဗန်းတစ်ခုထဲတွင် အဆောင်လက်ဖွဲ့ကို ယူလာ၏။ နို့ထိန်းက လက်ဖွဲ့ကို လှမ်းယူလိုက်စဉ် ဆရာတော်ချန်းသည် ကလေး၏ လက်ကို ကိုင်လိုက်၏။

"လက်ဖွဲ့ကို ဘာဖြစ်လို့ လက်နဲ့မကိုင်ဘဲ ဗန်းထဲ ထည့်လာတာ ပါလဲ ဘုရား"

"ပိုပြီးသန့်အောင်လို့ပေါ့ ဒကာမလေးရယ်"

"မသိပါဘူး။ တပည့်တော်မက ဆရာတော်ကြီးက အလှူများ ခံမလားလို့"ဟု ငှက်မယ်ကပြောလိုက်ရာ အားလုံးက ဝိုင်းရယ်ကြ၏။

မယ်မယ်က နတ်ငှက်မယ်ဘက်သို့ လှည့်လိုက်ရင်း

"ဟဲ့၊ ငှက်မယ်၊ ဆရာတော်ကို ဒီလိုမလျှောက်ကောင်းဘူး။ ခက်တော့တာပဲ။ ငှက်မယ်ဟာ တော်တော့်ကို နှုတ်လျှာ သွက်တယ်" ဟု ပြော၏။

ဆရာတော်ချန်းအေ ပြုံးလိုက်လျက်

"ဘုန်းကြီးက ဗန်းယူလာတာ အကြောင်းရှိတယ်ဗျ။ အလှူခံမလို့ မဟုတ်ဘူး။ ဘုန်းကြီးရဲ့ကျောင်းက သက်န်းဝတ်တွေနဲ့ ကိုရင်တွေ၊ ကျောင်းဒကာတွေကိုပြဖို့အတွက် ဒကာလေးပေါက်ယုရဲ့ လည်ပင်းက ကျောက်စိမ်းတုံးကို ဌားငှားချင်လို့"

"ဒီလိုဆိုယင်လဲ ဆရာတော်ဘုရားကိုယ်တိုင် လိုက်ပြနေဖို့မလိုပါဘူးဘုရား၊ ပေါက်ယုကိုယ်တိုင် လိုက်အပြခိုင်းလိုက်ယင် ရပါတယ်"

"ရပါတယ် ဒကာမကြီးရဲ့။ ကျုပ်အသက် ရှစ်ဆယ်ကျော်ပြီဗျ။ ဒါပေမယ့် ဒကာမကြီးတို့ ပေးပို့သတဲ့ မေတ္တာကြောင့် ကျန်းမာပါသေးတယ်။ ဒီတော့ ကျုပ်ကိုယ်တိုင်ပဲ လိုက်ပြလိုက်မယ်"

ဤတွင် မယ်မယ်တလည်း ပေါက်ယုလည်တွင် ဆွဲထားသည့် မနောမသိဒ္ဓိ ကျောက်စိမ်းတုံးကို အဖြုတ်ခိုင်းကာ ဗန်းထဲတွင်ထည့်၍ ကပ်လိုက်၏။ ဆရာတော်ချန်းသည် ကျောက်စိမ်းတုံးကို တရိုတသေ ကိုင်ကာ ပိုးစပေါ်တွင် တင်လိုက်ပြီးနောက် ဗန်းကိုလည်း လက်နှစ်ဖက်ဖြင့် တရိုတသေကိုင်၏။

မယ်မယ်တို့ တစ်သိုက်သည် ဆရာတော်ကို ဝတ်ပြုပြီး လျှပ်ကျောင်းဆောင်များကို လျှောက်ကြည့်ကြ၏။ ကျောင်းတစ်ကျောင်းအပေါ်ထပ်သို့ တက်မည်အပြုတွင် ကိုချန်ရောက်လာကာ ဆရာတော်ချန်းသည် ကျောက်စိမ်းတုံးကိုလိုက်ပြပြီး ပြန်ယူလာပြီဖြစ်ကြောင်းဖြင့် ပြော၏။ ထိုသို့ပြောဆိုနေစဉ် ဆရာတော်ချန်းကိုယ်တိုင် ကျောက်စိမ်းတုံးကို ဗန်းဖြင့်ထည့်၍ ယူလာ၏။





"ကျောက်စိမ်းတုံးကို ကြုံတောင့်ကြုံခဲကြည့်ရလို့ ဝမ်းသာနေကြသဗျ။ တချို့ဆင်းရဲတဲ့ ဒကာများကတော့ တန်ဖိုးရှိတဲ့ ကျောက်စိမ်းတုံးဆိုပြီး လှူချင်တန်းချင်ပေမယ့် မတတ်နိုင်လို့ သူတို့မှာရှိတဲ့ အဆောင်လက်ဖွဲ့တွေကို ချွတ်လှူကြသဗျ။ ဒကာလေးပေါက်ယု သိမ်းချင်ယင်လဲသိမ်း၊ မသိမ်းချင်ယင်လဲ ၊ ပေးချင်တဲ့လူကို ပေးပစ်လိုက်ပေါ့"

မယ်မယ်က ဗန်းထဲသို့ လှမ်းကြည့်လိုက်သည့်အခါတွင် ကျောက်စိမ်းလက်ဖွဲ့များနှင့် ရွှေလက်ဖွဲ့များကိုတွေ့ရပြီး 'လိုရာဆန္ဒပြည့်ပါစေ' 'ထာဝရငြိမ်းချမ်းပါစေ'ဆိုသည့် စာတန်းများ ထိုးထားသည်ကို တွေ့ရလေ၏။ လက်ဖွဲ့များမှာ ပန်းထိမ်လက်ရာ ကောင်းကောင်းဖြင့် ပြုလုပ်ထားခြင်းဖြစ်ပြီး အဖိုးတန် ပုလဲမျာ၊ ကျောက်မျက်များလည်း စီခြယ်ထား၏။

"မဟုတ်တာ ဆရာတော်ဘုရားရယ်။ သင်္ကန်းဝတ်တွေဆီက ဒါတွေပြန်လှူတာကို လက်ခံရတယ်ဆိုတာ မကောင်းပါဘူး။ လက်မခံပါရစေနဲ့ ဘုရား"

မယ်မယ်က ပြော၏။

"ဒါကတော့ ဘုန်းကြီးလဲ မတတ်နိုင်ပေဘူး ဒကာမကြီးရဲ့။ သူတို့ သဒ္ဓါတရားရှိလို့ လှူကြပေတာကိုး။ ဒကာမကြီးတို့က လက်မခံယင်တော့ ဘုန်းကြီးအနေနဲ့ ကြားထဲက မကောင်းဘူးပေါ့"

သို့ဖြင့် မယ်မယ်မှာ မငြင်းသာတော့ဘဲ ပစ္စည်းများကို လက်ခံယူရန် အစေတော်တစ်ယောက်အား ခိုင်းလိုက်၏။

"ဆရာတော်ဘုရားက တပည့်တော်တို့ကို လက်ခံခိုင်းတာတော့ ဟုတ်ပါပြီ။ ဒါပေမယ့် မယ်မယ်ရယ်၊ မောင့်အတွက် ဒါတွေ ဘာလုပ်မှာလဲ။ ဒီတော့ မောင်နဲ့ မောင့်သူငယ်တော်တွေ ကျောင်းပြင်ဘက်ထွက်ပြီး မရှိဆင်းရဲတဲ့လူတွေကို လှူလိုက်ယင် မကောင်းဘူးလား"

"အေး၊ ကောင်းသားပဲ"

သို့ရာတွင် ဆရာတော်ကြီးက

"အင်း၊ ဒကာလေးပြောတာလဲ ကုသိုလ်ရတဲ့ အလုပ်ပါပဲ။ သို့သော်လဲ ခုလှူလိုက်ကြတဲ့ပစ္စည်းများဟာ တန်ဖိုးမကြီးလှသော်လဲ လက်ရာအလွန်မြောက်တဲ့ ပစ္စည်းတွေဖြစ်သဗျ။ ဒီတော့ ဒီပစ္စည်းတွေ မရှိဆင်းရဲတဲ့လူရဲ့လက်ထဲ ရောက်သွားလို့ ထုခွဲပစ်ကြမယ်ဆိုယင် နှမြောစရာကောင်းလှတယ်။ ဒကာလေးတို့ စေတနာရှိလို့ လှူချင်တယ်ဆိုယင် ငွေကြေးလှူတာက သူတို့အတွက် ပိုပြီး အကျိုးရှိပေတာပေါ့"

"ကောင်းပါပြီဘုရား။ ဒီလိုဆိုယင်လဲ ဒီပစ္စည်းတွေကို တပည့်တော်တို့ သိမ်းထားပါ့မယ်။ ဆင်းရဲသားများကိုလဲ ငွေကြေး လှူလိုက်ပါ့မယ်"

မယ်မယ်တို့တစ်သိုက်သည် ဆရာတော်ကြီးကို ကန်တော့ပြီးနောက် ကျောင်းအပေါ်ထပ်သို့ တက်လာခဲ့ကြ၏။ နတ်ငှက်မယ်နှင့်အဖော်တစ်သိုက်မှာ ကျောင်းဆောင်ဝရန်တာ အရှေ့ဘက်ခြမ်းတွင် ထိုင်ကြ၏။ အစေတော်များမှာ အနောက်ဘက်ခြမ်းတွင် ထိုင်ကြပြီး မိမိတို့ဆိုင်ရာ သခင်မများကို အလှည့်ကျ ပြုစုလျက်ရှိကြ၏။

ထိုစဉ် ကျီချန်ရောက်လာပြီးလျှင် ဇာတ်များကပြရန် မဲနှိုက်ရာတွင် 'ငွေငန်းမြွေ' ဇာတ်ကရန် ပထမဆုံး မဲပေါက်ကြောင်းဖြင့် လာပြော၏။

"ဇာတ်လမ်းက ကောင်းရဲ့လားကွယ့်"ဟု မယ်မယ်က မေး၏။

"တောထဲမှာ ငန်းမြွေကြီးတစ်ကောင်တွေ့တော့ အဲဒီ ငန်းမြွေကြီးကိုသတ်ပြီး မင်းဆက်ထူထောင်တဲ့ ဟန်မင်းဆက် ပထမဆုံး ဘုရင်ကြီးအကြောင်းပါ မယ်မယ်။ ဒုတိယမဲကျတဲ့ ဇာတ်ကတော့ တန်မင်းလက်ထက်က ဆင်းရဲသားမင်းဖြစ်တဲ့ 'ကောက်ဇုယီ'ရဲ့ ဇာတ်ထုပ်ပါ"

"ဩော်၊ အဲဒီဇာတ်က ဒုတိယကျတဲ့ဇာတ်လား။ အေးလေ။ သူ့ကံနဲ့သူ ကျချင်ရာကျတော့ ဒီအစီအစဉ်အတိုင်းပဲ ဖြစ်ရပေမှာပေါ့။ နို့နေစမ်းပါဦး။ တတိယဇာတ်ကတော"

"တန်မင်းခေတ်က ပေါ်ခဲ့တဲ့ 'ပညာရှိ အိပ်မက်မက်ခန်း' ဇာတ်ပါ မယ်မယ်"





မယ်မယ်က မည်သို့မျှ မပြောတော့ချေ။ ကျီချန်လည်း အခြားကိစ္စများကိုဆောင်ရွက်ရန် ထွက်သွားပြီး ပွဲစရန် အမိန့်ပေးလိုက်၏။ သို့ရာတွင် ဤအကြောင်းကို ဤမျှနှင့် တော်လောက်ပြီ။

ကျောင်းအပေါ်ထပ် သူ့အဘွားအနီးတွင် ထိုင်လျက်ရှိသည့် ပေါက်ယုသည် လက်ဆောင်များထည့်ထားသည့်ဗန်းကို အစေတော်တစ်ယောက်အား အယူခိုင်းလိုက်၏။ ထို့နောက် သူ့ကျောက်စိမ်းတုံးကိုပါ ဗန်းထဲသို့ထည့်၍ မွှေနှောက်လိုက်ရင်း ဗန်းကို မယ်မယ်နှင့်တကွ အားလုံးကို လိုက်ပြ၏။ မယ်မယ်၏ မျက်လုံးများသည် စိမ်းနုရောင်ကျောက်တစ်လုံး ခြယ်ထားသည့် ရွှေမြင်းပျံ့ရုပ်ကလေးတစ်ခုကို ကောက်ယူလိုက်လေ၏။

"ဟောဒီ မြင်းပုံရင်ထိုးကလေးကို တို့စံအိမ်က သူငယ်မတွေ တစ်ယောက်ယောက်ဆီမှာ မြင်ဖူးတယ်ထင်တယ်။ ဘယ်သူ့ဆီမှာမှန်းတော့ မသိဘူး"

"မလေးဆိုင်ယွန်းမှာ အဲဒီလိုရင်ထိုးမျိုးတစ်ခု ရှိတယ်မယ်မယ်ရဲ့။ ဒီလောက်တော့ မကြီးတတ်ဘူး"ဟု ပေါက်ကြည်က ပြောလေ၏။

"အေး၊ ဟုတ်ပေသားပဲ" မယ်မယ်က ပြောလေ၏။

"မလေးဆိုင်ယွန်းက မောင်တို့နဲ့ တစ်ချိန်လုံး ရှိနေတာပဲ။ ဒါကိုတောင် မောင်တို့ သတိမပြုမိကြဘူးနော်"ဟု ပေါက်ယုက ပြော၏။

တန်ချွန်းက

"မလေးပေါက်ကြည်က သိပ်မျက်စိရှင်တာ။ ပြီးတော့ မှတ်ဉာဏ်ကလဲ ကောင်းလိုက်တာ အလွန်ပဲ"

ထိုက်ယုက မခံချင်သည့် အသံဖြင့်

"သူက ဒီပြင်ဟာတွေထက် သူများတွေ ဘာ လက်ဝတ်လက်စားဝတ်သလဲဆိုတာကို ပိုပြီး မှတ်မိတာပါ"

ပေါက်ကြည်သည် တစ်ဖက်သို့လှည့်ကာ ထိုက်ယု၏စကားကို မကြားချင်ယောင် ဆောင်နေလိုက်၏။

ဆိုင်ယွန်းတွင် ဤသို့သော မြင်းပျံ့ရုပ် ရွှေရင်ထိုးကလေးတစ်ခု ရှိကြောင်း သိသည့်အခါ၌ ပေါက်ယုသည် ဗန်းထဲမှ ရင်ထိုးကလေးကို

ဖျတ်ခနဲ ကောက်ယူကာ အိတ်ထဲသို့ ထည့်ထားလိုက်၏။ ထိုနောက် သူ့အပြုအမူကို ဘေးလူများ မြင်မည်စိုးသဖြင့် ပတ်ပတ်လည်ကို မသိမသာ လှည့်ကြည့်လိုက်၏။ သူ့အပြုအမူကို သတိထားလိုက်မိသူဆို၍ ခပ်လှမ်းလှမ်းမှနေ၍ သူ့ကို အကဲခတ်သလိုကြည့်နေသည့် ထိုက်ယုတစ်ယောက်သာလျှင် ရှိသည်ကို တွေ့ရလေ၏။ ဤတွင် ပေါက်ယုလည်း ခပ်ရှက်ရှက်ဖြစ်သွားကာ မြင်းပျံရုပ် ရွှေရင်ထိုးကလေးကို အိတ်ထဲမှ ထုတ်ယူလိုက်ပြီးနောက် ထိုက်ယုကို ပြလိုက်ရင်း ခပ်ပြုံးပြုံးဖြင့်

"အိမ်ပြန်ရောက်တဲ့အထိ မောင်ယူထားလိုက်မယ်။ မလေး အိမ်ပြန်ရောက်ယင် ပိုးကြိုးလေးနဲ့ဆွဲနော် မလေး"

ထိုက်ယုက ခေါင်းယမ်းလိုက်လျက်

"ဟင့်အင်း၊ မလိုချင်ပါဘူး"

"မလေး မယူချင်ဘူးဆိုယင်လဲ မောင်ပဲ သိမ်းထားလိုက်မယ်လေ"ဟု ဆိုကာ အိတ်ထဲသို့ ပြန်ထည့်ထားလိုက်၏။

ထိုသို့ ပြောဆိုနေကြစဉ် ကျိချန်၏ဇနီး မမယုနှင့် ချေးမ (ကျိယုန်၏ အမေနှင့် နောက်မိန်းမ) မယ်မယ်ကို လာ၍ ဂါဝရပြုကြလေ၏။

"အလကား လာတာယ်ကွယ်။ မယ်မယ်က ပျင်းတာနဲ့ ပွဲထွက်ကြည့်တာပါ"

ထိုစဉ် ဗိုလ်ချုပ်ကြီး ဖုန်ဇူယင်ထံမှ မင်းချင်းတစ်ယောက် ရောက်လာ၏။ ကျိမိသားစုများက ကထိန်ပွဲကျင်းပသည်ဟု သိရသည့်အခါ၌ ဗိုလ်ချုပ်ကြီး ဖုန်ဇူယင်သည် သိုး၊ ဝက်၊ အမွှေးတိုင်၊ဖယောင်းတိုင်နှင့် အချိုပွဲများကို အပို့လွှတ်လိုက်၏။

နတ်ငှက်မယ်သည် လသာဆောင် အစွန်းသို့သွားကာ အောက်သို့ငုံ့ကြည့်လိုက်ပြီးလျှင် လက်ခုပ်လက်ဝါးတီးလျက်

"ဟောတော့။ ငှက်မယ်တို့ဖြင့် ဒီလိုလက်ဆောင်တွေ လာလိမ့်မယ်လို့ကို မထင်ဘူး။ ငှက်မယ်တို့က ဘုံကထိန်မှာ ပျင်းတာနဲ့ ပွဲလာကြည့်တာ။ ဒါပေမယ့် သူတို့က ငှက်မယ်တို့ကပဲ ကထိန်ခင်းတယ်ထင်ပြီး လှူဖွယ်ပစ္စည်းတွေ ပို့ကုန်ကြပြီ။ မယ်မယ်က သေသေချာချာမှ





မပြောလိုက်ဘဲကိုး။ ကဲ မတတ်နိုင်ဘူးလေ။ လှူဖွယ်ပစ္စည်း လာပို့တဲ့ အစေတော်တွေကို ဆုကြေးလေးဘာလေးတွေ ပေးဦးမှ"

ထိုသို့ ပြောနေစဉ် ဖုန်ဇူယင်၏အိမ်မှ ပစ္စည်းထိန်းနှစ်ယောက်၏ မိန်းမနှစ်ယောက်လည်း ပါလာကြလေ၏။ သူတို့မှပြန်မီတွင် လက်ထောက် ဝန်ကြီး ချောနှင့် မိမိတို့ ဆွေမျိုးသားချင်းများ၊ မိတ်ဆွေများထံမှလည်း လှူဖွယ်ဝတ္ထုများ ပို့ပေးကြလေ၏။

မယ်မယ်မှာ မိမိတို့ အပျော်ပွဲလာကြည့်သည်ကို နောင်တရလျက်ရှိ၏။

"ဒါက မယ်မယ်တို့က ခင်းတဲ့ အဓိကရ ကထိန်ကြီး မဟုတ်ပါဘူး။ သာမန် ကျောင်းကထိန်ပါ။ ပွဲရှိတယ်ဆိုလို့ ပွဲလာကြည့်ရုံ သက်သက်ပါ။ ခုတော့ တို့လုပ်လိုက်တာနဲ့ အားလုံး ဒုက္ခတွေ များကုန်ပြီ"

သို့ဖြင့် မယ်မယ်သည် ဇာတ်ပွဲအခန်းတစ်ခန်းကို ကြည့်ပြီးနောက် ပြန်လာခဲ့လေ၏။ နောက်တစ်နေ့တွင်မူ သွား၍ပင် မကြည့်တော့ချေ။

"ခုမှတော့လဲ ဘာထူးတော့သလဲ မယ်မယ်ရယ်။ လူတွေအားလုံးက ဒုက္ခခံပြီး လှူဖွယ်တွေပို့ပြီးတော့မှ မထူးတော့ပါဘူး။ ကြည့်ချင်ယင် ကြည့်လိုက်တာပေါ့"ဟု နတ်ငှက်မယ်က ပြောသေးသော်လည်း မယ်မယ်သည် ပွဲသို့ မသွားတော့ချေ။

သို့ရာတွင် ပေါက်ယုမှာ မယ်မယ်က သူ့အိမ်ထောင်ရေးနှင့် ပတ်သက်၍ ဆရာတော်ကြီးအား လျှောက်ထားနေသံကိုကြားလိုက်ပြီးသည့်နောက်မှ စ၍ သုန်မှုန်လျက်ရှိ၏။ ထိုက်ယုမှာကား ပွဲမှအပြန်တွင် နေပူမိလာသဖြင့် နေထိုင်မကောင်းဖြစ်လျက်ရှိ၏။ ထို့ကြောင့် မယ်မယ်သည် နတ်ငှက်မယ် ကပွဲသို့သွားရန် တိုက်တွန်းသည့်တိုင် မသွားလိုတော့ဟု ဆိုကာ ငြင်းလျက်ရှိ၏။ နတ်ငှက်မယ်ကား မယ်မယ်မလိုက်တော့သည့်အတွက် အခြားလိုက်ချင်သူများခေါ်ကာ သူခေါင်းဆောင်၍ ဇာတ်ပွဲသို့ ထွက်လာခဲ့၏။

ပေါက်ယုမှာ ထိုက်ယု နေထိုင်မကောင်းဖြစ်သည့်အတွက် စိတ်မကောင်းဖြစ်လျက်ရှိကာ ထိုက်ယု၏အခြေအနေကို မကြာမကြာသွား၍ ကြည့်၏။ ထိုက်ယုမှာလည်း ပေါက်ယုအတွက် စိုးရိမ်လျက်ရှိ၏။

"မောင်လေး။ ဘာဖြစ်လို့ ဇာတ်ပွဲကို လိုက်မသွားသလဲဟင်။ အိမ်မှာနေရစ်ခဲ့တာ ပျင်းမှာပေါ့"

သူ့ လက်ထပ်ရေးနှင့် ပတ်သက်၍ တာအိုဂိုဏ်းချုပ် ဆရာတော်နှင့် မယ်မယ်တို့ပြောသည့် စကားများကြောင့် ပေါက်ယုသည် ယခင်ကထက် စိတ်ထဲတွင် တအုံ့နွေးနွေးဖြစ်လျက်ရှိ၏။ ထိုက်ယုက ထိုအကြောင်းကို စကားရှာ၍ ဖော်ကာ သူ့ကိုနှောက်သည့်အခါတွင် ပေါက်ယုက

"တခြားလူတွေ နောက်ကြ ပြောင်ကြတာကတော့ ထားပါတော့။ ငါ့ကိုမှ ကောင်းကောင်းနားမလည်ဘဲကိုး။ ဒါပေမယ့် မလေး ထိုက်ယုက နောက်တာကတော့ မကောင်းပါဘူး။ ငါ့ကို နားမလည်သေးဘူးဆိုတာ ပြတာပဲ" ဟု တွေးနေမိ၏။ ထိုသို့ တွေးမိသည့်အခါတွင် ပေါက်ယုသည် ဒေါပွလာ၏။ ထိုက်ယုသာ မဟုတ်ခဲ့လျှင် သူ့ ဒေါသသည် ကြီးနေရာတွင် ပေါက်ကွဲတော့မည် ဖြစ်၏။ သို့ရာတွင် ထိုက်ယုကိုကား သူစိတ်မဆိုးရက်ချေ။ ပေါက်ယု၏ မျက်နှာသည် ညိုမှိုင်းသွား၏။

"ထားပါလေ။ မောင်နဲ့တစ်လျှောက်လုံး ရင်းရင်းနှီးနှီးနေခဲ့တဲ့ မလေးတောင် ဒီလောက်နားမလည်တော့ ဒီပြင်လူတွေကို ဘာပြောစရာ ရှိတော့မှာလဲ"

ထိုက်ယုက ခပ်လှောင်လှောင်ဖြင့်

"ဟုတ်ပါတယ်။ မလေးလဲသိပါတယ်။ မလေးက မောင်နဲ့လိုက်ဖက်တဲ့ မိန်းမမျိုး မဟုတ်ဘူး။ မောင်လေးလိုချင်တဲ့ စည်းစိမ်ဥစ္စာတွေလဲ မလေးမှာ မရှိဘူး"

ပေါက်ယုသည် ဖြုန်းခနဲ ထိုင်ရာမှ ထကာ ထိုက်ယုအနားသို့ လျှောက်လာခဲ့ပြီးနောက်

"ဘာလဲ မလေး။ မောင့်ကို မြေမျိုစေချင်လို့လား။ မိုးကြိုးရှစ်စိတ် ပစ်သေစေချင်လို့လား" ဟု ရုတ်တရက် ကောက်ကာငင်ကာ မေးလိုက်၏။ ထိုက်ယုသည် သူပြောသည့်စကားကို နားမလည်နိုင်အောင် ဖြစ်လျက်ရှိစဉ် ပေါက်ယုကဆက်၍





"မနေ့ကတင် မောင့်အိမ်ထောင်ရေးနဲ့ ပတ်သက်လို့ ဘုရားရှေ့မှာ သစ္စာဆိုခဲ့ပြီးပြီ။ ဒီနေ့ မလေးက မောင့်ကို ဒီစကားမျိုးပြောတယ်။ ဘာလဲ၊ မောင်လေးကို မြေမျိုစေချင်တယ်။ သွေးစိမ်း အန်သေစေချင်တယ်ပေါ့။ ဒီလိုဖြစ်တော့ မလေးမှာ ဘာများအကျိုးထူးမှာလဲ"

ထိုအခါကျမှ သူတို့နှစ်ယောက် တစ်ခါကပြောခဲ့သည့် စကားများကို ထိုက်ယု အမှတ်ရကာ ကိုယ့်အမှားကို ပြန်၍သတိပြုလိုက်မိ၏။ သို့ဖြင့် ထိုက်ယုသည် သူ့စကားကြောင့် စိတ်မချမ်းမသာဖြစ်လျက်ရှိ၏။ ထိုက်ယုသည် ဝမ်းနည်းသွားဟန်ဖြင့် ငိုရှိုက်လျက်

"မဟုတ်ပါဘူးမောင်ရယ်။ မလေးက မောင့်ကောင်းစားရေးကို လိုလားလို့ ပြောတာပါ။ မလေးမှာ မောင့်အပေါ် စေတနာဆိုး ထားမိတယ်ဆိုယင် မလေး မြေမျိုပါစေ။ မိုးကြိုးပစ်ပါစေ။ မလေး သေရပါတယ်။ မောင်စိတ်ထိခိုက်နေတာကို မလေး ရိပ်မိပါတယ်။ မနေ့က ဂိုဏ်းချုပ်ဆရာတော်ကြီးနဲ့ မယ်မယ်တို့ ပြောတဲ့စကားကို ကြားလိုက်တော့ မောင့်ကို မယ်မယ်တို့က အတင်းများ မိန်းမ ပေးစား လေမလားလို့ မောင် စိုးရိမ်နေတယ် မဟုတ်လား။ ကိုယ်ချစ်တဲ့သူနဲ့ လက်မထပ်ရမှာကို မောင် စိုးရိမ်နေတယ် မဟုတ်လား။ ဒီလိုစိုးရိမ်နေရတဲ့အထဲမှာ မလေးက နောက်လိုက်မိတော့ မလေးကို စိတ်ဆိုးတာပေါ့၊ ဟုတ်လား။ သိပါတယ်။ မလေးကလဲ ခံပါတယ်"

ပေါက်ယုမှာ ခပ်ဆန်းဆန်း သူငယ်တစ်ယောက်ဖြစ်၏။ ထို့ပြင် သူနှင့် ထိုက်ယုတို့မှာ ငယ်ငယ်ကတည်းက ရင်းနှီးခဲ့ကြသူများ ဖြစ်ရာ သူတို့နှစ်ယောက် စိတ်တူကိုယ်တူသဘောတူဖြစ်ကြောင်းကို ပေါက်ယု ကောင်းကောင်းသိ၏။ ယခု ကြီးလာ၍ စာပေတို့ကိုဖတ်ရှုလာခဲ့ရသည့်အခါတွင်မူကား သူတို့ ဆွေမျိုး သားချင်း ထဲတွင် လည်းကောင်း၊ မိတ်ဆွေသူငယ်ချင်းများထဲတွင်လည်းကောင်း ထိုက်ယုကဲ့သို့ အဖိုးတန် မိန်းကလေးဟူ၍ တစ်ယောက်မျှ မရှိကြောင်းကို သိလာခဲ့လေပြီ။ တော်ပေ ဆိုသည့် မိန်းကလေးများသည် ထိုက်ယုနောက်က ဖိနပ်ကိုင်၊ မီးတိုင်ထွန်း အဆင့်မျှလောက်သာ ရှိကြောင်းကိုလည်း သဘောပေါက်

လာခဲ့လေပြီ။ ပေါက်ယုသည် ထိုက်ယုကို တစ်ဖက်သတ် ချစ်လျက် ရှိခဲ့သည့်တိုင် ဖွင့်မပြောရက်၊ မပြောရဲဘဲ ဖြစ်လျက် ရှိ၏။ ထို့ကြောင့် သူ့စိတ်သဘောထားကို စမ်းသပ်ကြည့်ချင်နေ၏။

ထိုက်ယုမှာလည်း ခပ်ဆန်းဆန်း မိန်းကလေး တစ်ယောက် ဖြစ်သည့် အတွက် သူ့စိတ်ထဲတွင် ရှိသည်တို့ကို ဖုံးကွယ်ကာ ပေါက်ယု အကဲကို စမ်းကြည့်လျက် ရှိ၏။

သို့ဖြင့် သူတို့ နှစ်ယောက်သည် တစ်ယောက်၏ ခံစားချက်ကို တစ်ယောက် ဖုံးကွယ်လျက် ရှိကြ၏။ ‘အမှားနှင့်အမှား တွေ့ကြလျှင် အမှန်ကို ရောက်သည်’ဟူသော စကားပုံရှိပေ၏။ သို့ဖြင့် သူတို့သည် အမှန်မရောက်မီတွင် အသေးအဖွဲကလေးများကြောင့် တကျက်ကျက် ဖြစ်လျက် ရှိကြ၏။

“ငါဟာ ငါ့ကိုနားမလည်တဲ့ တခြားလူတွေကို ခွင့်လွှတ်နိုင်ခဲ့တယ်။ ဒါပေမယ့် မလေးကတော့ ငါ့ကိုနားလည်သင့်တာပဲ။ လောကမှာ ငါ့ကိုနားလည်နိုင်သူဆိုလို့လဲမလေးတစ်ယောက်ပဲရှိတယ်ထင်တာပဲ။ မလေးဟာ ငါခံစားနေရတာတွေကို နားလည်ပြီး နှစ်သိမ့် အားပေးရမယ်။ ခုတော့ ငါ့ကိုနှစ်သိမ့်ပေးရမယ့်အစား လှောင်ရက်လိုက်တာ။ ငါကတော့ သူ့ကို သံယောဇဉ်ကြီးလိုက်ရတာ။ နေ့စဉ်နဲ့အမျှ မိနစ်နဲ့အမျှ အောက်မေ့လိုက်ရတာ။ သူ့နှလုံးသားထဲမှာတော့ ငါ့အတွက် နေရာ မရှိပါဘူး” ဟု ပေါက်ယုသည် တစ်ယောက်တည်း တွေးနေ၏။

သို့ရာတွင် စိတ်ထဲရှိသည်တို့ကိုမူ ထိုက်ယုအား ဖွင့်မပြောရက်နိုင်အောင် ဖြစ်လျက်ရှိ၏။

ထိုက်ယု၏စိတ်ထဲတွင်လည်း

“သူ့နှလုံးသားထဲမှာ ငါ့အတွက် နေရာရှိတာတော့ မှန်ပါရဲ့။ ဒါပေမယ့် ရွှေဆိုဘာကျောက်စိမ်းနဲ့မှုလိုက်တယ်လို့ ငါပြောတဲ့စကားကို သူ အလေးအနက်ထားပုံမရဘူး။ ငါ့ကိုသာ အလေးအနက်ထားနေပုံရတယ်။ တကယ်လို့ ငါက ဒီစကားကိုစလာယင်တောင်မှ ဒါတွေဟာ အရေးမကြီးဘူး၊ ငါ့ကိုပဲ သူစိတ်ဝင်စားတယ်ဆိုတဲ့စကားမျိုး ပြောသင့်တာပေါ့။ ဒါပေမယ့် ခုတော့ ရွှေနဲ့ကျောက်စိမ်းအကြောင်းကိုပြောယင်





သူ့မှာ ဖြစ်နေလိုက်ရတာ။ ဘာဖြစ်လို့ ဒီလောက်ဖြစ်နေရသလဲဆိုတော့ ငါ့ထက် အဲဒါတွေကို စိတ်ဝင်စားလို့ ဒီလောက်အဖြစ်သည်းနေတာပဲ ဖြစ်မှာပေါ့။ သူ ကျောက်စိမ်းနဲ့ရွှေကို စိတ်ဝင်စားနေတယ်ဆိုတာကို ငါရိပ်မိသွားမှာကို စိုးရိမ်နေပုံ ရတယ်။ ဒါကြောင့် သက်သက်မဲ့ ဟန်ဆောင်ပြီး စိတ်ထိခိုက်ယောင်လုပ်ပြနေတာပါ” ဟု တွေးလျက်ရှိ၏။

အမှန်အားဖြင့် သူတို့နှစ်ယောက်သည် တစ်စိတ်တည်း တစ်ဝမ်းတည်း ဖြစ်ကြသော်လည်း နှစ်ယောက်စလုံးမှာ အလွန်စိတ်ကြီးသူများ ဖြစ်သည့်အတွက် သူတို့နှစ်ယောက်မှာ စိတ်ကောက်ရသည့်အဖြစ်မျိုးနှင့် မကြာခဏ ကြုံကြရ၏။

“မလေးရယ်၊ မလေး ပျော်ပျော်ရွှင်ရွှင် နေတာကိုပဲ မောင် မြင်ချင်ပါတယ်။ မလေး ပျော်ရွှင်နေတယ်ဆိုယင် မောင့်အဖို့ လောကကြီးမှာ ဘာမှအရေးမကြီးတော့ပါဘူး။ မလေးသာ ပျော်မယ်ဆိုယင် မောင် ခုချက်ချင်း သေရမယ်ဆိုယင်လဲ ဝမ်းမြောက်ဝမ်းသာ သေရဲပါတယ်။ မောင် ဒီလိုသဘောထားတာကို မလေး သိချင်မှသိပေမယ့် မောင့်ရင်ထဲ အသည်းနှလုံးထဲမှာ မလေးနဲ့မောင်ဟာ အတူ ရှိနေတယ်ဆိုတာလောက်ကိုတော့ အနည်းဆုံး သိဖို့ ကောင်းပါတယ်” ဟု တစ်ယောက်တည်း ပြောနေမိ၏။

“မောင်ရယ်၊ မောင့်ကိုယ်မောင်ဂရုစိုက်ပါ။ မောင်ပျော်တယ်ဆိုယင် မလေးလဲ ပျော်တာပါပဲ။ မလေးအတွက် မောင် ဘာဖြစ်လို့ စိတ်အနှောင့်အယှက် ဖြစ်နေရတာလဲ။ မောင် စိတ်အနှောင့်အယှက် ဖြစ်တယ်ဆိုယင် မလေးလဲ စိတ်အနှောင့်အယှက် ဖြစ်ရတာပဲ ဆိုတာ မောင်သိဖို့ကောင်းပါတယ်။ မလေးကြောင့် မောင်စိတ်အနှောင့်အယှက် ဖြစ်ရတယ်ဆိုယင် မလေးနဲ့ မရင်းနှီးချင်ဘူး၊ မလေးနဲ့ ဝေးဝေးမှာ နေချင်တယ်ဆိုတဲ့သဘော မရောက်ပေဘူးလား” ဟု ထိုက်ယု စိတ်ထဲတွင်လည်း တွေးလျက်ရှိ၏။

သို့ဖြင့် သူတို့ နှစ်ယောက်သည် တစ်ယောက် အတွက် တစ်ယောက် စိုးရိမ်နေကြရာမှ ခပ်စိမ်းစိမ်းဖြစ်နေကြ၏။ သို့ရာတွင်သူတို့၏ အတွင်းစိတ်တွင် ဖြစ်ပျက် နေသည်တို့ကို ရေးပြရန်မှာ ခက်လှသည့်

အတွက် သူတို့နှစ်ယောက်၏ အပြုအမူများကိုသာ ဆက်လက် ဖော်ပြပေအံ့။

"ကိုယ်ချစ်သူနဲ့ လက်မထပ်ရမှာကို စိုးရိမ်နေတယ်မဟုတ်လား" ဟူသော ထိုက်ယု၏ ခနဲ့တဲ့တဲ့စကားကို ကြားလိုက်သည့် အခါတွင် ပေါက်ယုသည် အကြီးအကျယ် ဒေါပွသွားကာ စကားပင်မပြောနိုင်တော့ဘဲ လည်ပင်းတွင်ဆွဲထားသည့် ကျောက်စိမ်းတုံးကိုဖြုတ်၍ ကြမ်းပေါ်တွင် တအားကိုင်ပေါက်လိုက်၏။

ပေါက်ယုသည် အံကိုကြိတ်ကာ

"သွား၊ ဒီကျောက်စိမ်းတုံး ဂြိုဟ်မွှေတာ။ အလကားဟာ၊ ဒီလောက်တောင်ဖြစ်လှတယ်၊ အစိတ်စိတ်အမြွှာမြွှာဖြစ်အောင်ကို လုပ်ပစ်မယ်"

သို့ရာတွင် ကျောက်စိမ်းတုံးမှာ မာကျောသည့် အတွက် ဘာမျှမဖြစ်ချေ။ ပေါက်ယုသည် မကျေနပ်နိုင်သေးဘဲ ကြမ်းပေါ်တွင်ကျနေသည့် ကျောက်စိမ်းတုံးကလေးကိုရိုက်ခွဲရန် တစ်စုံတစ်ရာကို လိုက်ရှာလျက်ရှိ၏။ ထိုက်ယုမှာ ငိုနေလေပြီ။

"ဘာဖြစ်လို့ သက်မဲ့ပစ္စည်းကို အလကား ဖျက်ဆီးနေရတာလဲ မောင်ရယ်။ ဖျက်ဆီးချင်းဖျက်ဆီးယင် ထိုက်ယုကို အသေသတ်ပြီး ဖျက်ဆီးလိုက်ပါ"

အစေတော်များဖြစ်သည့် ဇူချွန်းနှင့် စွေ့ယင်တို့သည် သူတို့နှစ်ယောက် ရန်ဖြစ်နေကြသည်ကို ဖျန်ဖြေရန် ပြေးလာခဲ့၏။ ကျောက်စိမ်းတုံးအား တစ်စုံတစ်ခုဖြင့် ရိုက်ခွဲနေသည်ကို မြင်ရသည့် အခါတွင် သူတို့နှစ်ယောက်သည် ကျောက်စိမ်းတုံးကို ဝင်လုကြသော်လည်း လုရ၍မရဘဲ ဖြစ်လျက်ရှိ၏။ ယခုတစ်ခါရန်ပွဲမှာ အကြီးအကျယ်ဖြစ်ကြောင်းကိုသိရသည့်အတွက် မာလာကို ပြေး၍အကူအညီတောင်းရ၏။ မာလာရောက်လာပြီးလျှင် ကျောက်စိမ်းတုံးလေးကို ယူထားလိုက်၏။

"ပေးပါ။ ဘာဖြစ်လို့ယူရတာလဲ။ မောင့်ပစ္စည်း မောင့်ဘာသာမောင် ရိုက်ခွဲတာ မာလာတို့နဲ့ဘာဆိုင်လို့လဲ။ ပေး"ဟု ပေါက်ယုက အော်၏။





ပေါက်ယု ဤမျှစိတ်ဆိုးနေသည်ကို မာလာ တစ်ခါမျှ မမြင်ဖူးသေးချေ။ မာလာက ပေါက်ယုလက်ကို ဆွဲကိုင်လိုက်ရင်း လေသံအေးအေးဖြင့်

"ဘာမှတော့ မဆိုင်ပါဘူး သခင်လေးရယ်။ ဒါပေမယ့် သခင်လေးတို့နှစ်ယောက် ရန်ဖြစ်တာနဲ့ ဘာဖြစ်လို့ ဒီကျောက်စိမ်းတုံးကို ရိုက်ခွဲရမှာလဲ။ ဒီကျောက်စိမ်းတုံးကို သခင်လေး ရိုက်ခွဲပစ်လိုက်ယင် မလေး ဘယ်လောက်စိတ်ထိခိုက်မလဲဆိုတာ သခင်လေး စဉ်းစားကြည့်ပေါ့"

ထိုစကားကြောင့် ထိုက်ယုသည် စိတ်ထဲတွင် ကျေနပ်သွား၏။ သို့ရာတွင် ပေါက်ယုသည် သူ့စကားထက် မာလာ့စကားကို နားထောင်သည်ဟု တွေးမိလိုက်ပြန်သည့်အခါတွင်မူ စိတ်ထဲတွင်ပို၍ ဝမ်းနည်းလာပြန်ကာ ရှိုက်ကြီးတငင် ငိုကြွေးလျက်ရှိရာမှ အနီးတွင်ရှိသည့် သူသောက်နေသည့် ဆေးပုလင်းများကိုကောက်၍ လွှင့်ပစ်လျက်ရှိ၏။ ဇူချွန်းက လက်ကိုင်ပဝါတစ်ထည်ကိုယူလာကာ မျက်ရည်သုတ်ပေးပြီး စွေ့ယင်က ကျောကိုနှိပ်ပေးလျက်ရှိ၏။

ဇူချွန်းက

"မလေးရယ်၊ ဘယ်လောက်ပဲစိတ်ဆိုးဆိုး ကိုယ့်ကျန်းမာရေးကိုတော့ ဂရုစိုက်မှပေါ့။ ခု ဆေးတွေမှန်မှန်သောက်လို့ တော်တော်လေး နေထိုင်ကောင်းနေပြီမဟုတ်လား။ မလေး ခုလိုနေထိုင်မကောင်းတာလဲ သခင်လေးနဲ့ ခဏခဏရန်ဖြစ်နေလို့ ခုလိုနေထိုင်မကောင်းဖြစ်တာ မဟုတ်လား။ မလေး နေထိုင်မကောင်းဘူးဆိုယင် သခင်လေး ပေါက်ယုလဲ ဘယ်စိတ်ကောင်းပါ့မလဲ"

ထိုစကားကြောင့် ပေါက်ယုသည် ကျေနပ်သွား၏။ သို့ရာတွင် ထိုက်ယုသည် သူ့စကားထက် ဇူချွန်းစကားကို အလေးထားကြောင်း တွေ့ရသည့်အခါတွင် စိတ်ထဲတွင် ဗလောင်ဆူလာခဲ့ပြန်လေပြီ။ ယခုအချိန်၌ ထိုက်ယုမျက်နှာမှာ မျက်ရည်တို့စို့ရွဲလျက်ရှိပြီး မျက်ခွံတို့မှာလည်း မို့လျက်ရှိလေပြီ။ ရှိုက်ငိုလျက် ရှိခြင်း၊ ဆို့နင့်လျက်ရှိခြင်း၊ မျက်နှာတွင် ချွေးနှင့်မျက်ရည်တို့ စို့ရွဲလျက်ရှိခြင်းတို့ကြောင့် ထိုက်ယု

ကိုကြည့်ရသည်မှာ ဓါတ်တိုင်းထက်ပင် ချုံးကျကာ ဖျော့တော့လျက်ရှိ၏။ ပေါက်ယုသည် ထိုက်ယု၏ အခြေအနေကို ကြည့်ကာ သနားသွား၏။

"တော်ပြီ။ နောက် မလေးနဲ့ငါ ဘယ်တော့မှ ရန်မဖြစ်တော့ဘူး။ ဒီလို မျက်ရည်လည်ရွဲဖြစ်အောင် မလုပ်တော့ဘူး။ သူ့ကို ဒီလိုဖြစ်တာ ငါမကြည့်ရက်ဘူး" ဟု ကိုယ့်ကိုယ်ကိုအပြစ်တင်ရင်း မျက်ရည်တွေကျလာ၏။

သူတို့နှစ်ယောက် ရှိုက်ကြီးတငင် ငိုနေကြသည်ကို မြင်သည့်အခါ၌ မာလာမှာလည်း အကြီးအကျယ်စိတ်မကောင်းဖြစ်လျက်ရှိ၏။ မာလာသည် ပေါက်ယု၏လက်များကို စမ်းကြည့်လိုက်၏။ ပေါက်ယု၏လက်များမှာ ရေခဲကဲ့သို့ အေးစက်လျက်ရှိ၏။ မာလာသည်ပေါက်ယုကို မငိုရန် ပြောလိုက်ချင်၏။ သို့ရာတွင် ချုပ်တည်းထားရလျှင် ပိုဆိုးမည်ကိုသိသဖြင့် မပြောရက်ဘဲ ဖြစ်လျက်ရှိ၏။ ပေါက်ယုကိုချော့ပြန်လျှင်လည်း ထိုက်ယုကို စော်ကားသလို ဖြစ်နေမည်စိုးသည့်အတွက် အခက်ကြုံလျက်ရှိ၏။ မျက်ရည်များသည် သူတို့အားလုံး၏ စိတ်ကို တည်ငြိမ်သွားစေလိမ့်မည်ဟု တွေးမိသဖြင့် မာလာသည် သူတို့နှစ်ယောက်ကို ကြည့်၍ သနားသွားကာ ငိုနေမိ၏။

ထိုက်ယုကို မျက်ရည်သုတ်ပေးပြီး ယပ်ခတ်ပေးနေသည့် အစေတော် ဇူချွန်းမှာလည်း သူတို့သုံးယောက် တိတ်ဆိတ်စွာ ငိုနေသည်ကို မြင်လျှင် ခေတ်ကူးသွားကာ လက်ကိုင်ပဝါကို ထုတ်၍ မျက်လုံးကို သုတ်လျက် ရှိ၏။

သို့ဖြင့် သူတို့ လေးယောက်သည် တိတ်ဆိတ်စွာ ငိုနေကြစဉ် မာလာသည် အားယူ၍ပြုံးလိုက်ကာ ပေါက်ယုဘက်သို့လှည့်၍

"ကျောက်စိမ်းတုံးကို မနှမြောတောင်မှ ကျောက်စိမ်းတုံးမှာချည်ထားတဲ့ ပန်းပွားကိုထောက်ပြီး မလေးထိုက်ယုနဲ့ စကားမများပါနဲ့ သခင်လေးရယ်"

ထိုစကားကြောင့် စောစောက ထိုက်ယုရင်ထဲတွင် အော်ဂလီဆန်နေသည်တို့ ပျောက်သွားကာ ထိုက်ယုသည် ဖြုန်းခနဲထလိုက်ပြီးနောက်





ပန်းပွားကိုဖြတ်ပစ်ရန် ကတ်ကြေးကိုပြေးယူ၏။ မာလာနှင့်ဇူချွန်းတို့က တားသော်လည်း မမီလိုက်တော့ချေ။

"ဒီပန်းပွားက ထိုက်ယုထိုးပေးထားတဲ့ ပန်းပွား။ ဘာခ အဖိုးတန်လို့လဲ။ သူကလဲ ဒီပန်းပွားလောက်ကို တန်ဖိုးထားတာ မဟုတ်ပါဘူး။ ဘယ်သူ့ကို သွားအထိုးခိုင်းခိုင်း ဒီထက်ကောင်းတဲ့ ပန်းပွားတော့ ရမှာပါ"

မာလာသည် ထိုက်ယု လက်မှ ကျောက်စိမ်းတုံးကို ဖျတ်ခနဲလှမ်းယူလိုက်၏။

"မလုပ်ပါနဲ့ မလေးရယ်၊ ကျွန်မ အပြစ်ပါ။ ကျွန်မကိုက အငြိမ်မနေနိုင်ဘဲ သွားပြောလိုက်မိတာ။ ကျွန်မသာ မပြောယင် ဘာမှဖြစ်မှာ မဟုတ်ဘူး"

"ဖြတ်ပစ်လိုက်ပါ၊ ဒီပန်းပွားကို မလေး ကြိုက်သလို လုပ်ပါ။ ပန်းပွားတွင် မကဘူး၊ မလေး ကြိုက်တာကို လုပ်ပါ။ မောင်လဲ ဒီကျောက်စိမ်းတုံးကို ဆွဲတော့မှာ မဟုတ်ပါဘူး"

သူတို့ ရန်ဖြစ်နေကြစဉ် အစေတော် တစ်ယောက်သည် သူတို့အကြောင်းကို မယ်မယ်နှင့် သခင်မဝမ်ကို သွား၍ပြော၏။ ထိုက်ယုက ငိုသည်ရော၊ အန်သည်ရော ဖြစ်နေပြီး ပေါက်ယုကလည်း ကျောက်စိမ်းတုံးကို ခွဲမည်တကဲကဲလုပ်လျက်ရှိသည်တွင် သူတို့အပေါ်သို့ တာဝန်ကျမည်စိုးသဖြင့် သွားပြောခြင်း ဖြစ်၏။ သူတို့ ပျာယီးပျာယာ လာပြောသည့်အခါတွင် မယ်မယ်နှင့် သခင်မ ဝမ် တို့လည်း အထိတ်ထိတ်အလန့်လန့်ဖြင့် ဥယျာဉ်ထဲသို့ လိုက်လာခဲ့ကြ၏။ မာလာမှာ ထိတ်လန့်လျက် ရှိကာ ဇူချွန်းကို အပြစ်တင်လျက်ရှိပြီး ဇူချွန်းကလည်း မာလာကို အပြစ်တင်လျက်ရှိ၏။

မယ်မယ်နှင့် သခင်မဝမ်တို့ရောက်လာကြ၍ ထိုက်ယုနှင့် ပေါက်ယုတို့ ငြိမ်ငြိမ်သက်သက်ဖြစ်နေသည်ကို တွေ့သည့်အခါတွင် ဘာမျှကြီးကြီးကျယ်ကျယ် မဟုတ်ကြောင်း သိရသည့် အတွက် သူတို့နှစ်ယောက်၏ တာဝန်ခံ အစေတော်များကို ဆူပူ ကြိမ်းမောင်းလျက် ရှိကြလေ၏။

"ကောင်မတွေကိုက ကောင်းကောင်းဂရုမစိုက်ကြဘဲကိုး။ သူတို့ ရန်ဖြစ်တော့ ညည်းတို့ ဘာမှ မလုပ်တတ်တော့ဘူးလားဟင်။ မဖျန် တတ်တော့ဘူးလား"

အစေတော်နှစ်ယောက်သည် ဆူပူကြိမ်းမောင်းသမျှကို ခေါင်း ငုံ့၍ နားထောင်နေကြ၏။ မယ်မယ်က ပေါက်ယုံကိုပြန်ခေါ်သွားသည့် အတွက် ရန်ပွဲမှာလည်း ပြီးသွား၏။

နောက်တစ်နေ့ဖြစ်သည့် လဆန်း သုံးရက် နေ့ မှစ ဆွေ့ဖန်၏ မွေးနေ့ဖြစ်လေ၏။ ကျီဆွဲမျိုးစုအားလုံးကို စားသောက်ပွဲနှင့်ဇာတ်ပွဲသို့ ဖိတ်ထား၏။ ပေါက်ယုမှာ ရန်ဖြစ်ပြီးနောက် ထိုက်ယုနှင့် တစ်ခါမျှ မတွေ့တော့ချေ။ ပေါက်ယုသည် ဘယ်ကိုမျှလည်း မသွားချင်မလာချင် တော့ဘဲ ထိုက်ယုနှင့်စကားများမိသည့်အတွက် စိတ်မကောင်းဖြစ်လျက် ရှိ၏။ ထို့ကြောင့် ပေါက်ယုသည် နေထိုင်မကောင်းဟု အကြောင်းပြ ကာ မွေးနေ့သို့ မလိုက်တော့ချေ။

ထိုက်ယုမှာ အကြီးအကျယ် နေထိုင်မကောင်းခြင်း မဟုတ်ဘဲ အပူလျှပ်ရုံမျှသာ ဖြစ်၏။ ဆွေ့ဖန်၏ မွေး နေ့ ညှော် ခံ ပွဲ သို့ ပေါက်ယု မလိုက်ဟု ကြားရသည့်အခါ "တကယ်တော့ မောင်လေးပေါက်ယုဟာ ပျော်ပွဲရှင်ပွဲတွေကို သိပ်ကြိုက်တာ။ ဒီနေ့ မွေးနေ့ညှော်ခံပွဲကို သူမသွား ဘူးဆိုယင် မနေ့ကဖြစ်တဲ့ကိစ္စကြောင့် စိတ်မကောင်းလို့ယင်လဲ ဖြစ်ရ မယ်။ ဒါမှမဟုတ် ငါမသွားဘူးဆိုတာကို သိလို့ယင်လဲ ဖြစ်ရမယ်"ဟု ထိုက်ယု တွေးလျက်ရှိ၏။ "ဟုတ်တယ်၊ ကျောက်စိမ်းတုံးမှာဆွဲထားတဲ့ ပန်းပွားကို ငါကတ်ကြေးနဲ့ ကိုက်ပစ်ဖို့ မကောင်းဘူး။ နောက်ထပ် ငါ ပန်းပွားတစ်ခု အသစ်ထိုးမပေးယင် သူ ဒီကျောက်စိမ်းတုံးကို ဆွဲ တော့မှာ မဟုတ်တော့ဘူး"ဟု ထိုက်ယု တွေးလျက်ရှိ၏။

သို့ဖြင့် ထိုက်ယုမှာလည်း သူ့အပြစ်ကိုသူမြင်ကာ စိတ်မကောင်း ဖြစ်လျက်ရှိ၏။

သူတို့နှစ်ယောက်ကို ဇာတ်ပွဲသို့ခေါ်သွားလျှင် ပြန်၍သင့်မြတ် သွားကြလိမ့်မည်ဟု မယ်မယ် မျှော်လင့်ခဲ့၏။ သို့ရာတွင် သူတို့နှစ်ယောက်





စလုံးက မလိုက်တော့ဟု ငြင်းလိုက်သည့်အခါ၌ မယ်မယ်သည် ကြံရာ မရ ဖြစ်လျက်ရှိ၏။

"ဒီလေဧက်စိတ်ကြီးတဲ့ ကလေးနှစ်ယောက်ကို သံ ယော ဇဉ် တွယ်မိတာဟာ ငါ့အဖို့ အကုသိုလ်ဝင်တာ။ အ ယင် ဘ ဝ တုန်း က ဘယ်လို အကုသိုလ်တွေများ လုပ်ခဲ့လို့လဲမသိဘူး"ဟု မယ်မယ်သည် တစ်ယောက်တည်း ညည်းလျက်ရှိ၏။ "ခုဆို ငါ့မှာ သူတို့နှစ်ယောက် အတွက်ပဲ နေ့စဉ်နှင့်အမျှ သောကရောက်နေရတယ်။ 'အချစ်ကြီးတော့ အမျက်ကြီး' ဆိုတဲ့ စကားဟာ တယ်ပြီးမှန်ပေတာပဲ။ ငါ မျက်စိမှိတ် သွားတဲ့နောက်တော့ သူတို့ဘာသာသူတို့ ဖြစ်ချင်သလောက် ဖြစ်ကြ စမ်းပါစေ။ ငါ့မျက်စိရှေ့တွင်တော့ သူတို့နှစ်ယောက် ဒီလိုတကျက်ကျက် ဖြစ်နေတာကို မမြင်ချင်ဘူး။ မျက်စိမှာ မမြင်ရယင် စိတ်လဲ ဆင်းရဲစရာ မလိုတော့ဘူး။ ငါကလဲ သေပဲမသေနိုင်ဘူး"ဟု မယ်မယ်သည် တစ် ယောက်တည်း ညည်းလျက်ရှိလေ၏။

ထိုသို့ မယ်မယ် ညည်းကြောင်းကို ထိုက်ယုနှင့် ပေါက်တို့နားသို့ ရောက်လျှင် သူတို့နှစ်ယောက်သည် ထိုစကားပုံကို ယခုမှကြားဖူးကြ သည့်အလျောက် သူတို့ခေါင်းထဲတွင် အသိဉာဏ် လက်ခနဲ ပြက်လာခဲ့ လေပြီ။ သူတို့နှစ်ယောက်သည် ခေါင်းငုံ့ကာ ထိုစကားပုံ၏ အဓိပ္ပာယ် ကို စဉ်းစားရင်း မျက်ရည်မဆည်နိုင်အောင်ဖြစ်လျက်ရှိကြ၏။ မှန်ပေ၏။ သူတို့နှစ်ယောက်သည် ယခုအချိန်အထိ ခွဲခွာနေကြရဆဲ ဖြစ်၏။ တစ် ယောက်က ဝေဠုဝန်ရိပ်သာ၌ တသုန်သုန်တိုက်သည့် လေညင်းထဲတွင် ငိုယိုလျက်ရှိပြီး တစ်ယောက်က နီမောင်းပျော်ဖွယ်ရိပ်သာဧပေါ်မှ လပြည့် ဝန်းကို ကြည့်၍ သက်ပြင်းချလျက်ရှိ၏။ သို့ရာတွင် နှလုံးသားထဲတွင်မူ သူတို့နှစ်ယောက်သည် လူတစ်ယောက်တည်းကဲ့သို့ ဖြစ်လျက်ရှိ၏။

မာလာကလည်း ပေါက်ယုကို အပြစ်တင်လျက်ရှိ၏။

"ခုလိုဖြစ်ရတာဟာ သခင်လေးရဲ့အပြစ်ပဲ။ ညီမတွေ အစ်မ တွေနဲ့ ရန်ဖြစ်တတ်တဲ့ သူငယ်ချင်းတွေ၊ ကိုယ့်မိန်းမနဲ့ ရန်ဖြစ်တတ်တဲ့ သူငယ်ချင်းတွေကို မိန်းမလေးတွေရဲ့စိတ်ကို နားမလည်ရကောင်းလား ဆိုပြီး သခင်လေး မကြာမကြာ အပြစ်တင်ဖူးတယ်မဟုတ်လား။ ခုတော့

တော သခင်လေးလဲ သူတို့နဲ့ဘာထူးသေးသလဲ။ သန်ဘက်ခါလဆန်း ငါးရက်နေ့ဆိုယင် နဂါးလှေပွဲတော်နေ့ ရောက်တော့မယ်။ သခင်လေးတို့နှစ်ယောက်က ဒီလိုရန်တစောင်စောင် လုပ်နေကြယင် မယ်မယ်တို့လဲ စိတ်ဆိုးမယ်၊ တခြားလူတွေလဲ စိတ်ညစ်ရမယ်။ ဒီတော့ ကိုယ့်ကိုယ်ကို ထိန်းပြီး သခင်လေးကပဲ မလေးကို သွားတောင်းပန်လိုက်ပါ။ ပြီးတာ ပြီးပါစေတော့။ ဒီလိုဆိုယင် နှစ်ယောက်စလုံးအတွက် မကောင်းဘူးလား''

သူ့အကြံပေးချက်အား ပေါက်ယု လက်ခံမခံကိုမူ နောက်တစ်ခန်းတွင် ကြည့်ပါလေ။

PDF CREATOR - NYEYADHAMMA@GMAIL.COM

紅樓夢

# မြသန်းတင့်
# ခန်းဆောင်နီအိပ်မက်

# A DREAM OF RED MANSIONS

TSAO HSUEH CHIN
& KAO NGO

(ဒုတိယတွဲ)



အတွဲ ၊၂၊



မြသန်းတင့်
ခန်းဆောင်နီအိပ်မက်

(ဒုတိယတွဲ)

